

အရုဏ်ကောင်းကင်
စာအုပ် (၈)

# မောင်ထွန်းသူ

## ကြောက်စရာ့ရောမ

ဓေဏရေးဗြီးယားဝတ္ထုတိုများ

မာတိကာသို့

ပုံနှိပ်မှတ်တမ်း

စာမူခွင့်ပြုချက်အမှတ် - ၅၈/၉၉ (၁)

မျက်နှာဖုံးခွင့်ပြုချက်အမှတ် - ၁၂၁/၉၉ (၂)



ပုံနှိပ်ခြင်း

အုပ်ရေ - ၁၀၀၀

ပထမအကြိမ်၊ ၁၉၉၉၊ ဖေဖော်ဝါရီ



မျက်နှာဖုံးရိုက်သူ

ဦးမင်းဟန် (၀၄၁၅၄)၊ မင်္ဂလာသောင်းပုံနှိပ်တိုက်

အမှတ် ၇၅၊ ၄၃ လမ်း၊ ဗိုလ်တထောင်၊ ရန်ကုန်။



အတွင်းပုံနှိပ်သူ

ဦးတင်အောင်ဝင်း (၀၃၃၀၉)၊ ညိုးရာဇာ ပုံနှိပ်တိုက်

အမှတ် ၁၆၂၊ ၄၅ လမ်း၊ ရန်ကုန်။



ထုတ်ဝေသူ

ဦးကြည်ဝင်း (၀၁၀၂၉)၊ ဝင်းစာပေ

အမှတ် ၂၁၊ ဒါနလမ်း၊ သာယာကုန်း

မင်္ဂလာတောင်ညွန့်၊ ရန်ကုန်။



ကွန်ပျူတာစာစီ

ကိုရွှေဝင်းမောင်



မျက်နှာဖုံးဒီဇိုင်း

ကျော်ခိုင်



တန်ဖိုး

၁၇၅ - ကျပ်

မာတိကာသို့ ▸▸

# မောင်ထွန်းသူ

အမည်ရင်း ဦးတင်ထွန်းဖြစ်။ ဦးဖေတင်၊ ဒေါ်ဖြူတို့မှ ၁၉၃၁ ခုနှစ် ဒီဇင်ဘာလတွင် ရမည်းသင်းခရိုင်၊ ပျော်ဘွယ်မြို့၌ မွေးဖွားခဲ့။ ပျော်ဘွယ်၊ ရမည်းသင်းနှင့် ပျဉ်းမနားမြို့များရှိ အမျိုးသားအထက်တန်းကျောင်းနှင့် အစိုးရတန်းမြင့်ကျောင်းများ၌ ပညာသင်ကြားခဲ့။ ၁၉၅၅ ခုနှစ်တွင် ရန်ကုန်တက္ကသိုလ်မှ ဝိဇ္ဇာဘွဲ့ရရှိခဲ့ပြီး ၁၉၅၅ ခုနှစ်မှ ၁၉၅၈ ခုနှစ်အထိ စင်ကာပူနိုင်ငံရှိ မာလာယုတက္ကသိုလ် (University of Malayu) ၌ ပညာသင်ကြားခဲ့။ ၁၉၅၈ ခုနှစ်တွင် မာလာယုတက္ကသိုလ်မှ လူမှုသိပ္ပံ ဒီပလိုမာဘွဲ့ ရရှိခဲ့။

၁၉၅၈ ခုနှစ်မှ ၁၉၈၃ ခုနှစ်အတွင်း လူမှုဝန်ထမ်းဌာန၊ ပြန်ကြားရေးဌာန၊ အထူးစုံစမ်း စစ်ဆေးရေးဌာနတို့၌ အစိုးရအရာရှိအဖြစ် တာဝန် ထမ်းဆောင်ခဲ့။ ၁၉၇၅ ခုနှစ်တွင် ကမ္ဘာ့ကုလသမဂ္ဂ လူ့အခွင့်အရေးဆိုင်ရာ ပညာသင်ဆု ရရှိခဲ့သဖြင့် အမေရိကန်ပြည်ထောင်စုသို့ သွားရောက်ကာ လူမှုသိပ္ပံသင်တန်းများ တက်ခဲ့။ ၁၉၈၃ ခုနှစ်တွင် ဝန်ထမ်းဘဝမှ အငြိမ်းစားယူခဲ့။

အထက်တန်းကျောင်းသားဘဝကတည်းက စာတိုပေစများ ရေးသားခဲ့၊ ၁၉၆၂ ခုနှစ်တွင် မောင်ထွန်းသူ၊ ထွန်းနိုင်ဦး၊ ဉာဏလုပ်သားတစ်ဦး စသော ကလောင်အမည်များဖြင့် ဆောင်းပါး၊ ဝတ္ထုတိုများ စတင်ရေးသားခြင်းဖြင့် စာပေနယ်တွင်းသို့ ဝင်ရောက်ခဲ့။

ယနေ့အချိန်ထိ လုံးချင်းဘာသာပြန် ဝတ္ထုပေါင်း ခုနစ်ဆယ်ကျော်မျှ ထွက်ခဲ့ပြီးဖြစ်။ ယင်းတို့အနက် 'တောင်ပံမဲ့သည့် ငှက်ငယ်များ (ပင်ကို)၊ ရဲတိုက်၊ ကင်မီလီ၊ တက်စ်၊ သံမဏိကြက်ခြေ၊ ဒေါသမာန်၊ တို့ပိုင်တဲ့မြေ၊ တို့ဘဝ တို့ကမ္ဘာ၊ သစ္စာရှင်၊ နှစ်ဓလောက၊ ဇာစ်မြစ်၊ နောက်ဆုံးမြေ၊ တော်လ်စတွိုင်း ဝတ္ထုတိုများနှင့် ဆိုင်ဂုံ' စသည့် စာအုပ်များ ထင်ရှားခဲ့။ ပထမဆုံး ဘာသာပြန်ဝတ္ထု 'ရဲတိုက်' ဖြင့် ၁၉၈၃ ခုနှစ်၊ အမျိုးသားစာပေ (ဘာသာပြန်ရသ) ဆု ရရှိခဲ့။

၁၉၈၃ ခုနှစ်မှ စတင်၍ စာပေလောကတွင်းသို့ လုံးဝ ဝင်ရောက်လာခဲ့သော မောင်ထွန်းသူသည် ယခုအချိန်ထိ စာပေများကို ရေးသားပြုစုနေဆဲ။

■

မာတိကာသို့ ▸▸

အရုဏ်ကောင်းကင်စာအုပ် (၈)

# ကြောက်စရာ့ ရောဂ

## မော်ရေးဗီးယား ဝတ္ထုတိုများ

မောင်ထွန်းသူ



အရုဏ်ကောင်းကင် စာအုပ်တိုက်
အမှတ် ၄၄၊ ၈၇ လမ်း၊ ကန်တော်ကလေး၊
မင်္ဂလာတောင်ညွန့်၊ ရန်ကုန်။
ဖုန်း - ၂၈၇၄၃၁။

# မာတိကာ





## မြန်မာပြန်သူ၏ အမှာ

၁

အီတလီဘာသာဖြင့် ထုတ်ဝေခဲ့သော ဤဝတ္ထုတိုပေါင်းချုပ်၏ မူရင်းအမည်မှာ Raconit ramani ဖြစ်သည်။ ယင်းဝတ္ထုတိုပေါင်းချုပ်ထဲမှ သူနှစ်သက်ရာ ကောင်းနိုးရာရာများကို အီတလီဘာသာမှ အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုသည့်အခါ ဘာသာပြန်ဆရာ အင်းဂပ်စ်ဒေးဗစ်ဆန် (Angus Davidson) က Roman Tales ဟု အမည်ပေးခဲ့၏။ 'ရိုမင်ပုံပြင်များသို့မဟုတ် ရောမပုံပြင်များ' ဟု ဆိုလျှင် ရနိုင်အံ့ထင်ပါသည်။



မာတိကာသို့ ▶▶

သို့သော်လည်း ယခု မြန်မာပြန်သူကမူ အချိန်အခါနှင့် အခြေအနေကို ကြည့်၍ 'မော်ရေးဗီးယားဝတ္ထုတိုများ' ဟု အမည်ပေးထားပါသည်။ အမှန်တော့လည်း ဤဝတ္ထုတိုအားလုံးသည် ကမ္ဘာသိ အီတလီ စာရေးဆရာကြီး အယ်လ်ဘာတို မော်ရေးဗီးယား၏ လက်ရာများချည်း ဖြစ်ရုံမျှမက အားလုံးလိုလိုသည် အသောအထွေနှင့် ရယ်စရာမောစရာဟာသကွက်များကို အသားပေးထားသော ဝတ္ထုတိုများချည်း ဖြစ်ပါသည်။ ထို့ကြောင့်လည်း ယခု မြန်မာပြန်သူ ပေးထားသော အမည်သည် သင့်တော်ဆီလျော်လိမ့်မည်ဟု ယူဆပါ၏။

၂

ဤဝတ္ထုတိုပေါင်းချုပ်၏ မူရင်း ဖြစ်သော Roman Tales တွင် ဝတ္ထုတိုစုစုပေါင်း ၂၇ပုဒ် တိတိပါသည်။ ယခု မြန်မာပြန်ထားသည့် 'မော်ရေးဗီးယားဝတ္ထုတိုများ' တွင်မူ ၁၁ပုဒ်ပါဝင်ပါသည်။ ကျန်အပုဒ်များကိုမူ အကြောင်းအမျိုးမျိုးကြောင့် ထည့်သွင်းခြင်း မပြုတော့ဘဲချန် လှပ်ထားခဲ့ပါသည်။ အကြောင်းအမျိုးမျိုးထဲတွင် မြန်မာစာဖတ်ပရိသတ် နှစ်သက်လက်ခံကြလိမ့်မည်မဟုတ်ဟူသော ထင်မြင်ယူဆချက်သည် အဓိက ဖြစ်ပါသည်။

ဤနေရာတွင် မူရင်း Roman Tales စာအုပ်ကို ဖြစ်ပေါ်စေခဲ့သူ အင်ဂလိပ်စ်ဒေဗစ်ဆန်၏ အဆိုတစ်ခုကို တင်ပြလိုပါသည်။ သူက သူ၏ အမှာစာတွင် 'ဤဝတ္ထုတိုများကို ရွေးချယ်ရာ၌ ကျွန်ုပ်၏ နှစ်သက်မှုတစ်ခု

တည်းကိုသာမက အင်္ဂလိပ်စာဖတ်ပရိသတ်နှင့် အဆင်ပြေမှုကိုပါ ဦးစား ပေး၍ ရွေးချယ်ထားခြင်း ဖြစ်ပါသည်'ဟု ရေးသားထားပါသည်။ ယခု ဤဝတ္ထုတိုများကို မြန်မာဘာသာသို့ ပြန်ဆိုရာ၌လည်းမြန်မာပြန်သူသည် မြန်မာစာဖတ်ပရိသတ်နှင့် အဆင်ပြေမှုရှိနိုင်၊ မရှိနိုင်ကို အဓိကထား၍ ရွေးချယ်ခဲ့ပါသည်။

မော်ရေးဗီးယား၏ ဝတ္ထုတိုများသည် အသောအထေ့နှင့် ဟာသကို ဦးစားပေးသော ဝတ္ထုတိုများ ဖြစ်ပါသည်။ အထူးသဖြင့် အီတလီနိုင်ငံ ၏ မြို့တော် ရောမမြို့ပေါ်မှ အလုပ်သမားလူတန်းစား၊ဆင်းရဲသားများ၏ ဘဝကို ရေးဖွဲ့ထားခြင်းဖြစ်ရာ ယင်းလူတန်းစား၏ ရယ်စရာဘဝကိုသာ မက သနားစရာဘဝကိုပါ မြင်သာအောင် ဖွဲ့ဆိုထားသော ဝတ္ထုတိုများ ဖြစ်ပါသည်။ ဤအတွက်ကြောင့်လည်း ဝတ္ထုတိုအများစုသည် ပြုံးရရွှင်ရ ရယ်မောရသော်လည်း အချို့မှာမူ သနားစရာနှင့် တရားကျစရာများကို သာ တွေ့ရတတ်ပါသည်။

၃

အယ်လ်ဘာတိုမော်ရေးဗီးယားသည် ၁၉၀၇ခုနှစ်တွင် အီတလီနိုင်ငံ၊ ရောမမြို့၌ မွေးဖွားခဲ့သော ဗိသုကာတစ်ဦး၏ သားဖြစ်သည်။ အသက် ကိုးနှစ်သားမှ အသက်နှစ်ဆယ်အရွယ်ထိ အချိန်ကာလသည် ကျန်းမာရေး ချို့တဲ့မှုဒဏ်ကို အဆက်မပြတ်ခံနေရသော အချိန်ကာလဖြစ်သည်။ မည်သို့ ပင်ဖြစ်စေ ဖခင်ဖြစ်သူ၏ မေတ္တာ၊ စေတနာနှင့် အမြော်အမြင်ကြီးမှု

ကြောင့် မော်ရေးဗီးယားသည် ငယ်ရွယ်စဉ်ကတည်းက စာပေနှင့် အထိအတွေ့များခဲ့သည်။ ပြင်သစ်၊ ဂျာမန်နှင့် အင်္ဂလိပ်ဘာသာများကိုလည်း သင်ကြားခွင့် ရခဲ့သည်။

သူ့အသက် တစ်ဆယ့်ရှစ်နှစ်အရွယ်၊ ၁၉၂၅ခုနှစ်တွင် မော်ရေးဗီးယားသည် 'လာ စတင်ပါနှင့် လာဂေဇက်တို ဒယ်လ်ပေါ့ပိုလို သတင်းစာများ' ၏ နိုင်ငံခြားသတင်းထောက်အလုပ်ဖြင့် အင်္ဂလန်နိုင်ငံ၊ လန်ဒန်မြို့တော်နှင့် ပြင်သစ်နိုင်ငံ၊ ပါရီမြို့တော်၌ နေထိုင်ခဲ့ရ၏။ ထိုအချိန်တွင် သူသည် ဝတ္ထုရှည်တစ်ပုဒ်ကို စတင်ရေးသားနေခဲ့လေပြီ။

ထိုစဉ်ကတည်းက လွတ်လပ်စွာ တွေးခေါ်မြော်မြင်မှု၏ အနှစ်သာရကို များစွာ အလေးအနက်ပြုခဲ့သော မော်ရေးဗီးယားသည် အီတလီနိုင်ငံအား ဖက်ဆစ်အာဏာရှင် မူဆိုလီနီအုပ်ချုပ်နေချိန်တွင် များစွာ စိတ်ဆင်းရဲခဲ့ရသည်။ လွတ်လပ်စွာတွေး၍ လွပ်လပ်စွာ စာရေးခွင့်မရခဲ့သော မော်ရေးဗီးယား၏ဘဝသည် များစွာ အနေကျဉ်းခဲ့ရသည်။ ဖက်ဆစ်မူဆိုလီနီ၏ လက်အောက်တွင် သူ၏ စာအုပ်များကို ပုံနှိပ်ထုတ်ဝေခွင့်မပြုဘဲ ပိတ်ပင်တားဆီးခဲ့သည်။ ဤသို့ဖြင့် သူသည် စာပေကို ကလောင်နာမည်ဝှက်ဖြင့် ရေးသားခဲ့ရလေသည်။

အီတလီနိုင်ငံတွင်းသို့ ဂျာမန်များ ဝင်ရောက်သိမ်းပိုက်လိုက်သည့်အချိန်တွင်မူ မော်ရေးဗီးယားသည် ရောမမြို့၌ မနေနိုင်တော့ဘဲ ရောမနှင့် များစွာ အလှမ်းဝေးသည့် တောင်တန်းကြီးများဆီသို့ သွားရောက်ကာ ပုန်း

အောင်းနေခဲ့ရသည်။ ဤကာလအတွင်းတွင် သူသည် စာအုပ်များ ရေးသား ခြင်း၊ ဖက်ဆစ်ဝါဒဆန့်ကျင်ရေးဆိုင်ရာ ဆောင်းပါးဝတ္ထုများရေးခြင်း ဖြင့် အချိန်ကုန်ခဲ့၏။ ၁၉၄၄ခုနှစ် မေလတွင် အီတလီနိုင်ငံသည် ဖက်ဆစ်ဂျာမန်တို့လက်အောက်မှ လွတ်မြောက်ခဲ့ရသည်။ ထိုအခါကျမှပင် မော်ရေးဗီးယားသည် ရောမမြို့သို့ ပြန်လည်ရောက်ရှိလာခဲ့ရလေ၏။

၄

အယ်လ်ဘာတို မော်ရေးဗီးယားသည် စာရေးဆရာဘဝဖြင့် ပထမဦးစွာ ရောမမြို့၌ နေထိုင်သည်။ ထို့နောက် ကက်ပရီကျွန်းပေါ်၌ သွားရောက် နေထိုင်ခဲ့၏။ အီတလီစာပေလောကတွင် ရှေ့ဆောင်လမ်းပြ စာရေး ဆရာတစ်ဦးအဖြစ် စာပေပညာရှင်များကရော စာဖတ်ပရိသတ်များကပါ အသိအမှတ်ပြုကြသည်။ သူရေးသားခဲ့သည့် စာအုပ်များထဲတွင် The Fancy Dress Party, The Woman of Rome, Two Adolescents, Conjugal Love, The Conformist, A Ghost At Noon, Roman Tales, The Time of Indifference, Bitler Honeymoon, Two Woman နှင့် The Way ward wife' ဝတ္ထုများသည် များစွာ ထင်ရှားကျော်ကြားခဲ့၏။

မော်ရေးဗီးယား၏ The Fancy Dress Party ဝတ္ထုသည် ဖက်ဆစ် အာဏာရှင် မူဆိုလီနီ၏ အမုန်းဆုံး ဖြစ်ခဲ့သည်။ ထိုဝတ္ထုသည် ဖက်ဆစ် ဝါဒကို သရော်ရာ၌ အထိရောက်ဆုံး ဝတ္ထုတစ်ပုဒ်အဖြစ် ထင်ရှား ကျော်ကြားခဲ့သည်။ သူ့ဝတ္ထုများထဲတွင် ရောမမြို့ပေါ်မှ ပြည့်တန်ဆာတစ် ယောက်အကြောင်းကို ရေးဖွဲ့ထားသည့် 'ရောမမြို့က မိန်းမပျက်' (The

Woman of Rome)သည် လူကြိုက်များခဲ့သည်။ မိန်းမနှစ်ယောက် (Two Women)ဝတ္ထုမှာလည်း အလွန်ကျော်ကြားပြီး လူကြိုက်များသော စာအုပ်တစ်အုပ်ဖြစ်ခဲ့သည်။ ယင်းဝတ္ထုများကို ရုပ်ရှင်ရိုက်ကူး၍ ပြသခဲ့ရာ၌လည်း ကမ္ဘာကျော် ဂန္ထဝင်ရုပ်ရှင်ကားများအဖြစ်သို့ ရောက်ရှိခဲ့လေသည်။

အယ်လ်ဘာတိုမော်ရေးဗီးယားသည် ဝတ္ထုတိုဝတ္ထုရှည်များရေးရာ၌ သူ့ဇာတ်ကောင်များကို လက်လုပ်လက်စားဆင်းရဲသားများအဖြစ် ရှေ့တန်းတင်တတ်သည်။ ယင်းတို့အား ရှေ့တန်းတင်ရာ၌လည်း ယင်းတို့၏ စိတ်ပိုင်းဆိုင်ရာ ဖွဲ့စည်းဖြစ်ပေါ်မှုများကို အလေးအနက် ပြုတတ်သည်။ ဤအတွက်ကြောင့်လည်း သူ့ဇာတ်ကောင်များ၏ အကျင့်စရိုက်များသည် ပီပြင်သည်၊ အသက်ဝင်သည်။ သူ့ဇာတ်ကောင်များ၏ စိတ်နေစိတ်ထားများသည် လူနှင့် အလွန်တူသည်ဟု ဆိုကြသည်။

မည်သို့ပင်ဖြစ်စေ အယ်လ်ဘာတိုမော်ရေးဗီးယား၏ ဝတ္ထုများသည် လူကြိုက်များသည်မှာမှန်သော်လည်း ရေးနည်းရေးဟန်နှင့်ပတ်သက်၍မူကား စာပေပညာရှင်များက ဝေဖန်ကြသည်။ အထူးသဖြင့် မော်ရေးဗီးယားသည် သူ၏ ဝတ္ထုတို၊ ဝတ္ထုရှည်များကို ရေးရာ၌ သူရွေးချယ်ထားသည့် ဇာတ်ကောင်က သူ့အကြောင်း ပြန်ပြောသည့်ဟန်ဖြင့် ရေးလေ့ရှိသည်။ သဒ္ဒါနည်းအရ ပြောရလျှင် 'ကျွန်ုပ်၊ ကျွန်တော်၊ ကျုပ်၊ ကျွန်မ၊ ငါ' စသည့် 'အမှကာရက'ကို အသုံးပြု၍ ရေးလေ့ရှိ၏။ အချို့သော စာပေဝေဖန်ရေးဆရာများကမူ ထိုအချက်ကိုပင် အားနည်းချက်တစ်ခု အဖြစ် မြင်ကြသည်။

ယင်း ဝေဖန်မှုနှင့်ပတ်သက်၍ 'ရောမမြို့မှ မိန်းမပျက်' (The Woman of Rome) ဝတ္ထုအမှာစာတွင် အယ်လ်ဘာတို မော်ရေးဗီးယားက 'ကျွန်တော်၏ လာရိုမင်နာ (La Romana) ဝတ္ထုကို ဖတ်ကြရသည့် စာဖတ်ပရိသတ်အချို့က ရိုးရိုးအအ ပညာမဲ့ပြည့်တန်ဆာမတစ်ယောက်က သူ့ဇာတ်ကြောင်းကိုပြောပြရာ၌ ကျွန်တော်ရေးထားသည့် ပုံစံအတိုင်း ဟန်အတိုင်း ပြောနိုင်ပါမည်လောဟု သံသယဝင်နေကြပါသည်။ ယင်း သံသယနှင့်ပတ်သက်၍ ကျွန်တော်ဖန်တီးရယူထားသော ဇာတ်ကောင်၏ အတ္ထုပ္ပတ္တိဇာတ်လမ်းသည် ကျွန်တော်၏ စိတ်ကူးယဉ်မှုမှ ပေါက်ဖွားလာခဲ့ခြင်းဖြစ်ပါသည်။ ယင်းကို ပြန်ပြောင်းပြောပြရာ၌ တခမ်းတနားတစ်ဖွဲ့တစ်နွဲ့ မပြောဘဲ သူ့ဘဝနှင့် ဆီလျော်အောင် သူ့ရင်ထဲ၌ ခံစားရသည့်အတိုင်း ယဉ်ကျေးဖွယ်ရာ မရှိဘဲ ခပ်ကြမ်းကြမ်း ခပ်နိမ့်နိမ့် ပြောပြခဲ့စေခြင်း ဖြစ်ပါသည်။

'သူ သုံးသွားသော စကားလုံးများနှင့် ပြောဟန်ဆိုဟန်များသည် နားဝင် ချိုချင်မှလည်း ချိုပါလိမ့်မည်။ ကိုးရိုးကားရား ဖြစ်ချင်လည်း ဖြစ်ပါလိမ့်မည်။ သို့သော်လည်း သူ့ခံစားချက်များကိုမူကား ပီပြင်ပေါ်လွင်အောင် ဖော်ထုတ်နိုင်သည်ဟု ထင်ပါသည်။ ကျွန်တော့်အမြင်အရ ကျွန်တော့်ဇာတ်ကောင်က သူ့အကြောင်းကို သူကိုယ်တိုင်ခံစားနေရသည့်အတိုင်း ပြောပြခြင်းသည် ပိုမို၍ ထိရောက်ပေါ်လွင်သည်ဟု ထင်ပါသည်' ဟု ရေးသားထားခဲ့လေသည်။



မာတိကာသို့ ▶▶

ယခု စုစည်းတင်ပြထားသည့် မော်ရေးဗီးယားဝတ္ထုတို များမှာလည်း မော်ရေးဗီးယား ရေးလေ့ရေးထရှိသည့်ပုံစံအတိုင်းပင် ဖြစ်သည်။ ဝတ္ထုတိုများထဲမှ ဇာတ်ကောင်များသည် သူတို့အကြောင်းကို သူတို့နည်း သူတို့ဟန်ဖြင့် ပြောသွားကြသည်။ ဇာတ်ကောင်အများစုမှာ ရောမမြို့ပေါ်မှ အောက်တန်းလွှာ လက်လုပ်လက်စားအလုပ်သမားများ ချည်း ဖြစ်သဖြင့် သူတို့၏ ပြောဟန်ဆိုဟန်နှင့် သုံးဟန်များသည် ခပ်ကြမ်းကြမ်း ခပ်ရိုင်းရိုင်း ရှိကြသည်။ ဤသည်ပင်လျှင် ဤဝတ္ထုတိုများ၏ အဓိကကျသော အချက်ဟု ထင်ပါသည်။

ဤဝတ္ထုတိုများအနက် အချို့မှ လစဉ်ထုတ်မဂ္ဂဇင်းအချို့၌ ပါခဲ့ပြီး ဖြစ်ပါသည်။ အချို့မှာမူ မည်သည့် မဂ္ဂဇင်း၊ မည်သည့်စာအုပ်တွင်မှ မဖော်ပြရသေးသော ဝတ္ထုတိုများ ဖြစ်ပါသည်။

မြန်မာစာပတ်ပရိသတ်က နှစ်သက်လက်ခံသော အီတလီစာရေးဆရာကြီး အယ်လ်ဘာတိုမော်ရေးဗီးယား၏ လက်ရာများကို စုစည်းတင်ပြလိုသည့် ‘အရဏ်ကောင်းကင်စာအုပ်တိုက်’၏ စေတနာအရ ပေါ်ထွက်လာသည့် စာအုပ်ဖြစ်ပါ၏။ ထိုစေတနာကို စာဖတ်ပရိသတ်က နှစ်သက်လက်ခံကြလိမ့်မည်ဟု မျှော်လင့်ပါသည်။

မောင်ထွန်းသူ

၇၊ အောက်တိုဘာ၊ ၁၉၉၇

## နှိုက်နှိုက်ချွတ်ချွတ်

ကျုပ်အနေနဲ့ အင်္ဂနစ္စလုပ်သွားပုံကို လုံးဝနားမလည်နိုင်အောင် ဖြစ်နေပါတယ်။ သူအခုလို ထွက်သွားတာဟာ ဘာ့ကြောင့်လဲ...။ တကယ်လို့ ကျုပ်အပေါ်မှာ သူမကျေနပ်ဘူးဆိုရင်လည်း ကျုပ်ကို အမှန်အတိုင်း အသိပေးဖို့တော့ ကောင်းတယ်။ ကျုပ်ဟာ အပြစ်အနာအဆာရယ်လို့ လုံးဝမရှိတဲ့ လူတစ်ယောက်မဟုတ်ပါဘူး။ အထိုက်အလျောက်ကတော့ ရှိနေမှာပေါ့...။ တကယ်လို့ သူ့ဘက်က မကြိုက်ဘူး...သဘောမကျဘူးဆို ရင် ကျုပ်ကို အသိပေးသင့်တာ အမှန်ပဲ။ အဲသလို ဆိုရင် ကျုပ်တို့နှစ်ယောက် တိုင်ပင်ဆွေးနွေးပြီး ပြင်သင့်တာ ပြင်ရမှာပေါ့။

သူဘာကြောင့် အခုလို ထွက်သွားရတာလဲ။ ဒီမေးခွန်းကို ဖြေဖို့ ကျုပ်ကြိုးစားနေတာ ကြာပြီ။ သူနဲ့ ကျုပ်နဲ့ လက်ထပ်ပြီးလို့ အိမ်ထောင်

သက် နှစ်နှစ်တာကာလအတွင်းမှာ သူနဲ့ ကျုပ်နဲ့ ကြီးကြီးကျယ်ကျယ် စကားများတာ မရှိခဲ့ပါဘူး။ သူနေတာထိုင်တာကလည်း အေးအေးဆေးဆေး ပဲ။ သူအိမ်မှာနေပုံဟာ အိမ်စေမတစ်ယောက်နေသလို နေသွားတာဆို တော့ တွေးရခက်တယ်။ အခုဆိုရင် သူအိမ်က ထွက်သွားတာ ခြောက်လ ပြည့်သွားပြီ။ သူဘာကြောင့် ထွက်သွားတယ်ဆိုတာ အခုထက်ထိ အဖြေ ရှာလို့ မရဘူး။

အဲဒီနေ့မနက်က ကျုပ်ဟာ ထုံးစံအတိုင်း ရပ်ကွက်ထဲက ဈေးမှာ ဈေးသွားဝယ်တယ်။ ကျုပ်က အိမ်မှာ ချက်ဖို့ ပြုတ်ဖို့ကအစ ကိုယ်တိုင် ဝယ်ရမှ ကျေနပ်တဲ့လူမဟုတ်လား။ ကျုပ်ကိုယ်တိုင်က ဘာစားရင် ကောင်းမလဲ၊ ဘာချက်ရရင် ကောင်းမလဲ ဆိုတာမျိုးတွေကို ကိုယ်တိုင် စဉ်းစားပြီး ကိုယ်တိုင်ဝယ်ရမှ ကျေနပ်တဲ့ ကောင်ဗျ။ ဈေးထဲမှာ ဈေး သည်တွေနဲ့ ဆစ်လိုက်၊ စွက်လိုက်။ ငြင်းလိုက်ခုံလိုက်၊ ရွေးလိုက်ချယ်လိုက် ရန်ဖြစ်လိုက် လုပ်နေရတာကိုပဲ ပျော်စရာတစ်ခုလို့ ထင်နေတာ…။

အဲဒီနေ့က ကျုပ်ဟာ ဈေးထဲမှာ တလည်လည်လျှောက်သွားနေ တယ်။ စားသောက်ခန်းထဲမှာ ခန်းဆီးတပ်ဖို့အတွက် ကိုယ်စိတ်တိုင်းကျ အစမရရအောင် လိုက်ရှာရတာနဲ့ပဲအချိန်တွေ အတော်ကုန်သွားတယ်။ နောက်ဆုံး ကျုပ်အိမ်ပြန်ရောက်တော့ ဆယ့်တစ်နာရီထိုးပြီးလို့ မိနစ် နှစ်ဆယ်တောင်ရှိပြီ။ ကျုပ်ဟာ စားသောက်ခန်းထဲ ဝင်သွားတယ်။ ဝယ် လာတဲ့ ခန်းဆီးစနဲ့ စားသောက်ခန်းထဲမှာ တပ်ထားတဲ့ ခန်းဆီးစတွေကို အရောင်ချင်း တူမတူယှဉ်ကြည့်ချင်လို့ ဝင်သွားတာပါ။ အထဲရောက်တော့ ထမင်းစား စားပွဲရဲ့ စားပွဲခင်းပေါ်မှာ မင်တွေစွန်းနေတာ တွေ့ရတယ်။

မင်အိုးနဲ့ ကလောင်တံကိုလည်း အဲဒီပေါ်မှာ တင်ထားတာ တွေ့ရတယ်။ စာတစ်စောင် တင်ထားတာကိုလည်း တွေ့ရတယ်။

ကျုပ်ချက်ချင်း သတိထားမိတာက မင်စွန်းတွေကိုပဲ။ 'ဘယ်လိုလဲ လုပ်တာကိုင်တာနမော်နမဲ့နိုင်လှချည်လား'လို့ တွေးလိုက်မိတယ်။ ချက်ချင်းပဲ မင်အိုးနဲ့ ကလောင်တံကို ဆွဲယူပြီး သူ့နေရာသူ ပြန်ထားလိုက်တယ်။ ပြီးတော့ မီးဖိုထဲကို တန်းဝင်လာခဲ့တယ်။ ဝယ်လာတဲ့ ပစ္စည်းတွေကို နေရာချလိုက်ပြီး ချက်ဖို့ ပြုတ်ဖို့အတွက် စီစဉ်နေတယ်။ အဲဒီနောက် အချိန်တော်တော်ကြာမှ စားပွဲပေါ်က စာကို သတိရတယ်။ စားသောက်ခန်းထဲ ပြန်သွားပြီး စာကို ကြည့်လိုက်တော့ စာအိတ်ပေါ်မှာ 'အယ်လ်ဖရက်ဒို'လို့ ရေးထားတာ တွေ့ရတယ်။

ကျုပ်စာကို ယူပြီး ဖွင့်ဖတ်လိုက်တော့ "အိမ်မှာ လုပ်စရာရှိတာတွေ လုပ်ထားခဲ့တယ်။ နေ့လယ်စာကိုတော့ ရှင့်ဘာသာရှင်ပဲ ချက်ပြုတ်စားပါတော့။ ရှင်လည်း ချက်တတ်နေသားပဲ။ ကျွန်မအမေ့ဆီ ပြန်သွားတယ်" လို့ ရေးထားတာ ဖတ်ရတယ်။ စာရဲ့သဘောက ဘာလဲ၊ကျုပ်နားမလည်ဘူး။ ကျုပ်ဟာ စာကို နောက်တစ်ကြိမ် ထပ်ဖတ်ပြန်တယ်။ သူ ဘာကြောင့် သွားတာလဲ...။ ဘာလုပ်ဖို့ သွားတာလဲ...၊ စဉ်းစားလို့ မရဘူး။ အိမ်ထောင်သက် နှစ်နှစ်ရှိကာမှ အဂ္ဂနစ္စဟာ ဘယ်လို စိတ်ကူးပေါက်ပြီး ထွက်သွားတာလဲ။စာထဲမှာ ရှင်းရှင်းလင်းလင်းလည်း ရေးမသွားဘူး။ ခေါင်းထဲမှာ နောက်ကျိကျိဖြစ်လာတာနဲ့ အပြင်ကို ထွက်လာခဲ့တယ်။

အဂ္ဂနစ္စအနေနဲ့ သူအခုလို သွားမယ်ဆိုတာ ကြိုတင်ပြီး အသိမပေးခဲ့ဘူး။ တကယ်ဆိုရင် ကျုပ်ကို အေးအေးဆေးဆေး ပြောပြီးမှ သွားသင့်တာ

ပေါ့။ သူရေးထားခဲ့တဲ့ စာကလည်း မရှင်းမရှင်းနဲ့။ စဉ်းစားရ အတော်ခက်တယ်။ ကျုပ်အပေါ်မှာ မကျေနပ်တာ တစ်ခုခုများ ရှိနေလို့လား...။ ကျုပ်ဘက်က သူ့အပေါ် သစ္စာမဲ့တယ်လို့ ထင်လို့လား...။ အဲဒီကိစ္စမျိုးမှာတော့ ကျုပ်ဘက်က အလွန်ရှင်းပါတယ်။ ကျုပ်က မိန်းမဝါသနာပါတဲ့ လူမှမဟုတ်တာ။ သူနဲ့ လက်မထပ်ခင်တုန်းကတော့ အဆက်တွေ ရှိခဲ့ဖူးပါတယ်။ ဒါပေမဲ့ သူနဲ့ လက်ထပ်ပြီးကတည်းက အဲဒီဟာတွေကို လုံးဝသတိမရတော့ဘူး။ မေ့ပျောက်ပစ်လိုက်တာ ကြာပြီ...။

သူအခုလို ထွက်သွားတာဟာ ငွေကြေးချို့တဲ့လို့လား...။ အဲဒါလည်း မဖြစ်နိုင်ဘူး။ သူဘာလိုချင်သလဲ...၊ လိုချင်တာရှိလာရင် ကျုပ်ကိုယ်တိုင် ချက်ချင်းဝယ်ပေးတာပဲ။ သူ့မှာ သုံးစရာပေါ်လာရင်လည်း ကျုပ်လက်မနှေးပါဘူး။ ချက်ချင်းထုတ်ပေးလိုက်တာပဲ။ ဒီလိုဆိုရင် ကျုပ်နဲ့ နေရထိုင်ရတာ သာယာမှုမရှိလို့လား...။ အဲဒါလည်း မဖြစ်နိုင်ဘူး။ ကျုပ်သူ့ကို သာယာမှုရှိအောင် ထားခဲ့ပါတယ်။ သီတင်းတစ်ပတ်မှာ ရုပ်ရှင်နှစ်ခါပြတယ်။ တစ်ပတ်နှစ်ရက်တိတိ အပြင်စားသောက်ဆိုင်ကို ထွက်ပြီး ညစာကျွေးတယ်။ သူကြိုက်တဲ့ အစားအသောက်ဆိုရင်လည်း အိမ်မှာ အလျှံပယ်ပါ။ သူသဘောကျတဲ့ သတင်းစာတို့၊ မဂ္ဂဇင်းတို့ဆိုရင်လည်း အိမ်မှာ မပြတ်စေရဘူး။

ဆောင်းဥတုရောက်လာရင် အော်ပရာပြဇာတ်တွေ အသစ်လဲရင် လိုက်ပြတယ်။ နွေရာသီရောက်ပြီဆိုရင် မာရီနိဘက်က ကျုပ်အဖေအိမ်ကို ခရီးထွက်ပြီး အပန်းဖြေကြတယ်။ ဒါဆိုရင် သူဝတ်ချင်တာတွေ မဝတ်ရလို့များလား...။ အင်း...အဲဒီကိစ္စမှာတော့ အဂ္ဂနစ္စအဖို့ ဘာမှကို ပြောလို့မရ

အောင် ပြည့်စုံနေတဲ့ ဘဝပါ။ သူ့မှာ ဘရာစီယာလိုသလား၊ ခြေအိတ်လိုသလား၊ လက်ကိုင်ပဝါလိုသလား၊ အဝတ်အထည်နဲ့ ပတ်သက်လို့ ဘာပဲလိုလို ကျုပ်က ချက်ချင်းဝယ်ပေးတာ။ ကိုယ်တိုင်လိုက်ပြီး အရောင်အသွေးကအစ ကိုယ်တိုင်ဝင်ရွေးပေးတာ။ အဝတ်အစားသစ်ချုပ်ပြီဆိုရင်လည်း ကျုပ်က စိတ်တိုင်းကျ လိုက်အပ်ပေးတာ။ ဘာပဲ ဖြစ်ဖြစ်ပေါ့လေ။ သူ့ဘက်က 'ကျွန်မမှာ ဦးထုပ်မရှိတော့ဘူး၊ ဂါဝန်ဝတ်စရာမရှိတော့ဘူး' ဆိုတဲ့စကားမျိုး ပြောကို မပြောရဘူး။ တကယ်လို့ ပြောလာရင်လည်း ကျုပ်က လက်နှေးတဲ့လူစားမှ မဟုတ်တာ၊ ချက်ချင်းပဲ "ကဲ...လာ၊ တို့ဆိုင်သွားပြီးဝယ်ကြရအောင်'လို့ ပြောပြီး ဝယ်ပေးလိုက်တာပဲ။

တစ်ခုတော့ ရှိတယ်။ အဂ္ဂနစ္စဟာ သိပ်ပြီး တိတိကျကျရှိပုံတော့ မရဘူး။ ကျုပ်နဲ့ရပြီး တစ်နှစ်လောက်ကြာတော့ အဝတ်အစားနဲ့ပတ်သက်လို့ သူ့မှာ ဘာရှိတယ်၊ နောက်ထပ်ဘာလိုတယ်ဆိုတာတွေကို သိပုံမရဘူး။ ဘေးကနေပြီး ကျုပ်က အမြဲသတိပေးနေရတယ်။ ဒါပေမဲ့ သူက ကျုပ်သတိပေးတဲ့အခါတိုင်း မနှစ်က ဝယ်ထားပြီးပြီ၊ မလိုတော့ဘူးလို့ ပြန်ပြောလေ့ ရှိတယ်။ နောက်ဆုံးကျတော့ အဂ္ဂနစ္စဟာ တခြားမိန်းမတွေလို အဝတ်အစားမှာ လောဘကြီးပုံ မရဘူးလို့ ကျုပ်တွေးမိတယ်။

အဲသလို ဆိုရင်တော့ အခုကိစ္စဟာ ငွေကြေးနဲ့လည်း ဆက်စပ်ပုံမရဘူး။ နှလုံးသားရေးရာကိစ္စလည်း ဖြစ်လာဖို့ အကြောင်းမရှိဘူး။ သလိုဆိုရင် 'စိတ်သဘောထားချင်း မတိုက်ဆိုင်မှုလား' အဲဒါကျတော့လည်း ပြောရခက်သားကလားဗျာ...။ သူနဲ့ ကျုပ်နဲ့ အိမ်ထောင်သက်နှစ်နှစ် ရှိသွားပြီ။ ကျုပ်တို့နှစ်ယောက်ကြားမှာ ရန်ပွဲဆိုတာ တစ်ခါမှ မပေါ်ခဲ့ဖူးဘူး။



မာတိကာသို့ ▶▶

အဂ္ဂနစ္စဟာ ကျုပ်ကို ဘယ်တော့မှ မဆန့်ကျင်ဖူးဘူး။ ကျုပ်နဲ့ဆိုရင် သူဟာ စကားတောင်မှ မပြောသလောက်ပဲ။

တစ်ခါတစ်ရံ ကျုပ်တို့နှစ်ယောက်ဟာ ညပိုင်းမှာ အပြင်စားသောက် ဆိုင်တစ်ဆိုင်ကို ထွက်ပြီး စားသောက်လေ့ရှိတယ်။ အဲသလို အချိန်မျိုး မှာ စကားကို ဒိုင်ခံပြောတဲ့လူဟာ ကျုပ်ပဲ။ သူကတော့ ပါးစပ်တောင် မဟဘူး။ ကျုပ်ဆိုတဲ့အကောင်ကလည်း တစ်မျိုးပဲ၊ စကားပြောနေရရင် သိပ်သဘောကျတယ်။ ကိုယ်စကားပြောနေတဲ့အသံကို ပြန်ပြီး နားထောင် နေရတာကိုလည်း သိပ်ကြိုက်တယ်။

ကျုပ်စကားပြောပုံပြောနည်းက အေးအေးသာသာလည်း ရှိတယ်။ စည်းစည်းလုံးလုံးနဲ့ ပြေပြေပြစ်ပြစ်လည်း ရှိတယ်။ အကျိုးသင့်အကြောင်း သင့်လည်း ပြောတတ်တယ်။ ချိန်ချိန်ဆဆလည်း ရှိတယ်။ အကြောင်း အရာတစ်ခုကို တစ်ဖက်လူ နားလည်သွားအောင် တစ်ပိုင်းစီ၊ တစ်ပိုင်း စီ ခွဲပြီးတော့လည်း ပြောတတ်တယ်။ အဲဒါကြောင့်လည်း ကျုပ်ဟာ စကားပြောရတာကို မငြီးငွေ့ဘူး။ သိပ်ပြီး စိတ်ဝင်တစား ပြောတတ်တယ်။ အဂ္ဂနစ္စကလည်း ကျုပ်စကားပြောရင် ငြိမ်ပြီး နားထောင်နေတာပဲ။ သူ့ ကြည့်ရတာ စိတ်ဝင်စားပုံ ပေါ်ပါရဲ့။ ဒါပေမဲ့ တစ်ခါတုန်းကတော့ ကျုပ် က လျှပ်စစ်အပူပေးကိရိယာတစ်ခု ဘယ်လိုအလုပ်လုပ်တယ်ဆိုတာ ရှင်း ပြနေတုန်း အဂ္ဂနစ္စဟာ အိပ်ပျော်သွားတယ်။ သူ့ဆီက ဟောက်သံကြား တော့မှ သူ့ကို နှိုးရတယ်။ "မင်းဘာပြုလို့ အိပ်ပျော်သွားရတာလဲ၊ ကိုယ် ပြောနေတာ ပျင်းစရာကောင်းလို့လား"လို့ မေးတော့ သူက ကပျာကယာ ပြန်ဖြေတယ်။ "မဟုတ်ပါဘူး...မဟုတ်ပါဘူး။ မနေ့ညက အိပ်ရေးမဝ



မာတိကာသို့ ▶▶

လို့ပါ”တဲ့။

သာမန်အားဖြင့် လင်ယောက်ျားတွေဟာ သူတို့ရဲ့ အလုပ်ဌာနတွေ၊ ဆိုင်တွေနဲ့ အလုပ်များနေကြတာချည်းပဲ။ အလုပ်ကိစ္စတွေကို အကြောင်းပြုပြီး အပြင်ထွက်ကြ၊ လည်ကြပတ်ကြနဲ့။ သူတို့ မိန်းမတွေရဲ့အနားမှာ အချိန်ကြာကြာနေရတယ်လို့ကို မရှိဘူး။ ကျုပ်ကျတော့ အဲသလို မဟုတ်ဘူး။ အငှနစ္စရဲ့ အနားမှာ ကျုပ်ဟာ အမြဲတမ်းရှိနေတယ်။ သူချက်ပြုတ်နေတဲ့ အချိန်မှာတောင် သူ့အနားမှာ ကျုပ်ရှိတယ်။ ကျုပ်ကိုယ်တိုင်ကလည်း အချက်အပြုတ်မှာ ဝါသနာပါတယ်မဟုတ်လား...။ ကျုပ်ဟာ ခါးစည်း အဝတ်ကို ဝတ်ပြီး သူနဲ့အတူတွဲပြီး ချက်ပြုတ်နေတာက များတယ်။

အာလူးတွေ အခွံနွှာတယ်။ ပဲသီးတောင့်တွေ လှီးတယ်။ ဟင်းလျာကို ပြင်တယ်။ ဟင်းအိုးကို စောင့်ကြည့်တယ်။ ကြော်စရာရှိတာကို ကြော်တယ်။ အဲသလို ကူညီပြီး လုပ်ကိုင်ပေးနေတာတွေက များလွန်းလာတော့ သူက “ကဲပါ–ရှင်ပဲ လုပ်လိုက်ပါတော့။ ကျွန်မခေါင်းနည်းနည်းကိုက်လို့ အိပ်ရာထဲ ခဏလှဲနေချင်တယ်”လို့ ပြောပြီး မီးဖိုချောင်ထဲက ထွက်ထွက်သွားလေ့ရှိတယ်။

အဲဒီနောက်မှာတော့ ချက်ရေးပြုတ်ရေးကိစ္စက ကျုပ်ရဲ့ တာဝန်ဖြစ်လာတယ်။ တစ်ခါတလေ ကျုပ်ဟာ ဟင်းချက်နည်းစာအုပ်တစ်အုပ်ဘေးမှာ ချပြီး ဟင်းအသစ်အဆန်းတွေ ချက်နေတတ်တယ်။ ကျုပ် ဘယ်လိုပဲ ကောင်းအောင်ချက်ချက် အငှနစ္စဟာ သိပ်ပြီး မစားနိုင်ဘူး။ နောက်ဆုံးမှာ တို့ကာပင့်ကာလောက်ပဲ စားပြီး၊ ပြီးသွားလေ့ရှိတယ်။ တစ်ခါမှာ

တော့ သူက ကျုပ်ကို ပြောင်သလို နောက်သလိုနဲ့ စကားတစ်ခွန်း ပြော ဖူးတယ်။ "ရှင်ယောက်ျားဖြစ်လာတာ မှားတယ်၊ မိန်းမတစ်ယောက်အဖြစ် နဲ့ မွေးလာဖို့ကောင်းတာ"တဲ့...။

စဉ်းစားကြည့်လိုက်ရင် သူပြောတာဟာ မှန်တယ်လို့ ကျုပ်ဝန်ခံရ မှာပဲ။ ဘာ့ကြောင့်လဲဆိုတော့ ကျုပ်လုပ်နေတာတွေက အချက်အပြုတ် တင်မကတော့ဘူး။ အဝတ်တွေ လျှော်တယ်။ မီးပူတိုက်တယ်။ အင်္ကျီ အစုတ်အပြဲတွေကို ဖာတယ်၊ ထေးတယ်။ တစ်ခါတလေ အချိန်အားရရင် လက်ကိုင်ပဝါတွေမှာ ဇာပန်းလေးတွေ ထိုးလိုက်သေးတယ်။ သူ့အနားက တစ်ဖဝါးမှ မခွာဘူးဆိုတဲ့ကိစ္စနဲ့ ပတ်သက်လို့ ပြောရမယ်ဆိုရင်လည်း တစ်မျိုးပါပဲဗျာ။ သူ့ဆီကို မိန်းမသူငယ်ချင်းတွေ အလည်လာတဲ့အခါ၊ သူ့အမေဆီကို အလည်လာတဲ့အခါမျိုးတွေမှာလည်း ကျုပ်က သူ့အနားက မခွာဘူးဗျ။

တစ်ခါမှာတော့ သူ့ခေါင်းထဲကို ဘယ်လိုစိတ်ကူးမျိုးဝင်လာသလဲ မသိ ဘူး။ အင်္ဂလိပ်စကား သင်ချင်တယ်လို့ ပြောတယ်။ ကျုပ်က သူ့ အနားက မခွာချင်တာနဲ့ ကျုပ်ပါရောပြီး အင်္ဂလိပ်စကားပြောသင်တန်းတက် လိုက်တယ်။ ကျုပ်အဖြစ်က ရယ်စရာတော့ အကောင်းသား။ တစ်ခါတုန်း က သူနဲ့ ကျုပ် စားသောက်ဆိုင်ထဲမှာ စားသောက်နေကြတော့ သူက ကျုပ်အနားကပ်ပြီး တိုးတိုးလေး ပြောတယ်။ 'ရှူးရှူးပေါက်ချင်တယ်'တဲ့။ ကျုပ်က သူ့ကို အိမ်သာဘက် လိုက်ပို့တယ်။ အိမ်သာဝရောက်တော့ တံခါးစောင့်က ကျုပ်ကို ဖမ်းဆွဲထားတယ်။ "အမျိုးသမီးအိမ်သာထဲကို ယောက်ျားတွေ မဝင်ရဘူးတဲ့"တဲ့။



မာတိကာသို့

ဒီအဖြစ်တွေကို စဉ်းစားလိုက်တဲ့အခါမှာ အဂ္ဂနစ္စဟာ ကျုပ်ကိုထား ပြီး ထွက်သွားဖို့ မသင့်တာ အမှန်ပဲ။ အဲဒါ ဘာပြုလို့ ထွက်သွားတာလဲ ။ ကျုပ်စဉ်းစားနေတုန်းမှာပဲကျုပ်ဟာ ကျုပ်အဖေရဲ့ ဆိုင်ကို ရောက်သွား တယ်။ ကျုပ်အဖေက အသက်သိပ်မကြီးသေးဘူး။ ဆံပင်က နက်နက်၊ မုတ်ဆိတ်မွေးက နက်နက်၊ကျက်သရေရှိတုန်းပဲ ။ အဖေဟာ စကားပြောတဲ့ အခါမှာလည်း သိပ်ပြီး နူးညံ့သိမ်မွေ့တယ်။ အပြုအမူကျတော့လည်း ယဉ်ကျေးဖွယ်ရာပဲ။

ကျုပ်ရောက်သွားတော့ ထုံးစံအတိုင်းပါပဲ။ အဖေဟာ စားပွဲမှာ ထိုင်ပြီး စာရင်းတွက်နေတယ်။ ကျုပ်က "အဖေ အဂ္ဂနစ္စကတော့ ကျုပ် ကို စွန့်သွားပြီ"လို့ ပြောလိုက်တယ်။ အဖေက ကျုပ်ကို မော့ကြည့်တယ်။ "ငါစိတ်မကောင်းပါဘူးကွာ။ ဘယ်လိုဖြစ်ကြတာလဲ"လို့ ပြန်မေးတယ်။

ကျုပ်က အဖြစ်အပျက်အားလုံးကို စေ့စေ့စပ်စပ် ပြောပြတယ်။ စကားကို အဆုံးသတ်တဲ့အခါမှာတော့ "ကျွန်တော်သိချင်တာ တစ်ခုပဲ ရှိတယ်။ သူဘာပြုလို့ ကျွန်တော့်ကို ပစ်ပြီး ထွက်ပြေးရတာလဲဆိုတဲ့အချက် ပဲ"လို့ ပြောလိုက်တယ်။

အဖေက အံ့အားသင့်နေတဲ့ မျက်နှာထားနဲ့ ကျုပ်ကို ကြည့်နေတယ်။ ပြီးတော့ "မင်း အဲဒီအချက်ကို မသိဘူးလား"လို့ ပြန်မေးတယ်။

"မသိဘူးအဖေ"

အဖေဟာ အချိန်အတော်ကြာ ငြိမ်ဆိတ်နေတယ်။ ပြီးတော့ သက်ပြင်း တစ်ချက်ချတယ်။ "ငါ စိတ်မကောင်းပါဘူး အယ်လ်ဖရက်ဒိုရယ်၊ မင်း

ကို ဘာပြောရမှန်းတောင် မသိတော့ဘူး။ မင်းဟာ ငါ့သားပါ။ မင်းကို ငါ ပြုစုပျိုးထောင်လာတာပါ။ ငါမင်းကို ချစ်လည်းချစ်ပါတယ်။ ဒါပေမဲ့ အခုဟာက မင်းမယားဆိုတော့ မင်းရဲ့ ကိုယ်ရေးကိုယ်တာ ကိစ္စပါ"လို့ ပြောတယ်။

"ဟုတ်ပါတယ်။ ကျွန်တော့်ကိစ္စပါ။ ဒါပေမဲ့ သူဘာပြုလို့ အခုလို ထွက်သွားရတာလဲ"

အဖေက ခေါင်းရမ်းတယ်။ "ငါ့သာမင်းနေရာမှာဆိုရင် ဒီကိစ္စမှာ သိပ်ပြီး နှိုက်နှိုက်ချွတ်ချွတ် မစဉ်းစားတော့ဘူး"လို့ ပြောတယ်။ "ဒီကိစ္စကို မေ့ထားလိုက်ပါတော့ကွာ၊ ဘာ့ကြောင့်ဆိုတာ သိလာလို့လည်း အကြောင်းထူးလာမှာ မဟုတ်တော့ပါဘူး"

"မဟုတ်ဘူးအဖေ။ ကျွန်တော့်အဖို့တော့ သိမှ ဖြစ်မှာ"

အဲဒီအခိုက်မှာပဲပစ္စည်းဝယ်မယ့် ဘုန်းကြီးနှစ်ပါး ဆိုင်ထဲကို ဝင်လာတယ်။ အဖေက ထိုင်နေရာက ထရပ်ပြီး "နောက်တစ်ခေါက် လာခဲ့ဦး ပေါ့ကွာ၊ အဲဒီအခါကျမှ ဆက်ပြောကြတာပေါ့။ အခုတော့ အဖေအလုပ်များနေတယ်"လို့ ပြောတယ်။ ကျုပ်နားလည်သွားပြီ။ အဖေ့ဆီက ဘာတစ်ခုမှ ရနိုင်စရာ အခြေအနေမရှိဘူး။ ကျုပ်ချက်ချင်းပဲ ဆိုင်ထဲက ပြန်ထွက်လာခဲ့တယ်။

အဂ္ဂနစ္စရဲ့ အမေ့အိမ်ဟာ အဖေ့ဆိုင်နဲ့ သိပ်မဝေးဘူး။ ကော်ဆို ဗီတိုရီယိုရပ်ကွက်ထဲမှာ ရှိတယ်။ အဂ္ဂနစ္စဘာ့ကြောင့် အိမ်ကထွက်သွား သလဲဆိုတဲ့ အချက်ကို အဖြေပေးနိုင်တဲ့လူဟာ အဂ္ဂနစ္စတစ်ယောက်ပဲ

ရှိတော့တယ်။ ဒါကြောင့်မို့ ကျုပ် သူ့အမေအိမ်ကို လိုက်သွားတယ်။ အိမ်ပေါ်ရောက်လို့ ဧည့်ခန်းထဲမှာ ထိုင်မိတော့ သူ့အမေ ဝင်လာတာ တွေ့ရတယ်။

သူ့အမေကလည်း ဆိုင်ပိုင်ရှင်တစ်ယောက်ပဲ။ ကျုပ်နဲ့က မျက်နှာကြော သိပ်မတည့်ဘူး။ ဆေးဆိုးထားတဲ့ ဆံပင်နက်နက်၊ ဆေးဆိုးထားတဲ့ နီရဲရဲပါးနှစ်ဖက်နဲ့ သူ့အပြုံးဟာ စိတ်ပျက်စရာတော်တော်ကောင်းတယ်။ ကျုပ်ကို မြင်တော့ သူက "သြော်...အယ်လ်ဖရက်ဒိုပါလား။ မင်းဘာလာလုပ်တာလဲ"လို့ မေးတယ်။

"ကျွန်တော် ဘာကြောင့် လာတယ်ဆိုတာ ခင်ဗျားသိပါတယ်ဗျာ"လို့ ကျုပ်က ပြန်ဖြေတယ်။ "အဂ္ဂနစ္စ အိမ်က ထွက်သွားတယ်ဗျ"

"အေး...ဟုတ်တယ်၊ သူဒီမှာ ရှိနေတယ်"လို့ အေးအေးဆေးဆေးပဲပြန်ပြောတယ်။ "အေးကွယ် ဒီကိစ္စမျိုးက ခက်သားကလား၊ ဖြစ်ရိုးဖြစ်စဉ်တွေပဲ"

"ခင်ဗျားပေးတဲ့အဖြေက ဒါပဲလား"

သူက ကျုပ်ကို ကြည့်ပြီး အချိန်တော်တော်ကြာ ငြိမ်နေတယ်။ ပြီးတော့ ကျုပ်ကို မေးတယ်။ "ဒီကိစ္စကို မင်းအဖေနဲ့ အမေဆီ သွားပြီး ပြောမပြဘူးလား"တဲ့။

"ပြောပြီးပြီ။ ကျွန်တော့်အဖေကို အားလုံး ပြောလိုက်တယ်"

"သူက မင်းကို ဘာပြောလဲ"

သူ့စိတ်ထဲမှာ အောင့်သီးအောင့်သက် ဖြစ်သွားတယ်။ ကျုပ်အဖေက



မာတိကာသို့ ▶▶

ကျုပ်ကို ဘာပဲပြောပြော သူနဲ့ ဘာဆိုင်တာမှတ်လို့။ ဒါပေမဲ့ ကျုပ်စိတ်ကို ထိန်းပြီး "ကျုပ်အဖေ ဘယ်လိုလူစားဆိုတာ ခင်ဗျားလည်း သိသားပဲဗျာ။ ဒီကိစ္စမှာ သိပ်ပြီး နိုက်နိုက်ချွတ်ချွတ်မတွေးပါနဲ့ကွာလို့ ပြောလိုက်တယ်"

"အင်း...သူပြောတာ မှန်သားပဲကွဲ့+ သိပ်ပြီး နိုက်နိုက်ချွတ်ချွတ် တွေးမနေပါနဲ့ကွယ်"

ကျုပ် ဒေါသဖြစ်လာတယ်။

"သူက ကျုပ်ကို ဘာပြုလို့ အခုလိုထားပြီး ထွက်သွားရတာလဲ၊ ကျုပ်က သူ့ကို ဘာလုပ်လို့တုံး၊ ခင်ဗျားကကော ကျုပ်ကို ဘာပြုလို့ ရှင်းမပြရတာလဲ"

ကျုပ်ပြောချင်နေတာတွေကို ဒေါသတကြီးနဲ့ ပြောနေတုန်းမှာပဲ ကျုပ်မျက်လုံးဟာ စားပွဲပေါ်ကို ရောက်သွားတယ်။ စားပွဲပေါ်မှာ စားပွဲခင်း တစ်ခု ခင်းထားတယ်။ စားပွဲခင်းပေါ်မှာတော့ ကြွေပန်းအိုးကြီးတစ်လုံး ရှိတယ်။ ပန်းအိုးထဲမှာတော့ ဇော်မွှားပန်းတွေ စိုက်ထားတဲ့ ပန်းအိုးတစ်လုံး ရှိတယ်။ ပန်းအိုးဟာ ဘေးတစ်ဖက်ကို ငိုက်ကျနေတယ်။ ကျုပ်အနေနဲ့ ကိုယ့်ဘာသာ ဘာလုပ်လို့ လုပ်မိမှန်း မသိဘူး။ ယောက္ခမကြီးက ကျုပ်ကို ပြုံးပြီး ကြည့်နေခိုက်မှာပဲ ပန်းအိုးကို နေသားတကျဖြစ်အောင် ပြန်ထောင်ပေးလိုက်မိတယ်။

"အေးကွယ် ပန်းအိုးက သူ့နေရာသူ ပြန်ရောက်သွားပြီ။ ငါဖြင့် သတိတောင် မထားခဲ့မိဘူး။ မင်းကတော့ ချက်ချင်း မြင်တယ်နော်။ ကောင်းပါလေ့ကွယ်။ ကဲ...ကဲ မင်းလည်း သွားပေဦးတော့"လို့ အဘွား



မာတိကာသို့

ကြီးက ပြောတယ်။ သူက ထိုင်ရာက ထလိုက်တော့ ကျုပ်လည်း ထရတော့တာပေါ့။ကျုပ်က အဂ္ဂနစ္စနဲ့ တွေ့ချင်တယ်လို့ ပြောချင်တယ်။ ဒါပေမဲ့ ရမယ်မထင်ဘူး။ ပြီးတော့လည်း သူနဲ့ ကျုပ်တွေ့ရင် ဒေါသတွေ ဘာတွေ ဖြစ်ပြီး ရန်ဖြစ်မှာ စိုးရိမ်ရတယ်။ ကျုပ်ချက်ချင်းပဲ အိမ်ထဲက ပြန်ထွက်လာခဲ့တယ်။

အဲဒီနေ့က စပြီး ကျုပ်ဟာ ကျုပ်မိန်းမကို မမြင်ရမတွေ့ရတော့ဘူး။ တစ်နေ့နေ့ တစ်ချိန်ချိန်ကျရင် သူပြန်လာမှာပဲလို့ စိတ်ထဲက ထင်မိတယ်။ တကယ်လို့ သူပြန်လာမယ်ဆိုရင်လည်း သူဘာကြောင့် ကျုပ်ကို ပစ်ပြီး ထွက်သွားရတာလဲဆိုတဲ့အချက်ကို ကျုပ်ကျေနပ်လောက်အောင် ရှင်းမပြလို့ကတော့ အိမ်ရိပ်ကိုတောင် မနင်းရဘူးလို့ ကျုပ်ဆုံးဖြတ်ထားတယ်။



## နွေစိတ်ရှုး

နွေရာသီရောက်လာပြီဆိုရင် ကျုပ်ရင်ထဲမှာ အိမ်က ထွက်ပြေးချင်တဲ့ စိတ်ဟာ အမြဲတမ်း ပေါ်လာတတ်တယ်။ အသက်အရွယ် ငယ်နေသေးတာက တစ်ကြောင်း၊ အိမ်ထောင်သည်ဘဝရောက်နေပြီဖြစ်တဲ့ ကျုပ်ကိုယ်ကျုပ် လင်တစ်ယောက်အဖြစ်၊ ဖခင်တစ်ယောက်အဖြစ် အံ့ဝင်ခွင်ကျဖြစ်အောင် မနေတတ်သေးတာလည်း တစ်ကြောင်းကြောင့် ဖြစ်ကောင်းဖြစ်လိမ့်မယ်ထင်ပါရဲ့။

နွေရာသီရောက်လာတဲ့အခါမှာ လူချမ်းသာတွေအတွက်ကတော့ ဘာပြဿနာမှ မရှိပါဘူး။ မနက်ပိုင်းဆိုရင် ပြတင်းပေါက်တွေကို ပိတ်ထား၊ ညပိုင်းကျတော့ ပြန်ဖွင့်...။ ပြတင်းပေါက်တွေကတစ်ဆင့် ဝင်လာနေတဲ့ အေးမြမြလေက တဖြူးဖြူး...။ ကျောက်သားသမံတလင်းပေါ်မှာ

ခင်းကျင်းထားတဲ့ ပရိဘောဂပစ္စည်းတွေက ခပ်မှိန်မှိန်မီးရောင်အောက်မှာ တလက်လက်၊ အရာဝတ္ထုပစ္စည်းတိုင်းဟာ သူ့နေရာနဲ့သူ၊ အားလုံး နေသားတကျပဲ။ သန့်စင်ဝင်းလက်နေတာပဲ ။ တစ်အိမ်လုံးဟာ တိတ်ဆိတ် အေးမြနေတာပဲ။

တကယ်လို့ ရေငတ်တယ်ဆိုပါတော့ဗျာ။ အိမ်စေတစ်ယောက်က အင်မတန် အရသာထူးတဲ့ ရေခဲစိမ်အအေးတစ်ခွက်ကို လင်ပန်းလှလှကလေး နဲ့ ထည့်ပြီး လာပို့မယ်။ အအေးကလည်း လိမ္မော်ရည်၊ ဘာလီရည်၊ သံပရာရည် တစ်ခုခု ဖြစ်မှာပေါ့။ လင်ပန်းထဲမှာ ရေခဲတုံးလေးတွေ ထည့်ထားတဲ့ ခွက်တစ်ခွက်လည်း ပါပေမပေါ့။ အအေးဖန်ခွက်ထဲ ဇွန်းထည့်ပြီး မွှေနေလို့ ထွက်လာနေတဲ့ အသံကလည်း သာယာနေမှာ သေချာပါတယ်။

အင်း...ဒါပေမဲ့ ဆင်းရဲသားတွေရဲ့ အိမ်တွေမှာတော့ အခြေအနေက ပြောင်းပြန်ဓောက်ထိုးပါဗျာ။ နွေရာသီရောက်လို့ နေပူလာတာနဲ့ တစ်ပြိုင် နက် အပူရှိန်ဟာ သေးသေးကျဉ်းကျဉ်း အခန်းလေးထဲကို အတင်းအဓမ္မ တိုးဝင်လာတာပါပဲ။ ရေငတ်လို့ ရေသောက်ချင်လာပြီဆိုရင် ရေကတော့ ရနိုင်ပါတယ်။ ဒါပေမဲ့ မီးဖိုချောင်ဘုံဘိုင်က ထွက်လာတဲ့ရေဟာ ရေပူကြီး။ ပူလွန်းလို့ လုံးဝအရသာမရှိတဲ့ ဟင်းချိုရည်နဲ့ တူနေတယ်။

အတွင်းဘက်မှာကလည်း ကျယ်ကျယ်ဝန်းဝန်းမရှိတော့ လွတ်လွတ် လပ်လပ် လှုပ်ရှားလို့တောင်မရဘူး။ စားပွဲကုလားထိုင်တွေ၊ အဝတ်တွေ၊ အိမ်သုံးပစ္စည်းတွေနဲ့ မီးဖိုချောင်သုံးပစ္စည်းတွေဟာ တစ်ခုပေါ်တစ်ခု ထပ်ထားသလို ဖြစ်ပြီး ရှုပ်ပွနေတာပဲ။ အခန်းထဲက လူတိုင်းဟာ ရှုပ်

အင်္ကျီလက်မောင်းတွေကို လိပ်တင်ထားကြရတယ်။ ရုပ်အင်္ကျီတွေကလည်း ချွေးတွေ တစိုစိုနဲ့၊ နံစော်နေတာပဲ။ တကယ်လို့များ ပြတင်းပေါက်တွေကို သွားပိတ်လိုက်ရင် တစ်ခန်းလုံး မွန်းကျပ်သွားတာပဲ။ ညပိုင်းလေဟာ လူခြောက်ယောက်အိပ်ရတဲ့အခန်းထဲကို လုံးဝ ဝင်မလာနိုင်တော့ဘူးမဟုတ်လား။ အဲဒီတော့ အသက်တောင် ရှူလို့ မဝနိုင်တော့ဘူးပေါ့။

တကယ်လို့ ဖွင့်လိုက်ပြန်တော့လည်း အပြင်က နေရောင်ဟာ အထဲကို အတင်းတိုးဝင်လာတယ်။ လူအားလုံး နေပူစာထွက်လှုံနေသလို ဖြစ်ကြရတယ်။ လမ်းမပေါ်ထွက်ရပ်နေသလိုမျိုး ကြုံရတယ်။ အပူငွေ့နဲ့ အတူ ချွေးနံ့တွေ၊ ဖုန်နံ့တွေ၊ တခြားအနံ့ဆိုးတွေဟာ တစ်ခန်းလုံးမှာ ပျံ့နှံ့နေတတ်တယ်။ အပူဒဏ်ကို သိပ်ပြီး ခံနေရတဲ့အခါမှာ လူတွေဟာ လည်း တစ်မျိုး ဖြစ်လာတယ်။ သူတို့ရဲ့ စရိုက်ဟာ စိတ်တိုတယ်။ ဒေါသကြီးတယ်။ ရန်လိုလာတယ်။ ထစ်ခနဲဆိုရင် ရန်ဖြစ်ဖို့ ဝန်မလေးကြဘူး။ လူချမ်းသာတစ်ယောက်အဖို့ကတော့ တစ်နေရာမှာ ပူလာရင် တခြားအခန်းတွေထဲ ဝင်ပြီး နေလို့ ရတယ်။ ဆင်းရဲသားတွေအဖို့ကတော့ တစ်ခန်းတည်းမှာပဲ စုပြုံတိုးဝှေ့ပြီး နေကြရတာ။ ငါးသေတ္တာဘူးထဲက ငါးတွေနဲ့ ဘာမှ မထူးဘူး။ အိုးခွက်တွေ၊ ဖန်ခွက်တွေ၊ အဝတ်ပုံတွေကြားမှာ နေချင်နေ၊ မနေနိုင်ရင် လမ်းပေါ်ထွက် အဲဒါပဲ။

နေအလွန်ပူပြင်းနေတဲ့ နေ့ရက်တွေထဲက တစ်ရက်မှာပေါ့။ ကျုပ်ဟာ ကျုပ်မိန်းမနဲ့ ရန်ဖြစ်တယ်။ ဘာကြောင့်လဲဆိုတော့ စွပ်ပြုတ်က အရမ်းနည်းနေရုံမကဘူး၊ ပူလွန်းလို့ သောက်တောင် မသောက်နိုင်ဘူး။ ပထမတော့ ကျုပ်ဟာ ကျုပ်မိန်းမနဲ့တင် ရန်ဖြစ်တာပါ။ အဲဒီကိစ္စမှာ



မာတိကာသို့ ▶▶

ဟိုအကောင် ကျုပ်ယောက်ဖက ကျုပ်မိန်းမဘက်က ဝင်ပြောတယ်။

ကျုပ်ရဲ့အမြင်ကတော့ ကျုပ်ယောက်ဖအနေနဲ့ အဲသလို လုပ်ပိုင်ခွင့် မရှိဘူး။ ဒီအကောင်အလုပ်လက်မဲ့ဖြစ်လို့ ကျုပ်ရဲ့ လုပ်စာကို မှီစားနေတာ ကြာလှပြီ။ ဒီကြားထဲမှာ ကျုပ်ယောက်ဖရဲ့ မိန်းမက ကျုပ်ဘက်က ဝင်ပါပြီး ကျုပ်ကို ကာကွယ်ပေးတယ်။ အဲဒီတော့ အဲဒီကောင်မနဲ့ ကျုပ်နဲ့ ဆက်ပြီး ရန်ဖြစ်ကြတယ်။ ဘာကြောင့်လဲဆိုတော့ ဒီကောင်မက ကျုပ်ကို ပြီတီတီ၊ ညုတုတုလုပ်နေတာ ကြာပြီ။ အခုလို ကျုပ်ဘက်က ဝင်ပါတာဟာ မရိုးသားတဲ့စိတ်နဲ့လုပ်တာမို့ ကျုပ်က စက်ဆုတ်တယ်။

သူနဲ့ ရန်ဖြစ်နေတုန်းမှာပဲ အမေက ကျုပ်ကို ဒေါသမကြီးဖို့ ဝင်ပြီး ဖျောင်းဖျတယ်။ ကျုပ်ကလည်းအမေပြောခါမှ ပိုပြီး ဒေါသကြီးလာတော့ အမေနဲ့ ဆက်ပြီး စကားများတယ်။ နောက်ပြီးတော့ အဖေနဲ့ပါ ဆက်ပြီး ရန်ဖြစ်တယ်။ ဘာ့ကြောင့်လဲဆိုတော့ ကျုပ်နဲ့အမေနဲ့ စကားများနေကြတုန်းမှာ သူက သူအစာစားတာ အေးအေးဆေးဆေး စားစမ်းပါရစေလို့ ဝင်ပြောတာကိုးဗျ။ နောက်ဆုံးမှာ ကျုပ်ဟာ ကလေးမကလေးနဲ့ပါ ဒေါသဖြစ်ရတယ်။ ဘာကြောင့်လဲဆိုတော့ သူက ငိုနေလို့...။

ကျုပ်ဟာ ဒေါသကို မထိန်းနိုင်တော့ဘူး။ ထိုင်နေရာက ဗြုန်းခနဲ ခုန်ထလိုက်ပြီ ကုလားထိုင်မှာ ချိတ်ထားတဲ့ ဂျက်ကက်အင်္ကျီကို ယူဝတ်လိုက်တယ်။ ပြီးတော့... "အားလုံးကို ကျုပ်ပြောလိုက်မယ်၊ ကျုပ် ခင်ဗျားတို့ အားလုံးကို စိတ်ကုန်သွားပြီသိလား၊ ကျုပ် ဆောင်းဝင်ချိန် အောက်တို ဘာလကျမှ ပြန်လာခဲ့တော့မယ်။ ဒီကြားထဲမှာ ကျုပ်ကို မမျှော်လင့်နဲ့တော့..."လို့ စိတ်ဆိုးမာန်ဆိုးနဲ့ ပြောပြီး အိမ်က ထွက်လာခဲ့တယ်။

ကျုပ် မိန်းမက ကျုပ်ကို တကြော်ကြော်ခေါ်ပြီး နောက်က ပြေးလိုက်လာတယ်။ ကျုပ်ကြိုက်တတ်တဲ့ အစားတစ်ခု လုပ်ထားပါတယ်။ ပြန်လာခဲ့ပါတဲ့။ ကျုပ်က 'နင့်ဘာသာနင်စား ငါမစားဘူး'လို့ ပြန်အော်ပြီး လမ်းပေါ်ကို ထွက်လာခဲ့တယ်။"

ကျုပ်တို့နေတာက ဩစတီယင်စီရပ်ကွက်ထဲမှာဗျ။ ကျုပ်ဟာ လမ်းမကို ဖြတ်ကူးပြီး မြစ်ကူးသံတံတားဘက်ကို လျှောက်လာခဲ့တယ်။ အချိန်က နေ့ခင်းပိုင်း နှစ်နာရီဆိုတော့ အသားကုန်ပူတဲ့အချိန်ပေါ့ဗျာ။ တံတားပေါ်ရောက်တော့ ကျုပ်ဟာ တံတားသံဘောင်ကို မှီပြီး ရပ်နေမိတယ်။

တိုက်ဘာမြစ်ရေကတော့ ထုံးစံအတိုင်း နောက်ကျိပြီး ရွှံ့ရောင်ပေါက်နေတယ်။ ကျုပ်မျက်စိတွေဟာ ဟို...အဝေးက ဓာတ်ဆီချက်စက်ရုံကြီးကို မြင်နေရတယ်။ မီးလောင်လို့ ပျက်စီးသွားတဲ့ အဆောက်အအုံကြီးဆိုတော့ ကြည့်ရတာ သိပ်ကို အကျည်းတန်တာပဲ။ ရေနံလှောင်တဲ့ကန်တွေနဲ့ မျှော်စင်တွေဟာ ထီးထီးကြီး ရှိနေတုန်းပဲ ။ ဓာတ်ဆီတင်တဲ့ ပိုက်လုံးကြီးတွေကလည်း အများကြီး ကျန်နေသေးတယ်။ ဒီအဆောက်အအုံပျက်ကြီးဟာ မြင်ကွင်းတစ်ခုလုံးကို ရှေ့ကနေ ပိတ်ထားတယ်။

ကျုပ်ဟာ တံတားပေါ်မှာ အချိန်အတော်ကြာရပ်ပြီး တိုက်ဘာမြစ်ကို ငုံ့ကြည့်နေမိတယ်။ ဆိပ်ကမ်းမှာ ရပ်ထားတဲ့ ကုန်တင်လှေကြီးတွေကတော့ အများကြီးပဲ။ ဘိလပ်မြေအိတ်တွေ တင်ထားတာ တွေ့ရတယ်။ ပတ်ဝန်းကျင် ရှုခင်းကို ကြည့်ပြီး ကျုပ်စိတ်ထဲမှာ ကသိကအောက် ဖြစ်လာတယ်။ အော်...အော်ပြီး ရယ်ချင်တဲ့ စိတ်ကလည်း အပြင်းအထန်ပေါ်လာနေတယ်။ ချောင်းသာသာလောက်ရှိတဲ့ ဒီနေရာကို သူတို့က 'ဆိပ်ကမ်း'လို့



မာတိကာသို့ ▶▶

ခေါ်နေကြတယ်။ သူတို့က ဒီနေကို သင်္ဘောတွေ အများအပြားဆိုက်ထားတဲ့ ဂျီနိုအာနဲ့ နေပယ်လ်မြို့ ဆိပ်ကမ်းတွေနဲ့ အတူတူပဲလို့ ထင်နေသလား မပြောတတ်ဘူး။

ကျုပ်အမှန်အတိုင်း ပြောရရင် ဒီဆိပ်ကမ်းမြို့က ဝေးရာကိုထွက်ပြေးချင်တယ်။ အေးအေးဆေးဆေး ထိုင်ပြီး ငါးကင်ကို စားရင်း ပင်လယ်ပင်ကို ကြည့်နေနိုင်တဲ့ ဖီယူမီစီနို ပင်လယ်ဆိပ်ကမ်းမြို့မှာ သွားနေချင်တယ်။ နောက်ဆုံးမှာ ကျုပ်ဟာ အတွေးစကို ဖြတ်ပြီး တံတားပေါ်က ဖြတ်လျှောက်လာခဲ့တယ်။ မြစ်ရဲ့ တစ်ဖက်မှာ ရှိနေတဲ့ လွင်တီးခေါင်တောပိုင်းဒေသဘက်ကို လျှောက်လာခဲ့တယ်။ အမှန်တော့ ကျုပ်ဟာ ဒီတောပိုင်းဒေသနားမှာ ကပ်ပြီး နေခဲ့ပေမယ့် ဒီနေရာဒီဒေသကို လုံးဝမရောက်ခဲ့ဖူးဘူး။ ပထမတော့ ကျုပ်ဟာ လယ်ကွင်းပြင်တွေကြားမှာ ရှိနေတဲ့ လမ်းအတိုင်း ခပ်သွက်သွက် လျှောက်လာခဲ့တယ်။ အဲဒီလမ်း ဆုံးတော့ လမ်းကြားလေးတစ်ခု တွေ့တယ်။ လမ်းက မြေလမ်းဗျ...။

ဒီဘက်ရောက်တော့ လမ်းဘေးဝဲယာမှာ ချထားတဲ့ အမှိုက်ပုံကြီးတွေကို မြင်နေရတယ်။ တချို့ အမှိုက်ပုံတွေက သိပ်ပြီး ကြီးလွန်းတော့ တောင်ပူစာလေးတွေနဲ့ အတော်တူတာပဲ။ ရောမမြို့ထဲက ရှိရှိသမျှ အမှိုက်သရိုက်တွေဟာ ဒီနေရာမှာ လာပြီးစုပုံနေကြတယ်ထင်ပါရဲ့။ လယ်ကွင်းတွေပေါ်မှာ မြက်ပင်ဆိုလို့ တစ်ပင်မှ မရှိဘူး။ ပေရေညစ်ပတ်နေတဲ့ စက္ကူစုတ်တွေ၊ သံဘူးခွံတွေ၊ ပုပ်သိုးရိရွဲနေတဲ့ ဟင်းသီးဟင်းရွက်တွေ၊ အဝတ်စုတ်နဲ့ ဖိနပ်စုတ်တွေ...။ အဲသလို အညစ်အကြေး အစုတ်အပြတ်တွေက လွဲပြီး ဘာမှ မရှိဘူး။ သစ်ပင်ဝါးပင်ဆိုလို့လည်း တစ်ပင်မှ

မရှိဘူး။ ကျုပ်အနေနဲ့ ရှေ့ဆက်သွားချင်တဲ့စိတ် ပျောက်သွားတယ်။ တစ်ချိန်တည်း တစ်ပြိုင်တည်းမှာပဲ လာလမ်းအတိုင်း ပြန်ချင်တဲ့စိတ်က လည်း မရှိဘူး။ ကျုပ် အဲသလို ဖြစ်နေတုန်းမှာ ရုတ်တရက် အသံ တစ်သံကြားလိုက်ရတယ်။ အသံက ခွေးခေါ်သံလိုလို ဘာလိုပဲဗျ။

အသံလာတဲ့ဘက်ကို ကျုပ် ဖျတ်ခနဲ လှည့်ကြည့်တယ်။ ခွေး တစ်ကောင် ကြောင်တစ်မြီးမှ မတွေ့ရဘူး။ အမှန်တော့ ဒီနေရာဟာ ခွေး လေခွေးလွင့်တွေ လာပြီး နေသင့်တဲ့ နေရာတစ်ခုပါ။ ဒါပေမဲ့ ခွေးနဲ့ တူတာဆိုလို့ တစ်ကောင်မှ မရှိတော့ စဉ်းစားရခက်နေတယ်။ လူ တစ်ဦးတစ်ယောက်က ကျုပ်ကို ခေါ်နေတာများလား။ ဒါကြောင့်မို့ အသံလာတဲ့ဘက်ကို ကျုပ်လှည့်ကြည့်တယ်။

ကျုပ်မြင်နေရတဲ့ အမှိုက်ပုံကြီးတစ်ပုံရဲ့ နောက်မှာ သွပ်မိုးတဲလေး တစ်တဲရှိနေတယ်။ ဒီတဲကို ကျုပ် စောစောက မမြင်ခဲ့ဘူး။ တဲဝမှာတော့ အသက်ရှစ်နှစ်သမီးလောက်သာ ရှိသေးတဲ့ ကလေးမတစ်ယောက် ရပ်နေတယ်။ သူက ကျုပ်ကို လက်ယပ်ခေါ်နေတယ်။ ကျုပ် သေသေချာ ချာ ထပ်ကြည့်တယ်။ ကလေးမလေးက အသားဖြူပေမယ့် တစ်မျက်နှာလုံး ပေရေညစ်ပတ်နေတယ်။ သူ့မျက်စိတွေအောက်မှာလည်း ပန်းရောင်အကွက် ကလေးတွေ မြင်ရတယ်။ သူ့ဆံပင်က သပ်သပ်ရပ်ရပ်မရှိဘူး။ တစ်ခေါင်း လုံး ဖရိုဖရဲနဲ့ ပွရှုပ်နေတာပဲ။ သူ့အဝတ်အစားကလည်း တစ်မျိုးပဲ။ အပေါက်လေးပေါက်ပါတဲ့ ရွက်ဖျင်စတစ်စကို ဝတ်ထားတာ။ အပေါက် နှစ်ပေါက်က သူ့လက်နှစ်ဖက်အတွက် ဖောက်ထားတာ။ ကျန်နှစ်ပေါက် ကတော့ သူ့ခြေထောက်နှစ်ချောင်း ထိုးသွင်းဖို့ ဖောက်ထားတာပဲ ။

သူက ကျုပ်ကို လှမ်းကြည့်ပြီး "ဦးလေးက ဆရာဝန်လား"လို့ မေးတယ်။

"မဟုတ်ဘူးကွ"လို့ ကျုပ်က ဖြေတယ်။ "မင်းဘာပြုလို့ မေးတာလဲ။ ဆရာဝန်လိုနေလို့လား"

"တကယ်လို့ ဦးလေးက ဆရာဝန်ဆိုရင် ကျွန်မအမေ ဖျားနေလို့ တဲထဲဝင်ပြီး ဆေးကုပေးပါ"

ကျုပ်စိတ်ထဲမှာ ကျုပ်ဟာ ဆရာဝန်တစ်ယောက်မဟုတ်ဘူးလို့ မပြောရက်ဘူး။ ဒါကြောင့်မို့ တဲထဲကို ဝင်လိုက်သွားတယ်။ ပထမတော့ ကျုပ်ဟာ အဝတ်ဟောင်း ရောင်းတဲ့ဆိုင်တစ်ဆိုင်ထဲကို ရောက်သွားသလားလို့ ထင်လိုက်မိတယ်။ မျက်နှာကျက်က ထုပ်တန်းတွေမှာ ချိတ်ထားတဲ့ ပစ္စည်းတွေဟာ အမျိုးကို စုံနေတာပဲ။ အင်္ကျီတွေ၊ ဘောင်းဘီတွေ၊ ခြေအိတ်တွေ၊ ရှူးဖိနပ်တွေ၊ အိုးတွေခွက်တွေနဲ့ လက်နှီးစုတ်တွေပဲ။ အဲဒါတွေက လွဲပြီး တဲထဲမှာ တခြားဘာပစ္စည်းမှ မရှိဘူး။

ကျုပ်ဟာ အဲဒီပစ္စည်းတွေနဲ့ တိုးမိ၊ တိုက်မိမှာစိုးလို့ ခေါင်းငုံ့ပြီး လျှောက်နေရတယ်။ ကလေးမလေးက နေမကောင်းဖြစ်နေတယ်လို့ ပြောတဲ့ သူ့အမေကို လိုက်ရှာနေတာပါ။ နောက်ဆုံးမှာတော့ ကလေးမလေးက တဲရဲ့ ထောင့်တစ်ထောင့်ထဲက အဝတ်စုတ်ပုံပေါ်မှာ လှဲနေတဲ့ သူ့အမေကို လက်ညှိုးထိုးပြတယ်။ ကျုပ်အနားရောက်သွားတော့ အဝတ်စုတ်ပုံပေါ်ကနေပြီး ကျုပ်ကို ကြည့်နေတဲ့ မျက်လုံးတစ်လုံးကို မြင်ရတယ်။ ကျန်တဲ့ တစ်လုံးကတော့ ဆံပင်ဖြူဖုံးနေလို့ မမြင်ရဘူး။



မာတိကာသို့

အမျိုးသမီးရဲ့ ပုံပန်းကို ကြည့်ပြီး ကျုပ် စိတ်မကောင်း ဖြစ်ရပါတယ်။ ရုတ်တရက် ကြည့်လိုက်ရင် အဘွားအိုတစ်ယောက်လို့ ထင်ရပါတယ်။ ဒါပေမဲ့ သေသေချာချာ ကြည့်လိုက်တော့ သူဟာ အသက်ငယ်ငယ်ပဲ ရှိပါသေးတယ်။ ကျုပ်ကို မြင်တော့ ချက်ချင်းပဲ သူက "ကျွန်မတို့ ပြန်တွေ့ကြရပြီနော်"လို့ ပြောပါတယ်။

ကလေးမကလေးက ရယ်စရာအလွန်ကောင်းမယ့် ပြက်ကွက်တစ်ခုကို မြင်ရတော့မယ့်အတိုင်းပဲ အော်ရယ်တယ်။ ပြီးတော့ မြေကြီးပေါ်မှာ တင်ပျဉ်ခွေ ထိုင်ချလိုက်ပြီး ဘူးခွံတွေနဲ့ ကစားနေတယ်။ ကျုပ်ကတော့ ဟိုအမျိုးသမီးကို ကြည့်ပြီး "အမှန်အတိုင်းပြောရရင် ကျွန်တော် ခင်ဗျားကို မသိဘူး"လို့ ပြောလိုက်တယ်။ "ခင်ဗျား အခု ဘာဖြစ်နေတာလဲ ...၊ ဟိုကလေးမကလေးက ခင်ဗျားရဲ့ သမီးလား"

"ဟုတ်တယ်၊ ကျွန်မသမီးပဲ"လို့ သူက ပြန်ပြောတယ်။ "သူဟာ ရှင့်ရဲ့ သမီးပါ"တဲ့။

ကလေးမက နောက်တစ်ကြိမ်ရယ်ပြန်ပါတယ်။ ပြက်လုံးကောင်းတစ်ခုကို ကြားလိုက်ရလို့ ရယ်တာမျိုးပါ။ ကျုပ်ကတော့ "အေးပေါ့လေ၊ သူဟာ ကျွန်တော့်သမီး ဖြစ်ချင်လည်း ဖြစ်ပေမပေါ့။ တခြားလူတစ်ယောက်ယောက်ရဲ့ သမီးလည်း ဖြစ်ချင်ရင် ဖြစ်နိုင်တာပဲ"လို့ ပြန်ပြောလိုက်တယ်။

"လုံးဝမဟုတ်ဘူး"လို့ အမျိုးသမီးက ပြန်ပြောပြီး လှဲနေရာက ထတယ်။ ကျုပ်ကို လက်ညှိုးနဲ့ ငေါက်ငေါက်ထိုးပြီး "သူဟာ ရှင့်သမီးမှ ရှင့်သမီးအစစ်၊ ရှင်ဟာ လူပျင်း၊ လူလေလူလွင့်၊ လူပေါ်ကြော့၊ တာဝန်မဲ့တဲ့လူ...။ ရှင်ဟာ အဲသလို လူစား"တဲ့။



မာတိကာသို့ ▶▶

အဲသလို ကျုပ်ကို ပုတ်ခတ်ပြီး ပြောနေတဲ့စကားတွေကြားတော့ ကလေးမလေးက အော်ရယ်တယ်။ ဒီစကားမျိုးတွေကို သေချာပေါက်ကြား ရလိမ့်မယ်လို့ စောစောကတည်းက မျှော်လင့်ထားဟန်တူပါရဲ့။ ကျုပ်က စိတ်နည်းနည်းတိုသွားတယ်။ "ခင်ဗျားစကားပြောတာ သတိထားပြောပါ။ ကျုပ် ခင်ဗျားကို လုံးဝ မသိခဲ့ဘူးလို့ ပြောထားခဲ့ပြီးပြီ"

"ဟား...ဟား...ဟား... ရှင်က ကျွန်မကို မသိဘူးတဲ့။ ရှင် ကျွန်မ ကို မသိဘဲနဲ့ ကျွန်မအိမ်ကိုတော့ ရောက်လာတယ်။ ဘယ်လိုလုပ်ပြီးရောက် လာရတာလဲ။ ဒီအိမ်လာတဲ့လမ်းကို ရှင်ဘယ်လိုနည်းနဲ့ သိရတာလဲ၊ ပြောစမ်းပါဦး"

"ရှင်ဟာ သတ္တိလည်း မရှိဘူး၊ တာဝန်လည်း မဲ့တယ်"လို့ ကလေးမလေးက သူ့အမေစကားကို သံယောင်လိုက်ပြီး ရေရွတ်နေတယ်။ အခုဆိုရင် ကျုပ်တစ်ကိုယ်လုံးမှာ ချွေးတွေနဲ့ စိုရွှဲနေတယ်။ ပူတာက လည်းတစ်ကြောင်း၊ စိတ်ရှုပ်တာကလည်းတစ်ကြောင်းကြောင့် ချွေးတွေဟာ ပိုပြီးထွက်လာနေတယ်။

အမျိုးသမီးကတော့ ကလေးမဘက်ကို လှည့်ကြည့်ပြီး "ဟဲ့... ကောင်မလေး...၊ ငါ့ကို လက်ဆွဲအိတ် ယူပေးစမ်း"လို့ ခိုင်းတယ်။ ကလေးမက ကစားနေရာက ထလာပြီး အပေါ်ထပ်တန်းမှာ ချိတ်ထား တဲ့ အနက်ရောင် ကတ္တီပါ လက်ဆွဲအိတ်ကို လှမ်းယူပေးတယ်။ အိတ်က ဟောင်းလှပါပြီ။ ပေါက်တဲ့နေရာက ပေါက်ပြီး ပေရေညစ်ပတ်နေတဲ့အိတ် ပါ။ အမျိုးသမီးဟာ အိတ်ကို ဆွဲဖွင့်ပြီး အထဲက စာရွက်တစ်ရွက်ကို ထုတ်ယူလိုက်ပါတယ်။



မာတိကာသို့ ▶▶

"ဒီမှာ လက်ထပ်စာချုပ်၊ မြင်ရဲ့လား၊ ယူပြီး ဖတ်ကြည့်စမ်း၊ အယ်လ်ဗီယာနဲ့ အာနက်စတို ရာပယ်လီ...လို့ ရေးထားတာ တွေ့လား၊ ရှင် ငြင်းချင်သေးသလား၊ အာနက်စတို ရာပယ်လီ"

ကျုပ်တော်တော်အံ့ဩသွားတယ်။ အာနက်စတိုဆိုတဲ့နာမည်ဟာ ကျုပ်နာမည်ပါ။ ဘယ်လို ဖြစ်တာလဲလို့ တွေးနေမိတယ်။ 'အာနက်စတို ဆိုတာကတော့ ဟုတ်တယ်၊ ဒါပေမဲ့ ရာပယ်လီတော့ မဟုတ်ဘူး"လို့ ကျုပ်က ပြန်ပြောတယ်။

အမျိုးသမီးဟာ လှဲနေရာက ထရပ်လိုက်ပါတယ်။ ဆံပင်တွေ ဖြူပြီး သွားတွေ လုံးဝမရှိတော့ပေမယ့် အသက်ကတော့ ငယ်သေးတာ အမှန်ပါပဲ။ သုံးဆယ်တောင်မှ ကျော်ဦးမယ်မထင်ပါဘူး။ သူဟာ ကျုပ်ဆီကို လျှောက်လာပြီး ကျုပ်ရှေ့မှာ ခါးထောက်ပြီး ရပ်နေတယ်။ "ဩော် ရှင်ဟာ ရာပယ်လီ မဟုတ်ဘူးဆိုပါတော့၊ ဟင်း...ဟင်း... ရှင်ဟာ ရာပယ်လီမှ ရာပယ်လီအစစ်၊ ရှင် ရာပယ်လီဆိုတာကို ဘုရားသခင်ရှေ့မှာ ကျွန်မကျမ်းကျိန်ပြီး သစ္စာဆိုဝံ့တယ်"လို့ ဒေါသတကြီး ပြောတယ်။

"အင်း...အခုမှပဲ ကျွန်တော် သဘောပေါက်တယ်"လို့ ကျုပ်က ပြန်ပြောတယ်။ "ခင်ဗျားဟာ နေမှ မကောင်းပဲ။ ပေါက်ကရတွေ ပြောနေမှာပေါ့...၊ ကိစ္စမရှိပါဘူး။ ကျုပ်သွားလိုက်ပါဦးမယ်"

"ခဏနေဦး"လို့ သူက လှမ်းတားတယ်။ ဒီအတွင်းမှာ ကလေးမလေးဟာ ထိုင်ရာက ထပြီး သိပ်ကို ပျော်ရွှင်မြူးထူးနေတဲ့ အမူအရာနဲ့ ကခုန်

နေတယ်။ အမျိုးသမီးကတော့ သရော်သံနဲ့ 'ဩော်...အာနက်စတို၊ အာနက်စတို... သူ့မယားကို စွန့်ပစ်ပြီး ဝေးရာကို ထွက်ပြေးသွားတဲ့ မဟာသူရဲကောင်းကြီး အာနက်စတိုရယ်၊ ရှင့်မျက်နှာကို မမြင်ရတာ တစ်နှစ်တောင် ကြာခဲ့ပါပကောလား...၊ ကျွန်မနဲ့ ဒီသတ္တဝါမကလေး ရှင်ထွက်ပြေးနေတဲ့ တစ်နှစ်အတွင်းမှာ ဘယ်လိုနေထိုင်ပြီး ဘယ်လိုစားသောက်နေရသလဲဆိုတာ ရှင်သိရဲ့လား"လို့ ပြောနေတယ်။

"ဟာ...အဲဒါတွေ ကျုပ်မသိဘူး"လို့ ကျုပ်က ခပ်ရိုင်းရိုင်းလေသံနဲ့ ပြန်ပြောတယ်။ "သိလည်း မသိချင်ဘူး၊ ကဲ ...ကျုပ်သွားမယ်"

"ဟဲ့ ကောင်မလေး၊ တို့သားအမိ ဘယ်လို နေရစားရတယ်ဆိုတာ နင့်အဖေကို ပြောပြလိုက်စမ်း"လို့ သူက ကလေးမဘက် လှည့်ပြီး အော်တယ်။

"တောင်းစားနေရတယ်၊ တောင်းစားနေရတယ်"လို့ ကလေးမက သီချင်းဆိုသလို အော်ပြောနေတယ်။

အမှန်အတိုင်း ဝန်ခံရတော့မှာပဲ။ ကျုပ်စိတ်ဟာ အတော်ကြီးကို ဒုက္ခရောက်နေပြီ။ ဒီတိုက်ဆိုင်မှုတွေအားလုံးဟာ ကျုပ်စိတ်ကို အများကြီး အနှောင့်အယှက်ပေးနေပြီ။ အာနက်စတိုဆိုတဲ့ နာမည်ရယ်၊ ကျုပ်အိမ်က ထွက်လာတာရယ်၊ ကျုပ်မှာ မိန်းမနဲ့ သမီးလေးတစ်ယောက် ရှိတာရယ်၊ အဲဒီ တူညီမှုတွေဟာ သိပ်ကို ထူးဆန်းနေတယ်။

အမျိုးသမီးက ကျုပ် ချီတုံချတုံဖြစ်နေတာကို ကြည့်ပြီး လှမ်းအော်တယ်။ "မယားနဲ့ သားသမီးတွေကို စွန့်ပစ်ပြီး ထွက်ပြေးတဲ့ ယောကျ်ားတွေဟာ ဘာဖြစ်တတ်တယ်ဆိုတာ ရှင်သိရဲ့လား...။ သူတို့ရောက်ရမယ့်

နေရာဟာ ထောင်ပဲရှိတယ်၊ နားလည်ရဲ့လား၊ လူယုတ်မာရဲ့။ နင်သွားရမယ့်နေရာဟာ ထောင်ပဲ”တဲ့။

ကျုပ်ရင်ထဲကို စိုးရိမ်ထိတ်လန့်စိတ်တွေ ဝင်လာတယ်။ ကျုပ်ဟာ တဲတံခါးဘက်ကို အမြန်လျှောက်လာခဲ့တယ်။ တဲပြင်ဘက်ကို ထွက်တော့မယ်ဆိုတဲ့ စိတ်ကူးနဲ့ပါ။ ဒါပေမဲ့ တဲဝက ရပ်ပြီး ကြည့်နေတဲ့ လူတစ်ယောက်ကို မြင်လိုက်တာနဲ့ ဖျတ်ခနဲရပ်နေလိုက်မိတယ်။ ပိန်ပိန်လှီလှီ မိန်းမတစ်ယောက်ပါ။ ဆင်းရဲပုံပေါ်ပေမယ့် ဝတ်စားထားတာက သပ်သပ်ရပ်ရပ် ရှိပါတယ်။ သူဟာ အံ့အားသင့်ပြီး ရပ်နေတဲ့ ကျုပ်ကို လှမ်းပြောတယ်။

“သူ့ကို ဂရုစိုက်မနေနဲ့။ သူက သူတွေ့သမျှ ယောက်ျားတိုင်းကို သူ့ ယောက်ျားလို့ စွဲနေတာ။ ဟိုမျောက်မကလေးကလည်း အိမ်ရှေ့က ဖြတ်သွားတဲ့ လူတိုင်းကို အိမ်ထဲဝင်လာအောင် မရမနေ ခေါ်တာပဲ။ သူက သက်သက်မဲ့ အပျော်လုပ်နေတာ။ အေး…နင်သတိထား၊ နောက်တစ်ခါ ငါနဲ့တွေ့လို့ကတော့ နာပြီသာမှတ်ပေတော့၊ တော်တော်ကို ဆိုးရွားတဲ့ စုန်းမကလေး…”

ချက်ချင်းပဲ အဲဒီမိန်းမဟာ လူမမာမိန်းမဘက်လှည့်ပြီး “ဒီမယ် အယ်လ်ဗီရာ၊ ဒီလူဟာ နင့်ယောက်ျားမဟုတ်ဘူး”လို့ ပြောတယ်။ အဲလ်ဗီရာကလည်း ချက်ချင်းနားလည်သွားပုံပေါ်ပါတယ်။ တဲထောင့်က သူ့နေရာကို ပြန်သွားပြီး ထိုင်နေတယ်။ ဟိုမိန်းမကတော့ ကျုပ်နားက ဖြတ်ပြီး မီးဖိုပေါ်က အိုးကို မွှေပေးနေတယ်။ “သူစားဖို့အတွက် ကျွန်မကပဲ ဒိုင်ခံပြီး ရှာကျွေးနေရတာ”လို့ သူက ရှင်းပြတယ်။ “သူများ



မာတိကာသို့ ▶▶

တကာရဲ့ ပေးစာကမ်းစာနဲ့ စားနေရတယ်လို့ ပြောတာကတော့ အမှန်ပဲ။ ဒါပေမဲ့ သူ့ယောကျ်ားထွက်ပြေးတယ်ဆိုတာကတော့ မမှန်ဘူး၊ သူ့ယောကျ်ားက သေသွားပြီ...”

ကျုပ်အနေနဲ့ အခြေအနေမှန်ကို နားလည်သွားပြီ။ အိတ်ဆောင်မှတ်စုစာအုပ်ထဲက လီယာငွေ တစ်ရာတန်တစ်ရွက်ထုတ်ပြီး ကလေးမလေးကို ပေးလိုက်တယ်။ ကလေးမလေးဟာ ကျုပ်ပေးတဲ့ ငွေကို ဖျတ်ခနဲဆွဲယူသွားပေမယ့် ကျေးဇူးတင်စကားတောင် မပြောဘူး။ အဲဒီနောက်မှာတော့ ကျုပ်ဟာ တဲထဲက ထွက်လာပြီး လာလမ်းအတိုင်း ပြန်လျှောက်လာခဲ့တယ်။ ကွင်းပြင်ထဲက တဲထဲမှာ အချိန်ဟော်တော်ကြာ နေလာခဲ့ရတဲ့ ကျုပ်ဟာ ကျုပ်ရဲ့ အိမ်ထဲကို ပြန်ဝင်သွားတဲ့အခါမှာ ဥမင်လိုဏ်ခေါင်း တစ်ခုအတွင်းကို ဝင်သွားရသလို ခံစားနေရတယ်။

ဒါပေမဲ့ ကျုပ်ရဲ့ အိမ်ထဲမှာက အိမ်ထောင်ပရိဘောဂပစ္စည်းတွေ အသင့်အတင့် ရှိနေသေးတယ်။ ဟိုတဲထဲမှာလို ခေါင်းပေါ်က ထုပ်တန်းတွေဟာ သံတွေရိုက်ပြီး ရှုပ်ပွေနေအောင် ချိတ်ထားတာမျိုးတွေ မတွေ့ရဘူး။ ကျုပ်မိန်းမဟာ မီးဖိုခန်းထဲမှာ အလုပ်ရှုပ်နေတယ်။ ကျုပ်ရောက်သွားတော့ ကျုပ်ကြိုက်တတ်တဲ့ ဟင်းတစ်ခွက်နဲ့ ပေါင်မုန့်ချကျွေးတယ်။ ပန်းကန်တွေ၊ ဇွန်းခက်ရင်းတွေနဲ့ အိုးခွက်တွေကို ဆေးကြောနေရာကနေပြီး ကျုပ်ရဲ့ အရိပ်အခြည်ကို မသိမသာ အကဲခတ်နေတယ်။ စားသောက်အပြီးမှာတော့ ကျုပ်ဟာ ကျုပ်မိန်းမဆီ လျှောက်သွားပြီး သူ့ရဲ့လည်ကုပ်ကို အသာအယာကလေး မွှေးမွှေးပေးလိုက်တယ်။ ကျုပ်တို့ လင်မယားကြားမှာ ငြိမ်းချမ်းရေးရသွားပြီဆိုတဲ့ အထိမ်းအမှတ်လေးတစ်ခုပေါ့။

အဲဒီနောက် ရက်အနည်းငယ်ကြာတော့ ကျုပ်ကြုံခဲ့ရတဲ့အဖြစ်ကို ကျုပ်မိန်းမသိသွားအောင် ပြောပြလိုက်တယ်။ တဲထဲက ကလေးမလေး အတွက် အဆင်ပြေသွားအောင် တစ်ခုခုတော့ လုပ်ပေးမယ်လို့လည်း ကျုပ် ဆုံးဖြတ်လိုက်တယ်။ အခုအခါမှာတော့ ကျုပ်ကို အာနက်စတို ရာပယ်လီပါလို့ ခွပ်စွဲခံရမှာ မကြောက်တော့ပါဘူး။

ဒါပေမဲ့လည်း ကျုပ်ပြောတဲ့စကားကို ခင်ဗျားတို့ ယုံကြပါ့မလား မပြောတတ်ဘူး။ ကျုပ်အဲဒီနေရာကို ပြန်သွားတဲ့အခါမှာ တဲလည်း မတွေ့ရဘူး။ လူမမာမိန်းမနဲ့ သူ့သမီးလေးကိုလည်း မတွေ့ရဘူး။ သူတို့ အတွက် ချက်ပြုတ်ပေးနေတဲ့ ပိန်ချောက်ချောက်မိန်းမကိုလည်း မမြင်ရဘူး။

ကျုပ်အဲဒီနားတစ်ဝိုက်မှာ တစ်နာရီကြာလောက် လျှောက်သွားနေသေး တယ်။ ပူပြင်းလှတဲ့ နေရောင်ရယ်၊ အမှိုက်ပုံတွေရယ်၊ အိုးစုတ်ခွက်စုတ် အစုတ်ပလုတ်တွေရယ်...၊ အဲဒါတွေကလွဲလို့ တခြားဘာကိုမှ မတွေ့ရဘူး။ ကျုပ်ဟာ စိတ်ပျက်လက်ပျက် ဖြစ်ပြီး အိမ်ကို ပြန်လာခဲ့ရတယ်။

ကျုပ်ကတော့ ဒုတိယတစ်ခေါက် ပြန်အသွားမှာ လမ်းမှားတယ်လို့ပဲ ထင်နေမိတယ်။ ဒါပေမဲ့ ကျုပ်မိန်းမကတော့ ကျုပ်ထင်သလို မထင်ဘူး။ သူကတော့ ကျုပ်အနေနဲ့ သူ့ကို စွန့်ခွာပြီး ထွက်ပြေးတော့မယ်လို့ စိတ် ကူးပြီးခါမှ နောင်တတရားရပြီး ဒီဇာတ်လမ်းကို လုပ်ကြံဖန်တီး ပြောတယ် လို့ ဆိုနေတာပဲ။



မာတိကာသို့ ▶▶

# လူပြက်

အဲဒီနှစ် ဆောင်းရာသီမှာ ကျူပ်ဟာ တစ်နေ့ရာရာမှာ အတည်တကျ နေထိုင်ပြီး လုပ်ကိုင်ရမယ့် အလုပ်တစ်ခုကို မလုပ်တော့ဘူးလို့ ဆုံးဖြတ်လိုက်တယ်။ အဲသလိုလုပ်မယ့်အစား ဂစ်တာတစ်လက်လွယ်ပြီး သီချင်းဆိုတတ်တဲ့ သူငယ်ချင်းတစ်ယောက်နဲ့အတူ စားသောက်ဆိုင်တွေမှာ လှည့်လည်ဖြေဖျော်တဲ့အလုပ်ကို လုပ်မယ်လို့ စီစဉ်တယ်။ ကျူပ်သူငယ်ချင်းနာမည်က မီလိုနီတဲ့။ ရင်းနှီးခင်မင်နေကြတဲ့ လူတွေက သူ့ကို 'ပါမောက္ခကြီး'လို့ နောက်ပြောင်ပြီး အမည်ပေးထားကြတယ်။ ဘာကြောင့်လဲဆိုတော့ တစ်ချိန်တုန်းက မီလိုနီဟာ ဆွီဒင်အားကစားပညာကို သင်ကြားပေးနေတဲ့ ဆရာတစ်ယောက် ဖြစ်ခဲ့ဖူးလို့ပါ။

မီလိုနီဟာ လူလုံးလူဖန် ခပ်ထွားထွားပါ။ အသက်ငါးဆယ်လောက်



မာတိကာသို့ ▶▶

ရှိပြီ။ သူ့ပုံပန်းက ဝတယ်လို့ မပြောနိုင်ပေမယ့် အသားဆူဖြိုးပြီး ကြံ့ခိုင်တောင့်တင်းပါတယ်။ ကြီးမားထွားကျိုင်းတဲ့ ကိုယ်ခန္ဓာပိုင်ရှင်ဆိုတော့ သူထိုင်လိုက်ရင် သူ့ဖင်အောက် ရောက်သွားတဲ့ ကုလားထိုင်ဟာ 'ကျွိခနဲ၊ စွိခနဲ' ထအော်တတ်ပါတယ်။

ကျုပ်ဟာ ဂစ်တာတီးရင် ကျုပ်စိတ်ကူးနဲ့ကျုပ် ကောင်းမယ်ထင်သလို တီးတတ်တဲ့ကောင်ပါ။ ဂစ်တာကို တီးပြီဆိုရင်လည်း တစ်ချက်ကလေးမှ မလှုပ်မရှားဘဲ အလေးအနက်ထားပြီး တီးတတ်ပါတယ်။ ဘာပြုလို့လဲဆိုတော့ ကျုပ်ဟာ လူပြက်တစ်ယောက် မဟုတ်ပါဘူး။ တကယ့်အနုပညာသည်စစ်စစ်တစ်ယောက်မို့ပါ။ လူပြက် လူရွှင်တော်အလုပ်ကိုတော့ မီလိုနီက တာဝန်ယူပြီး လုပ်ပါတယ်။

မီလိုနီကတော့ ပွဲစပြီဟေ့ဆိုတာနဲ့ တစ်ပြိုင်နက် သူ့လုပ်နေကျထုံးစံအတိုင်း နံရံကို ကျောနဲ့ မှီရပ်လိုက်တယ်။ ခေါင်းပေါ်က ဦးထုပ်ဟောင်းကြီးကို သူ့မျက်စိတွေ ဖုံးလုနီးပါးအထိ ဆွဲချလိုက်တယ်။ သူ့ခါးပြတ်အင်္ကျီရဲ့ သိုင်းကြိုးတွေကို လက်မနှစ်ခုနဲ့ ထိုးကိုင်လိုက်တယ်။ သူ့ဖင်ဟာ ဘောင်းဘီရှည်ကျပ်ကျပ်ရဲ့ နောက်ဘက်ကို စူကော့ထွက်နေတယ်။ အဲဒီပုံစံနဲ့ အပေါ်ကို မော့ပြီး သီချင်းအော်ဆိုနေတဲ့ မီလိုနီဟာ လမင်းကို မော့ကြည့်ပြီး သီချင်းဟစ်နေတဲ့ အရက်မူးသမားတစ်ယောက်နဲ့ အတော်ကို တူတာပဲ။

အမှန်တော့ မီလိုနီဟာ သီချင်းဆိုနေပေမယ့် တကယ့်သီချင်းအဆိုသမားတစ်ယောက်တော့ မဟုတ်ဘူး။ ဘာကြောင့်လဲဆိုတော့ သူဟာ အသံလည်းမရှိ၊ နားလည်းမပါတဲ့ လူတစ်ယောက်ပါ။ သီချင်းအဆိုက သူပိုင်တဲ့ အလုပ်မဟုတ်ဘူးပေါ့။ အဲဒီတော့ သူဟာ သီချင်းကို အော်

ဆိုနေရာကနေပြီး တဖြည်းဖြည်းနဲ့ လူတွေရယ်ရအောင် လုပ်ပြနေတဲ့ လူရွှင်တော်တစ်ယောက်အဖြစ်ကို ကူးပြောင်းသွားတယ်။

မီလိုနီအနေနဲ့ ပိုင်ပိုင်နိုင်နိုင် ဆိုနိုင်တဲ့ သီချင်းတွေက အလွမ်းသီချင်းတွေပါ။ ပုံမှန်အားဖြင့် ကျကျနနဆိုနိုင်ရင် ကြားရတဲ့သူတွေအားလုံး စိတ်တွေလှုပ်ရှားပြီး မျက်ရည်တွေ ကျလာနိုင်လောက်တဲ့ နာမည်ကြီး သီချင်းတွေပါ။ ဒါပေမဲ့ မီလိုနီရဲ့ ပါးစပ်ထဲရောက်သွားတော့ အဲဒီသီချင်းတွေဟာ ရှင်သန်မှု မရှိတော့ဘူးဗျ။ မျက်ရည်ကျရမယ့်အစား ကြားရတဲ့ လူတွေက တဝါးဝါး တဟားဟားနဲ့ အော်ရယ်နေကြတယ်။ ဘာကြောင့်လဲဆိုတော့ မီလိုနီကိုယ်တိုင်က အဲဒီသီချင်းတွေကို ဆိုတဲ့အခါမှာ ကြားရသူတွေ ရယ်ချင်လာအောင် ဘယ်အပိုဒ်ကျရင် ဘယ်လိုဆိုရမယ်ဆိုတာ သိနေသကိုးဗျ။

ကျွန်တော့်အနေနဲ့ ဒီလူရဲ့ အဖြစ်ကို နားမလည်နိုင်ဖြစ်ရတာတော့ အမှန်ပဲ။ သူငယ်ငယ်တုန်းက မိန်းမတချို့က သူ့ကို အတော်ဆိုးဆိုးဝါးဝါး ဆက်ဆံခဲ့သလားတော့ မပြောတတ်ဘူး။ သူ့အကျင့်စရိုက်က တစ်မျိုးဖြစ်နေတယ်။ တခြားတော့ မဟုတ်ပါဘူး။ ဒီလူဟာ မိန်းမတွေနဲ့ အလှအပအရာမှန်သမျှကို လူရယ်စရာဖြစ်အောင် လုပ်ချင်တတ်တဲ့ အကျင့်ရှိနေလို့ပါ။ အခု ကျုပ်နဲ့ တွဲပြီး အလုပ်လုပ်နေခိုက်မှာလည်း သူဟာ လွမ်းစရာဆွေးစရာ အလွန်ကောင်းတဲ့ သီချင်းတွေကို အသံသေး အသံကြောင်နဲ့ ဖျက်ဖျက်ပြီး ဆိုသွားနေတာကို တွေ့ရတယ်။

အဲသလို အဖြစ်မျိုး တွေ့ရပြန်တော့လည်း ကျုပ်စိတ်ထဲမှာ ရှက်သလိုလို ဖြစ်ရတယ်။ ကျုပ်က ဂစ်တာကို ကောင်းကောင်းတီးနေပေမယ့်



မာတိကာသို့ ▶▶

ကျုပ်နဲ့ တွဲနေတဲ့ အဖော်က အဆိုတော်တစ်ပိုင်း လူပြက်တစ်ပိုင်းဖြစ်နေတော့ ရက်စိတ်ဝင်မိတာပဲပေါ့ဗျာ။ ကျုပ်မှတ်မိနေသေးတယ်။ မကြာသေးခင် အချိန်တစ်ချိန်တုန်းက ဒီသီချင်းတွေကို ကျုပ်တီးခဲ့ဖူးတယ် ဆိုတဲ့လူကလည်း တကယ့်အနုပညာရှင်စစ် အဆိုသမားတစ်ယောက်ပါ။ အဲဒီတော့ ဘာပြဿနာမှ မရှိခဲ့ဘူး။

အခုကျတော့ သီချင်းကောင်းတွေကို ကျုပ်က လက်စွမ်းပြပြီး တီးနေပေမယ့် အဖော်လုပ်တဲ့ အဆိုသမားက ဖျက်ဆိုနေတော့ စိတ်မချမ်းမသာဖြစ်မိတာ အမှန်ပဲ။ ကျုပ်တို့လုပ်နေတဲ့ လုပ်ရပ်ဟာ မသိမ်မွေ့ဘူး။ မယဉ်ကျေးဘူးဆိုတဲ့ သံသယက ဝင်နေတယ်။ စားသောက်ဆိုင်တွေရှိရာ လမ်းတွေထဲမှာ တစ်လမ်းဝင် တစ်လမ်းထွက် သွားနေကြတဲ့ ကျုပ်တို့ နှစ်ယောက်ဟာ တစ်ခါတလေကျတော့လည်း ဒီကိစ္စကို ပြောမိဆိုမိကြတယ်။

တစ်ကြိမ်မှာ ကျုပ်က “ခင်ဗျားကို စိတ်ထိခိုက်နာကျည်းအောင် မိန်းမတွေက ဘာတွေများ လုပ်ခဲ့သလဲ”လို့ မေးမိတယ်။ ကျုပ် အဲသလို မေးတဲ့အချိန်တုန်းက သူဟာ ခါတိုင်းလိုပဲလူပြက်အဖြစ် အသုံးတော်ခံပြီးစ အချိန်တိုင်းမှာ ဖြစ်နေကျ ပုံစံအတိုင်း တွေတွေငေးငေးနဲ့ တစ်ခုခုကို စဉ်းစားတွေးတောသလို ဖြစ်နေတဲ့အချိန်ပေါ့။ “ဟင်…ငါ့ကိုလား”လို့ ရေရွတ်တယ်။ ပြီးတော့ “ငါ့ကို ဘာမှ မလုပ်ကြပါဘူး”လို့ ဖြေတယ်။ “ကျွန်တော် ခင်ဗျားကို ဒီမေးခွန်းမေးတာ တခြားကြောင့် မဟုတ်ပါဘူး။ ခင်ဗျားဟာ မိန်းမတွေကို သရော်တဲ့နေရာမှာ သိပ်ပြီး စိတ်ပါလက်ပါနဲ့ လုပ်နေတာ တွေ့…တွေ့နေလို့ မေးမိတာပါ”လို့ ကျုပ်က ရှင်းပြလိုက်တယ်။



မာတိကာသို့

ကျုပ် သူနဲ့တွဲပြီး အလုပ်လုပ်နေရတာဟာ ကျုပ်အတွက် ထိုက်သင့်သလောက် အကျိုးရှိနေလို့သာပေါ့။ တကယ်လို့ အကျိုးသာမရှိရင် သူ့ကို လမ်းခွဲထားခဲ့မှာပဲ။ တကယ်တော့ အဆိုကောင်းကောင်း ဆိုတတ်တဲ့ လူတစ်ယောက်နဲ့ တွဲရတာထက် သူနဲ့ တွဲသွားရတာက ငွေပိုရတာတော့ အမှန်ပဲ။ ကျုပ်တို့ဟာ စားသောက်ဆိုင်ကြီးတွေဘက်ကို ခြေဦးမလှည့်ကြဘူး။ အများဆုံး သွားတာက လမ်းကြိုလမ်းကြားတွေထဲက ဈေးပေါပေါနဲ့ စားလို့ သောက်လို့ရတဲ့ ဆိုင်ငယ်တွေပဲ။

အဲသလို ဆိုင်မျိုးတွေမှာက ဈေးကလည်းပေါတော့ လာတဲ့လူများတယ်။ လူတန်းစားလည်း အတော်စုံတယ်။ ကျုပ်တို့ဆိုင်ထဲဝင်သွားပြီဆိုတာနဲ့ တစ်ပြိုင်နက် "ဟာ...ပါမောက္ခကြီးပါလား၊ ဟော့... ပါမောက္ခကြီးလာတယ်ကွ..."ဆိုတဲ့ အော်သံတွေကို ကြားရစမြဲပါ။ သူကလည်း ယဉ်ကျေး သိမ်မွေ့တဲ့ အမူအရာနဲ့ ခါးကလေးကို ညွတ်ပြီး "လူကြီးမင်းတို့ကို ဖြေဖျော်ဖို့ ရောက်လာရပြန်ပါပြီခင်ဗျာ"လို့ ပြောင်နှောက်နှောက်လေသံနဲ့ ပြန်ပြောလေ့ရှိတယ်။ သူ့ရဲ့အမူအရာနဲ့ လေသံကို မြင်ရကြားရတဲ့လူတွေက ဝိုင်းပြီး ရယ်ကြတယ်။

အဲဒီအချိန်အတွင်းမှာပဲစားပွဲထိုးတွေဟာ အရက်ပုလင်းတွေ လာချကြ၊ စပါဂက်တီခေါက်ဆွဲကြော်ပန်းကန်တွေ လာချကြနဲ့ အလုပ်များလာကြပြီ။ လူတွေကလည်း စားကြသောက်ကြပြီ။ မီလိုနီကလည်း အသံသေးအသံကြောင်နဲ့ "တကယ့်ကို လှပတဲ့ သီချင်းလေးတစ်ပုဒ်ပါခင်ဗျာ၊ ရိုဆီနာတစ်ယောက် သူ့ရွာက ထွက်လာတဲ့အခါမှာလို့ အမည်ပေးထားပါတယ်။ ရိုဆီနာအဖြစ် အသုံးတော်ခံမှာကတော့ ကျွန်တော်ပါပဲ"လို့



မာတိကာသို့

ကြေညာလိုက်ပါတယ်။

ဆိုင်ထဲက လူတွေဟာ စပါဂက်တီခေါက်ဆွဲကြော်ကို ပါးစပ်တွေ ထည့်ရင်း တန်းလန်း၊ ဝါးရင်းမျိုရင်းတန်းလန်းကနေပြီး ပါမောက္ခရဲ့ ဟန်အမူအရာကို ကြည့်ကြတယ်။ သူသီဆိုမယ့် ရိုဆီနာရဲ့ အသံကို နား စွင့်ကြတယ်။ ဒီလူတွေအားလုံးဟာ အဆင့်အတန်း မနိမ့်ကြပါဘူး။ ယဉ် ကျေးဖွယ်ရာပြီး အထက်တန်းကျကျ ဝတ်ဆင်ထားတဲ့လူတွေပါ။ အမျိုး သမီးတွေကလည်း ရွှေငွေလက်ဝတ်ရတနာတွေ ဆင်ထားတယ်။ အဖိုးတန်သားမွေး အနွေးထည်တွေ ဝတ်ထားကြတယ်။

ပါမောက္ခကြီးရဲ့ လူပြက်အမူအရာကို ကြည့်ပြီး အချင်းချင်း စကားတွေ လှမ်းပြောနေကြတယ်။ "တကယ့်ကို ဇော်တဲ့ လူပါ‌ပေ့ဟာ"တဲ့။ "ဟုတ်တယ်ဗျ။ ဒီလူဟာ တော်တော့်ကို တော်တယ်"တဲ့။ "ဟော့...ဟော့ သိပ်ပြီး ချီးမွမ်းမနေကြနဲ့ဦး၊ သူကြားသွားရင် ဘဝင်မြင့်ပြီး ပျက်စီးသွား လိမ့်မယ်"တဲ့။ မီလိုနီကတော့ သီချင်းကို ဆိုရင်းက သီချင်းနဲ့ လိုက်မယ့် အမူအရာတွေကို ရယ်စရာကောင်းအောင် လုပ်ပြနေတယ်။ သီချင်းဆိုနေတဲ့ အသံကလည်း အမျိုးမျိုး ပြောင်းသွားနေတယ်။ အဲဒီအထဲမှာ သူ့ ပါးစပ်ထဲက ဘာသံပါလို့ ခွဲခြားပြီး မသိနိုင်တဲ့ အသံတစ်သံလည်း ထွက်ထွက်လာတယ်။ ကျုပ်ပြောရင် ယုံနိုင်စရာတောင် မရှိဘူး။ အဲဒီအသံ ကို အမျိုးသမီးတွေက သဘောကျလွန်းလို့ ထပ်ခါတလဲလဲ ပွဲတောင်းကြ တယ်။

လက်ခုပ်သြဘာသံတွေကလည်း မစဲဘူးဗျ။ အဲဒီ ချီးကျူးစကား သံတွေနဲ့ သြဘာသံကွေကြောင့် မီလိုနီတစ်ယောက် သွေးနားထင်

ရောက်သွားတယ်ဆိုတာကိုတော့ ဝန်ခံရမှာပဲ။ သူနေတာကတော့ သပ်ရပ်သန့်ရှင်းတဲ့ အခန်းလေးတစ်ခန်းမှာပါ။ ဒါပေမဲ့ အခန်းက မှောင်မှောင်မည်းမည်းနဲ့ စိုစွတ်ထိုင်းမှိုင်းပါတယ်။ အမှန်တော့ သူနေတဲ့အခန်းဟာ အမျိုးသမီးဝတ်စုံတွေ ချုပ်တဲ့လူရဲ့ အိမ်ထဲက အခန်းတစ်ခန်းပါ။ အလုပ်ရှိလို့ သူ့ကို သွားခေါ်တဲ့အခါတိုင်း ကျုပ်ဟာ အဲဒီအခန်းကို ရောက်သွားလေ့ရှိပါတယ်။

ကျုပ်ရောက်သွားတဲ့အခါမှာလည်း အများအားဖြင့် သူဟာ မှန်ရှေ့မှာ ရပ်ပြီး အမူအရာအမျိုးမျိုးတွေ လေ့ကျင့်နေတာကို တွေ့ရတတ်ပါတယ်။ တကယ့်ကို နာမည်ကျော်ကြားနေတဲ့ မင်းသားတစ်ယောက် လေ့ကျင့်နေသလို စနစ်တကျ လေ့ကျင့်နေတာပါ။ ကျုပ်ကတော့ သူ့အိပ်ရာပေါ်မှာ ထိုင်ပြီး သူလုပ်သမျှကို ကြည့်နေလေ့ရှိပါတယ်။ တစ်ခါတလေ ကျတော့လည်း သူ့အမူအရာတွေကို ကြည့်ပြီး ဒီလူ စိတ်မှ နှံ့သေးရဲ့လားလို့ တွေးမိတတ်ပါတယ်။

တစ်ရက်မှာတော့ ကျုပ်က "ခင်ဗျားအနေနဲ့ တည်တည်ငြိမ်ငြိမ် ခန့်ခန့်ထည်ထည်နဲ့ လူတွေရဲ့ စိတ်ကို လှုပ်ရှားသွားစေမယ့် အမူအရာမျိုးတွေ လုပ်ပြဖို့ အချိန်ကျနေပြီထင်တယ်။ ခင်ဗျား ဘယ်လို သဘောရလဲ"လို့ ပြောမိတယ်။ အဲဒီတော့ သူက "မင်းဒီကိစ္စကို နားမလည်သေးပါဘူးကွာ၊ လူတွေဟာ အစားစားကြတဲ့အခါမှာ စိတ်ထိခိုက်လှုပ်ရှားမှုကို မလိုလားကြဘူး။ အဲဒီအချိန်မှာ သူတို့ဟာ ရယ်မောနေချင်ကြတယ်"လို့ ပြန်ပြောတယ်။

အဲဒီနောက်မှာတော့ မီလိုနီဟာ လက်ဆွဲသေတ္တာလေးတစ်လုံးထဲမှာ

မိန်းမအဝတ်အစားတွေ ထည့်ပြီးယူလာတဲ့ အလေ့အထကို လုပ်လာတယ်။ ဆိုင်ထဲရောက်လို့ သီချင်းဆိုပြီဆိုရင် တစ်ခါတလေ ပိုပြီးရယ်ရအောင် မိန်းမလို ဝတ်တတ်တယ်။ မိန်းမလို ဝတ်တဲ့နေရာမှာတော့ တကယ့်ကို တော်ပါတယ်။ မိန်းမလို ဝတ်ပြီး ဟန်အမူအရာလုပ်တဲ့နေရာမှာလည်း ရှာမှ ရှားပါပဲ။ အတိုချုပ်ပြီး ပြောရမယ်ဆိုရင်တော့ နောက်ဆုံးမှာ သူက ကျုပ်ကိုပါ ဂစ်တာကို တည်တည်ခန့်ခန့် မတီးတော့ဘဲ ပြောင်နောက်ပြီး တီးဖို့အထိ တိုက်တွန်းလာပါတယ်။ ဒါပေမဲ့ ကျုပ်က သူ့အလိုကို မလိုက်ဘဲ ငြင်းလိုက်ပါတယ်။

ဘယ်လိုပဲ ဖြစ်ဖြစ်ပေါ့လေ၊ ကျုပ်တို့နှစ်ယောက်ဟာ စားသောက်ဆိုင်တွေ အများကြီးကို ရောက်အောင် သွားကြတယ်၊ သွားတဲ့အချိန်က တစ်ဆယ့်နှစ်နာရီနဲ့ သုံးနာရီကြား တစ်ကြိမ်၊ ည ရှစ်နာရီနဲ့ ဆယ့်နှစ်နာရီကြား တစ်ကြိမ် နှစ်ကြိမ်တိတိ သွားကြတယ်။ သွားတဲ့အခါမှာလည်း အချိန်နဲ့ ရက်ကို သတ်မှတ်ပြီး သွားကြတာ။ ဥပမာဒီကနေ့ ပီယာဇာဒီစပက်ကနာရပ်ကွက်ထဲက ဆိုင်တွေကို သွားတယ်။ နောက်တစ်နေ့ကျတော့ တခြားရပ်ကွက်တွေထဲက ဆိုင်တွေကို သွားကြတယ်။ အဲသလို ဆိုင်တွေကို သွားကြတဲ့အခါမှာ ကျုပ်တို့နှစ်ယောက်ဟာ တစ်ယောက်နဲ့ တစ်ယောက် ခင်မင်ရင်းနှီးမှု ရှိလာအောင် မလုပ်မိကြဘူး။ အလုပ်ပြီးတဲ့ အခါမှာလည်း တရင်းတနှီးဖြစ်အောင် မနေမိခဲ့ကြဘူး။ အလုပ်ပြီးတာနဲ့ တစ်ပြိုင်နက် ကျုပ်တို့ဟာ နီးရာအရက်ဆိုင်တစ်ဆိုင်ကို ဝင်ပြီး ရတဲ့ ငွေကို တစ်ယောက်တစ်ဝက် ခွဲဝေယူလိုက်ကြတယ်။ အဲဒီနောက်မှာတော့ တစ်ယောက်နဲ့တစ်ယောက် စကားမပြောမိခဲ့ကြဘူး။ ကျုပ်က စီးကရက်



မာတိကာသို့

သောက်၊ သူက ဝိုင်တစ်ခွက်သောက်ရင်း နှုတ်ဆိတ်နေကြတာချည်းပဲ။ ပြီးရင်တော့ သူကလည်း သူ့အခန်းသူပြန်၊ ကျုပ်ကလည်း ကျုပ်အခန်းကိုပြန်ပြီး အိပ်ကြတာပဲ။

တစ်ညမှာတော့ ကျုပ်တို့နှစ်ယောက်ဟာ အရက်ဆိုင်တစ်ဆိုင်ထဲကို ရောက်သွားကြတယ်။ ဆိုင်ထဲမှာတော့ အခန်းကျဉ်းလေးတွေ အများကြီး ရှိတယ်။ နံရံမှာ ကပ်ပြီးချထားတဲ့ စားပွဲတွေကလည်း အများကြီးပဲ။ စားပွဲတွေမှာတော့ ဆင်းရဲသား လက်လုပ်လက်စားတွေဟာ ဝိုင်အရက်ကို သောက်ရင်း သတင်းစာစက္ကူတွေနဲ့ ထုပ်ထားတဲ့ အစားအစာတွေကို စားနေကြတယ်။

မီလိုနီဟာ ဒီအရက်ဆိုင်ထဲမှာ ဘယ်လိုဖြေဖျော်ရမယ်ဆိုတာကို သိနေတယ်။ ဒါ့ကြောင့်မို့လည်း သူဟာ အသင့်တော်ဆုံး သီချင်းတစ်ပုဒ်ကို ရွေးပြီး ဆိုလိုက်တယ်။ သူ့သီချင်းအဆုံးမှာ လက်ခုပ်သြဘာသံတွေကို ကြားရတယ်။ သြဘာပေးသံတွေလည်း ဆုံးရော စားပွဲတစ်လုံးဆီက အသံတစ်သံထွက်လာတယ်။ "အခု ဒီသီချင်းကို မင်းအတွက် ငါဆိုပြမယ်"တဲ့။

ကျုပ်လှည့်ကြည့်လိုက်တော့ ကျုပ်ဆီကို လာနေတဲ့ လူငယ်တစ်ယောက်ကို မြင်လိုက်ရတယ်။ ရုပ်ရည်က ခပ်ချောချောဗျ။ သူက မီလိုနီကို လှမ်းကြည့်လိုက်တယ်။ သူ့ကြည့်ပုံက တစ်မျိုးပဲ။ မီလိုနီကို အခု ချက်ချင်း ဝါးစားပစ်တော့မလိုပဲ။ ပြီးတော့ ကျုပ်ဘက်လှည့်ကြည့်ပြီး "ကဲ...ကိုယ့်လူ ဂစ်တာကို တီးတော့လေ၊ အစက အဆုံးပဲ ပြန်တီးပါ"လို့ ပြောတယ်။ ကြောင်အမ်းအမ်း ဖြစ်နေတဲ့ မီလိုနီဟာ တံခါးနားက

ကုလားထိုင်မှာ ဝင်ထိုင်လိုက်တယ်။

လူငယ်က သီချင်းကို စဆိုတယ်။ ဆိုပုံကတော့ တကယ့်ကို ကောင်းတာပါပဲ။ အသံကလည်း ကောင်းတယ်။ ကြည်လင်ပီသပြီး ပြတ်သားတယ်။ ခံစားမှု အပြည့်နဲ့ ဆိုနေတာမို့ နားထောင်ရတာ သိပ်ကို အရသာရှိပါတယ်။ မီလိုနီနဲ့ ယှဉ်လိုက်ရင်တော့ သိပ်ကို ကွာနေတယ်။ လူကလည်း လူချော...။ အသံကလည်း သိပ်ကောင်းတယ်မဟုတ်လား။ သီချင်းဆိုနေခိုက်မှာ သူ့ရဲ့ မျက်လုံးတွေဟာ ဆိုင်ထဲက စားပွဲတွေ အားလုံးပေါ်မှာ ကျက်စားနေတယ်။ အထူးသဖြင့် စားပွဲတစ်လုံးမှာ ထိုင်နေတဲ့ မိန်းကလေးတစ်ယောက်ကို စိုက်ကြည့်ပြီး ဆိုနေတာ။

သီချင်းလည်း ဆုံးရော သူဟာ မီလိုနီဘက်ကို လက်နှစ်ဖက်ဆန့်တန်းပြီး ရပ်နေတယ်။ "သီချင်းဆိုရင် အဲသလိုဆိုရတယ်ကွ"လို့ ပြောနေသလိုပဲ။ အဲဒီနောက်မှာတော့ မိန်းကလေးထိုင်နေတဲ့ စားပွဲဆီကို ပြန်လျှောက်သွားတယ်။ မိန်းကလေးက သူ့လည်ပင်းကို လက်နှစ်ဖက်နဲ့ ဆီးကြိုပြီး ဖက်လိုက်တယ်။ အရက်ဆိုင်ထဲမှာ ရှိနေတဲ့ လူတွေက လက်ခုပ်တီးပြီး သြဘာပေးကြတယ်။ လက်ခုပ်သံက မီလိုနီကို ပေးသလောက်တောင် မများပါဘူး။ အမှန်တော့ ဒီလူတွေဟာ လူငယ်ရဲ့ သီချင်းဆိုပုံဆိုနည်းကိုမှ နားမှမလည်ကြဘဲကိုး။ ပြီးတော့လည်း ဒီလူငယ်က ဘာ့ကြောင့် အခုလို သီချင်းထဆိုရတာလဲဆိုတဲ့ အချက်ကိုလည်း သဘောမှ မပေါက်ကြတာ။ ဒါပေမဲ့ ကျုပ်ကတော့ နားလည်ပါတယ်။ အဲ...ကျုပ်နားလည်သလို မီလိုနီကလည်း နားလည်ပါတယ်။

ကျုပ်ဂစ်တာတီးနေခိုက်မှာ မီလိုနီရဲ့ မျက်နှာကို မကြာခဏ လှမ်း

ကြည့်မိတယ်။ သူဟာ သူ့မျက်နှာကို လက်ဝါးနှစ်ဖက်နဲ့ မကြာခဏ အုပ်အုပ်ထားတာ တွေ့ရတယ်။ သူ့မျက်နှာထားဟာလည်း အရင်ကနဲ့ မတူဘူး။ ကျုပ်တစ်ခါမှ မမြင်ဖူးခဲ့တဲ့ မျက်နှာထားမျိုး ဖြစ်နေတယ်။ သူ့မျက်နှာပေါ်မှာ ခါးသီးရှုံ့ရှာတဲ့ အရိပ်အငွေ့ယှက်သန်းနေတယ်။ နောက်ဆုံးမှာ သူဟာ ထိုင်နေရာက ထရပ်လိုက်တယ်။ ပြီးတော့ တစ်ချက် သမ်း လိုက်ပြီး "ကဲ အိမ်ပြန်ဖို့ အချိန်တော်ပြီ။ ငါလည်း သိပ်ကို အိပ်ချင်နေတယ်" လို့ ပြောတယ်။

ဆိုင်ရှေ့က လမ်းထောင့်ရောက်တော့ မနက်ဖြန်အတွက် အစီအစဉ် လုပ်ပြီး လူချင်းခွဲလိုက်ကြတယ်။ အဲဒီညက လူချင်းကွဲသွားပြီးတဲ့နောက် ပိုင်းမှာ ဘာတွေ ဖြစ်တယ်ဆိုတာ ကျုပ်မသိပါဘူး။ နောက်ပိုင်းကျမှ အခုလို စဉ်းစားမိတယ်။ မီလိုနီဟာ သူ့ကိုယ်သူ အလွန်ထင်ရှားတဲ့ အနုပညာသည်အဆိုတော်တစ်ယောက်လို့ ထင်နေခဲ့ဟန်တူပါတယ်။ အမှန်တော့ သူဟာ စားသောက်ဆိုင်ထဲမှာ စားသောက်နေကြတဲ့လူတွေ ကို ဖြေဖျော်နေတဲ့ လူပြက်တစ်ယောက်သာ ဖြစ်တယ်ဆိုတဲ့ အချက်ကို မေ့နေဟန်တူပါတယ်။ ဒါကြောင့်မို့လည်း ဟိုလူငယ်က သီချင်းဆိုပြ လိုက်တော့ သူ့ဘဝရဲ့ အခြေအနေမှန်ကို နားလည်သွားဟန်တူပါတယ်။ လူငယ် သီချင်းဆိုနေတဲ့အခိုက်မှာ သူ့ရဲ့ ဘဝမှန်ကို ပြန်ပြီး မြင်လာဟန် တူပါတယ်။

ဘာပဲဖြစ်ဖြစ်ပေါ့လေ၊ နောက်တစ်နေ့မှာ မီလိုနီဟာ သူ့အခန်း ရဲ့ ပြတင်းပေါက်မှာ ကြိုးဆွဲချပြီး သေနေတာ တွေ့ရတယ်။ ပထမတော့ ဘယ်သူမှ မသိကြပါဘူး။ လေထဲမှာ လှုပ်ရမ်းနေတဲ့ သူ့ခြေထောက်တွေ



မာတိကာသို့ ▶▶

ကို လမ်းသွားလမ်းလာတွေက မြင်တော့မှ သိကြရပါတယ်။ မိမိကိုယ် မိမိ သတ်သေကြတဲ့လူ တွေ လုပ်လေ့လုပ်ထရှိတဲ့အခါ သူဟာ တံခါးကို အတွင်းကနေ သော့ခတ်ပြီး ပိတ်ထားပါတယ်။ တံခါးကို ဗီရိုတစ်လုံးနဲ့ ကပ်ထားခဲ့ပါသေးတယ်။ သူဟာ သူ့ကိုယ်သူသတ်သေဖို့ စီစဉ်နေခိုက် မှာ သူ့ကိုယ်သူဗီရိုမှန်ထဲမှာ ကြည့်ခဲ့ဟန်လည်း တူပါတယ်။

နောက်ဆုံးမှာတော့ အနီးအနားက လူ တွေဟာ တံခါးကို ဖျက်ပြီ ဝင်ကြရတယ်။ တံခါးမှာ ကပ်ထားတဲ့ ဗီရိုကြီးလဲကျသွားလို့ မှန်လည်း ကွဲသွားတယ်။ သူ့ကိုယ်မြေမြှုပ်ဖို့ သယ်သွားကြတဲ့အခါမှာ သူ့ကို လိုက်ပို့တဲ့လူဟာ ကျုပ်တစ်ယောက်ပဲ ရှိပါတယ်။ စက်ချုပ်တဲ့ မိန်းမက တော့ သူ့ဗီရိုကို မှန်တစ်ချပ်ဝယ်ပြီး ပြန်တပ်ရတာပေါ့။ ဒါပေမဲ့ မီလိုနီ ကြိုးဆွဲချသွားတဲ့ ကြိုးကို ပြန်ရောင်းလို့ ရတဲ့ငွေနဲ့ 'ထေ'မိတဲ့အတွက် သူ့စိတ်သူ ဖြေသာပါတယ်။



မာတိကာသို့ ▶▶

## သနားစရာငါးသတ္တဝါ

လူတွေဟာ သူတို့ကိုယ်သူတို့ ဘယ်လိုလူစားမျိုးဆိုတာ သိပ်ပြီး ဂဃနဏမသိကြဘူးဗျ။ ဘယ်သူတွေဟာ သူတို့ထက် ညံ့တယ်။ ဘယ်သူတွေကတော့ဖြင့် သူတို့ထက် သာတယ်ဆိုတာကိုလည်း သိပ်ပြီး သိကြတာမဟုတ်ဘူး။ ကျုပ်ဆိုတဲ့ကောင်ကတော့ ကိုယ့်အကြောင်း ကိုယ်တွေးတဲ့နေရာမှာ နှစ်ယောက် မရှိဘူးလို့ ပြောယူရလောက်အောင် တွေးတဲ့ကောင်တစ်ယောက်ဆိုတာ သိနေတယ်။ အမှန်အတိုင်း ပြောကြစို့ဆိုရင်တော့ ကျုပ်ကို မွေးလာတာက သံပေါင်ကြီးတစ်ခုလို မာကြောတောင့်တင်းတဲ့ လူတစ်ယောက်အဖြစ် မွေးလာတာ။ ဒါပေမဲ့ဗျာ။ ကျုပ်အနေနဲ့ ကျုပ်ကိုယ်ကျုပ် အဲသလောက်တော့လည်း ချမတွေးပါဘူး။ ကိုယ့်ကိုယ်ကို အပေါ်းစားမှန်တစ်ချပ်လောက်တော့ မာတယ်လို့ ယူဆထားပါတယ်။ အဲဒါလည်း

တကယ်တော့ ကျုပ်ကိုယ်ကျုပ် တန်ဖိုးသိပ်ချပြီး တွက်ထားတာပါ။

ကျုပ်ဟာ ကျုပ်ကိုယ်ကျုပ် မကြာမကြာ ဝေဖန်ဆန်းစစ်လေ့ရှိတဲ့လူပါ။ ကဲ...အခု ကျုပ်ရဲ့ ကိုယ်ပိုင်အရည်အချင်းတွေကို ချကြည့်ရအောင်။

**(တစ်) ကာယအရည်အချင်းနဲ့ ပတ်သက်တဲ့ ခွန်အားဗလ**

ကျုပ်မှာရှိသလား၊ အင်း...အဲဒါကတော့ လုံးဝကို မရှိဘူး။ ကျုပ်ရဲ့ ခန္ဓာကိုယ်ဟာ သေးသေးလှီလှီနဲ့ ပိန်ကြုံကြုံရယ်၊ ပြီးတော့ ခါးကလည်း ခပ်ကုန်းကုန်း၊ လက်ပြင်ကလည်း ခပ်ကိုင်းကိုင်း၊ ခြေတံလက်တံတွေကလည်း တုတ်ချောင်းတွေ ကျနေတာပဲ။ ကျုပ်ဟာ ပင့်ကူတစ်ကောင်နဲ့ အတော့်ကို တူပါတယ်ဗျာ။

**(နှစ်) ဉာဏ်ရည်ဉာဏ်သွေး**

ရှိတော့ရှိတယ်၊ ဒါပေမဲ့ လုံးဝမရှိဘူးလို့ မပြောနိုင်ရုံလောက်ကလေးပဲ ရှိတယ်။ တကယ့်နည်းနည်းကလေးဆိုပါတော့ဗျာ။ လုပ်စရာအလုပ်တွေ အများကြီး ရှိနေပါလျက်နဲ့ ဘယ်အလုပ်ကိုမှ အဆင်ပြေအောင် မလုပ်တတ်လို့ နောက်ဆုံး ဟိုတယ်တစ်ခုမှာ ပန်းကန်ဆေးတဲ့အလုပ် ဝင်လုပ်နေရတာကို ကြည့်လိုက်ရင် ကျုပ်ရဲ့ ဉာဏ်ရည်ဉာဏ်သွေးကို ခင်ဗျားတို့ ခန့်မှန်းနိုင်ကြမှာပါ။

နောက်ပြီးတော့...

**(သုံး) ရုပ်ရည်**

ဒါကျတော့ကော လုံးဝမရှိဘူးဆိုတာထက်တောင် နည်းသေးတယ်။ ကျုပ်မျက်နှာဟာ သေးသေးလေးဗျ။ အရောင်ကတော့ ဝါကျင်ကျင်နဲ့။ မျက်လုံးတွေကတော့ စွေစောင်းစောင်း။ အသားအရေကျတော့ မွဲခြောက်ခြောက်။ နှာခေါင်းကျတော့ ကျုပ်မျက်နှာမျိုး နှစ်မျက်စာလောက်နဲ့သာ တော်မယ့် နှာခေါင်းမျိုး ဖြစ်နေတယ်။ ကျုပ်နှာခေါင်းကို ကြီးသလား မမေးနဲ့၊ အကြီးကြီးပဲ။ ရှည်သလား မမေးနဲ့၊ အရှည်ကြီးပဲ။ ကျုပ်နှာခေါင်းဟာ အောက်ဘက်ကို တည့်တည့်ကြီး စိုက်ဆင်းသွားပြီး ထိပ်ဖျားရောက်ခါမှ ပုတ်သင်ညိုတစ်ကောင်ရဲ့ အမောက်လို အပေါ်ကို ပြန်ကောက်နေတယ်။

နောက်ဆုံး အဲ သတ္တိတို့၊ လျင်မြန်ဖျတ်လတ်မှုတို့၊ ဆွဲဆောင်မှုတို့၊ ခင်မင်စရာကောင်းမှုတို့အစရှိတဲ့ အရည်အသွေးတွေကော ကျုပ်မှာ ရှိသလား၊ အင်း...ဒါတွေကျတော့လည်း...အိုဗျာ၊ မပြောဘဲနေတာ အကောင်းဆုံး ဖြစ်ပါလိမ့်မယ်။ အဲဒီတော့ လူ့သဘာဝအတိုင်း ဖြစ်လာတယ်ဆိုပါတော့။

ကျုပ်အနေနဲ့ မိန်းမတွေနား မကပ်မိအောင် ကိုယ့်ကိုယ်ကို အမြဲသတိထားတယ်။ ကျုပ် ပထမဆုံးအကြိမ် အနားကပ်ဖို့ ကြိုးစားခဲ့တဲ့ မိန်းမတစ်ယောက်တော့ ရှိခဲ့ဖူးပါရဲ့။ တခြားတော့ မဟုတ်ပါဘူး။ ကျုပ်အလုပ်လုပ်နေတဲ့ ဟိုတယ်က အခိုင်းအစေတစ်ယောက်ပါ။ သူက ကျုပ်ကို အကပ်မခံရုံတင် မကဘူး။ ကျုပ်နဲ့ အထိုက်တန်ဆုံး နာမည်တစ်ခု ပေးလိုက်တယ်။ 'သနားစရာ ငါးကလေး'တဲ့။ သူပြောလိုက်တဲ့စကား ကြားပြီးကတည်းက ကျုပ်ဟာ ကျုပ်ကိုကျုပ် ဘာမှ တန်ဖိုးရှိတဲ့ကောင် မဟုတ်ဘူးလို့ မြင်လာတယ်။ ကျုပ်အနေနဲ့ ဘယ်သူ့ကိစ္စမှာမှ ဝင်ပြီး

မစပ်စုဘဲ ကိုယ်ပိုင်ဆိုင်ခွင့် ရထားတဲ့ ထောင့်ကလေးထဲမှာပဲ နားအေးပါးအေး နေတာ အကောင်းဆုံး ဖြစ်လိမ့်မယ်လို့ တွက်လိုက်မိတယ်။

မွန်းလွဲပြီးစ အချိန်လောက်မှာ ကျုပ်အလုပ်လုပ်နေတဲ့ 'ရောမဟိုတယ်' ရဲ့ နောက်ဖေးဘက်က လမ်းအတိုင်း လျှောက်လာမယ်ဆိုရင် ဘယ်သူမဆို မြေပြင်နဲ့ တစ်ညီတည်း ဖြစ်နေတဲ့ ပြတင်းပေါက်တံခါးတွေ ပွင့်နေတာ မြင်ကြပါလိမ့်မယ်။ အဲဒီပြတင်းပေါက်တွေက တထောင်းထောင်းထွက်လာနေတဲ့ အနံ့တွေကတော့ စားကြွင်းစားကျန်နံ့တွေပေါ့။ တကယ်လို့ သူ့မျက်စိတွေက အမှောင်ထုကို စူးစူးရှရှ ဖောက်ထွင်းပြီး မြင်နိုင်မယ်ဆိုရင်တော့ စားပွဲတွေနဲ့ ကြွေရေဆေးခွက်တွေပေါ်မှာ အထပ်လိုက် အထပ်လိုက် ဆင့်ဆင့်ပြီး တင်ထားတဲ့ ပန်းကန်ပြားတွေ ခေါင်မိုးနဲ့ ထိနေတာ တွေ့နိုင်ပါတယ်။ အဲ...အဲဒီနေရာဟာ ဒီကမ္ဘာလောကကြီးထဲက ကျုပ်ပိုင်ဆိုင်တဲ့ ထောင့်ကလေးပါပဲ။ တစ်နည်းအားဖြင့် ပြောရရင် မီးဖိုချောင်ကလေးပါ။ တကယ်တော့ ကျုပ်ရဲ့ နေရာကလေးဟာ မထင်မရှား နေရာကလေးတစ်ခုပါ။ဒါပေမဲ့ ကံကြမ္မာဆိုတဲ့ဟာမျိုးက အဆန်းသားကလားဗျာ။ ကျုပ်နေတဲ့ ထောင့်ကလေးထဲကို လူတစ်ယောက်ရောက်လာပြီး ကျုပ်ကို ဆွဲထုတ်သွားတယ်။ မြက်ပင်တွေကြားမှာ ပုန်းလျှိုးကွယ်လျှိုး ပွင့်နေရှာတဲ့ ပန်းလေးတစ်ပွင့်ကို ခူးယူပြီး ခေါင်းမှာ ပန်သွားသလို အဖြစ်မျိုးနဲ့ ခပ်ဆင်ဆင်ဗျ။

ကျုပ်ကို ဆွဲထုတ်သွားတဲ့လူက တခြားလူဟုတ်ပါရိုးလား။ အီဒါဗျ။ သူ့နာမည်က 'အီဒါ'ဗျ။ အိုးခွက်ပန်းကန်တွေဆေးဖို့ နောက်ရောက်လာတဲ့ အခိုင်းအစေ အသစ်တစ်ယောက်ပေါ့။ ဂျီယူဒီတာဆိုတဲ့ မိန်းကလေး မီး

ဖွားဖို့ ခွင့်ယူသွားတဲ့အတွက် အီဒါကို လူစားအဖြစ် ပို့လိုက်တာ။ အီဒါဟာ ယောကျ်ားတွေအားလုံးကြားမှာ ကျုပ်ရင်ဆိုင်နေရတဲ့ အဖြစ်မျိုးနဲ့ ကြုံနေရတဲ့ မိန်းမတစ်ယောက်ပဲဗျ။ မိန်းမတွေအားလုံးရဲ့ အလယ်မှာ သူလည်းပဲ 'သနားစရာ ငါးတစ်ကောင်'ပဲ။ သူ့ပုံပန်းက ကျုပ်နဲ့တယ်တူတာပဲ။ ကိုယ်လုံးကိုယ်ထည်က သေးညှက်ညှက်၊ ခပ်ပိန်ပိန် ခပ်ပါးပါး၊ အရပ်အမောင်းက ပုပု၊ လူပုံက ကွေးတေးတေး၊ ကောက်တောက်တောက်နဲ့ ဘယ်လို နေလို့ထိုင်လို့မှ မထူးခြားတဲ့ မထင်ရှားတဲ့ ရုပ်မျိုးပဲ။ ဒါပေမဲ့ ဗျို့၊ သူက ဒေါသအတော်ကြီးတယ်။ စိတ်မြန်ကိုယ်မြန်လည်း ရှိတယ်။ စိတ်ကတော့ မြန်သလားမမေးနဲ့။ တကယ်မြန်တာ။ အဲ...ပျော်ပျော်နေတတ်တဲ့ သဘောလည်း ရှိသဗျ။ ကျုပ်တို့နှစ်ယောက်ဟာ ချက်ချင်းပဲ မိတ်ဆွေ ဖြစ်သွားကြတယ်။ ဘာကြောင့်လဲဆိုတော့ ကျုပ်တို့နှစ်ယောက်ဟာ အမြဲတမ်းလိုလို ပန်းကန်ပြားပုံကြီးတွေနဲ့ အဆီဝေ့နေတဲ့ ရေတွေရှေ့မှာ အတူတူတွဲပြီး ရပ် ရပ်နေကြရတာကိုးဗျ။ သူနဲ့ ကျုပ် လူချင်းခင်သွားပြီးတဲ့ နောက်ပိုင်းမှာတော့ မထင်မှတ်တဲ့ အဖြစ်တွေဟာ တစ်ခုပြီးတစ်ခု ဖြစ်လာတော့တာပါပဲ။

ပထမဆုံး ကြုံရတဲ့အဖြစ်ကတော့ တနင်္ဂနွေနေ့တစ်နေ့မှာ သူ့ကို ကျုပ်က ဖိတ်ပြီး ရုပ်ရှင်ပြဖို့ သွေးဆောင်ခဲ့တယ်။ ကျုပ်ကလည်း စိတ်ထဲက လိုလိုချင်ချင် မရှိပေမယ့် အားနာပါးနာသဘောမျိုးနဲ့ပဲ ဖိတ်ရတာပေါ့ဗျာ။ ရုပ်ရှင်ရုံအမှောင်ရိပ်ထဲမှာ ထိုင်နေကြတုန်း သူက ကျုပ်လက်တစ်ဖက်ကို ဆွဲယူလိုက်တယ်။ ပြီးတော့ သူ့လက်နဲ့လက်ချောင်းချင်းတွေ ပတ္တာယှက်သလို ယှက်ပြီး ကိုင်ထားလိုက်တော့ ကျုပ်အဖတော်ကြီး အံ့အားသင့်

သွားတယ်။ တစ်ခုခုတော့ မှားနေပြီထင်တယ်လို့ တွေးမိတာနဲ့ ကျုပ်လက်ကို သူ့လက်ထဲက လွတ်သွားအောင် ပြန်ရုန်းတာပေါ့။ ဒါပေမဲ့ သူက ကျုပ်ကို ငြိမ်ငြိမ်ကလေးနေဖို့ တိုးတိုးကလေး ကပ်ပြောတယ်။

"လက်ကိုင်တာများ ဘာအန္တရာယ်ဖြစ်မှာမို့ ရုန်းနေရတာလဲ"တဲ့။

ရုံထဲက ပြန်ထွက်လာကြတော့ သူက ပြောတယ်။ သူကျုပ်ကို စိတ်ဝင်စားနေတာ ကြာပြီတဲ့။ ဒီဟိုတယ်မှာ အလုပ်စဝင်တဲ့ နေ့ကတည်းကပဲတဲ့။ အဲဒီချိန်ကစပြီး သူ့မှာ ကျုပ်အကြောင်းကလွဲပြီး တခြားဘာကိုမှ မတွေးနိုင်တော့ဘူးတဲ့။ ကျုပ်က သူ့ကို ပြန်ပြီး နည်းနည်းလောက် သဘောကျလိမ့်မယ်လို့ သူမျှော်လင့်နေပါတယ်တဲ့။ ဘာကြောင့်အခုလို ပြောရတာလဲဆိုတော့ ကျုပ်မရှိရင် သူနေလို့ မဖြစ်တော့ဘူးဆိုတာ သိနေလို့ပါတဲ့။ ကျုပ်လိုလူကို မိန်းမတစ်ယောက်က ဒီစကားမျိုးပြောတာ ကျုပ်တစ်သက်မှာ အခုဟာ ပထမဦးဆုံးအကြိမ်ဆိုတော့ စဉ်းစားသာ ကြည့်ပေတော့။ ကျုပ် အောက်ခြေလွတ်သွားပြီပေါ့။ ကျုပ်အနေနဲ့ ရှည်ရှည်ဝေးဝေး စဉ်းစားမနေတော့ဘူး။ သူလိုချင်တဲ့ အဖြေတွေ အကုန်ပေးတာပဲ။ ပေးတာမှ ပေးသင့်ပေးထိုက်တာထက်တောင် ပိုချင်ပိုဦးမှာ။

ဒါပေမဲ့ ကျုပ်မှာကတော့ အံ့ဩလို့ကို မဆုံးသေးဘူး။ သူ့ပါးစပ်က သူဟာ ကျုပ်အတွက် ရူးမတတ် ဖြစ်နေပါတယ်ဆိုတဲ့ စကားကို ထပ်တလဲလဲ ပြောနေပေမယ့် ကျုပ်ကတော့ မယုံရေးချ မယုံနိုင်အောင် ဖြစ်နေတုန်းပဲ။ သူဘယ်လိုပဲ ပြောပြော၊ ကျုပ်မှာတော့ နားလည်ရခက်နေတုန်းပဲ။ ဒါကြောင့်မို့လည်း ကျုပ်တို့နှစ်ယောက် အပြင်ကို ထွက်တိုင်း ကျုပ်က သူ့ကို ဒီအကြောင်းပဲ ပြန်မေးတယ်။ အဲသလို ပြန်ပြန်မေးနေ

တာကလည်း အကြောင်းရှိသဗျ။ ပထမတစ်ကြောင်းက သူ့ပါးစပ် ဒီစကားပြောတာ ကြားရရင် ကျုပ် သိပ်ပျော်လွန်းလို့ပါ။ နောက်တစ်ကြောင်း ကတော့ အဖြစ်က ယုံကြည်ရခက်လွန်းတော့ ဟုတ်မှ ဟုတ်ရဲ့လားဆိုတဲ့ သံသယနဲ့ ပျော်ချင်လို့ပါ။

"ကဲ...ပျော်စမ်းပါဦး အီဒါရယ်။ ငါ့မှာ မင်းကြိုက်စရာ အရည်အချင်း ဘာများ ရှိလို့လဲ။ ဘယ်လိုက ဘယ်လိုဖြစ်ပြီး ငါ့ကို ချစ်လာရတာလဲ" လို့ ကျုပ်က မေးတယ်။ ခင်ဗျားတို့ ယုံပါ့မလားတော့ မသိဘူး။ အီဒါက သူ့လက်နှစ်ဖက်နဲ့ ကျုပ်လက်မောင်းကို ချိတ်ကိုင်ပြီး အလွန်ချစ်မြတ်နိုး တဲ့ မျက်နှာထားနဲ့ ကြည့်လိုက်သေးတယ်။ ပြီးတော့မှ "ကျွန်မ ရှင့်ကို ချစ်တာဟာ ရှင့်မှာ အရည်အချင်းကောင်းတွေအားလုံး ရှိနေလို့ပေါ့။ ကျွန်မအဖို့တော့ ရှင်ဟာ ဘာချို့ယွင်းချက်မှ မရှိအောင် ပြည့်စုံနေတဲ့ လူတစ်ယောက်ပါ"လို့ ဖြေတယ်ဗျ။

ကျုပ်ကလည်း မယုံကြည်နိုင်သေးတဲ့ မျက်နှာထားနဲ့ ထပ်မေးပြန် တာပေါ့။

"အရည်အချင်းကောင်းတွေတဲ့ ဟုတ်လား၊ ငါဖြင့် အဲဒါတွေကို အရင်တုန်းက လုံးဝ မသိခဲ့ပါဘူးကွာ"

"တကယ်ပြောတာ၊ ရှင့်မှာ အားလုံး ရှိတယ်။ အစကပြောရရင် ရှင်ဟာ သိပ်ကို ချောတယ်"ကျုပ် ဝန်ခံရတော့မှာပဲ။ ဒီစကားကြားတော့ ကျုပ်မရယ်ဘဲ မနေနိုင်ဘူး။ "ငါက ချောတယ် ဟုတ်လား၊ မင်းငါ့ရုပ်ကို သေသေချာချာကော ကြည့်မိရဲ့လားကွာ"လို့ ပြန်မေးမိတယ်။



မာတိကာသို့ ▶▶

"သိပ်ကို ကြည့်တာပေါ့။ တစ်ချိန်လုံး ရှင့်ကိုပဲ ကြည့်နေတာ"တဲ့။

"ကဲ ဒီလိုဆိုရင် ငါ့နှာခေါင်း မင်းဘယ်လိုထင်သလဲ။ ငါ့နှာခေါင်းကို မင်း သေသေချာချာကြည့်ရဲ့လား"

"ကျွန်မကြိုက်တာ ရှင့်နှာခေါင်းမျိုးပေါ့"လို့ သူက ဖြေသဗျ။ ပြီးတော့ ကျုပ်နှာခေါင်းကြီးကို သူ့လက်ညှိုး လက်မနဲ့ ညှပ်ပြီး ခြူတစ်လုံးကို ဆွဲခါသလို ခါနေလိုက်သေးသဗျာ။ "နှာခေါင်းကြီး၊ နှာခေါင်းကြီး၊ ဟောဒီ နှာခေါင်းကြီးကြောင့် ကျွန်မမှာ ဘာလုပ်ရမှန်း မသိအောင် ဖြစ်ခဲ့ရတယ်ရှင့် သိလား"လို့ ကြိတ်မနိုင်ခဲမရ လေသံမျိုးနဲ့ ပြောတယ်။ နောက်ပြီးတော့ သူက ထပ်ပြောတယ်။ "ရှင်က ရုပ်ချောရုံတင်မကဘူး။ ဉာဏ်လည်း ကောင်းတယ်"

"ဘယ့်နှယ် ငါ့ကို ဉာဏ်ကောင်းတယ် ဟုတ်ရဲ့လားကွာ။ လူတိုင်းက ငါ့ကို ငထိုင်းလို့ ပြောနေကြတာ" အဲဒီတော့ သူက "သူတို့က သက်သက်မဲ့ မနာလိုလို့ ပြောကြတာ၊ ရှင်က တကယ့်ကို ဉာဏ်ကောင်းတာ၊ ဉာဏ်ကောင်းတာမှ အလွန်အကျွံကို ကောင်းတာ။ ရှင်စကားပြောနေရင် ကျွန်မ ပါးစပ်အဟောင်းသားနဲ့ နားထောင်နေရတာချည်းပဲ ။ အို...ရှင်။ ကျွန်မ တွေ့ခဲ့ဖူးသမျှ လူတွေထဲမှာ ရှင်ဟာ ဉာဏ်အကောင်းဆုံးပဲ" လို့ ပြန်ပြောတယ်။

ကျုပ်ငိုင်နေမိတယ်။ ခဏနေတော့မှ "ကဲလေ ဘာပဲဖြစ်ဖြစ် ထားလိုက်ပါတော့။ ဒါပေမဲ့ မင်းအနေနဲ့ ငါ့ကို အားသိပ်ကောင်းတာပဲ လို့တော့ ပြောလို့ မရပါဘူး၊ ဟုတ်ရဲ့လား"လို့ ပြောလိုက်တော့ "ရှင့်အားလည်း



မာတိကာသို့ ▶▶

ကောင်းတာပဲ။ အားကောင်းတာမှ အလွန့်အလွန်ကို ကောင်းတာ”လို့ ဆိုတယ်။ ဒီစကားကြားလိုက်ရတော့ ကျုပ်မှာ တံတွေးကို လည်ချောင်းထဲ လျှောခနဲဆင်းသွားအောင် မနည်းအားထုတ်ပြီး မျိုချနေရလို့ အချိန် တော်တော်ကြာ စကားမပြောနိုင်ဘူး။

ကျုပ်က မပြောတော့ သူကပဲ ပြန်စပြန်တယ်။

“ပြီးတော့လည်း ရှင်တကယ်သိချင်တယ်ဆိုရင် ပြောပြမယ်။ ကျွန်မ ချစ်လာအောင် လုပ်နိုင်တဲ့ အရာတစ်ခု ရှင့်မှာ ရှိတယ်၊ သိလား”တဲ့။

အဲဒီတော့ ကျုပ်ကလည်း ပြန်ပြီး မေးမိပြန်ရော။

“မင်းပြောတဲ့ အဲဒီအရာတစ်ခုဆိုတာက ဘာလဲ။ ငါသိချင်တယ်” သူက “ကျွန်မ ရှင်းအောင်တော့ ပြောမပြတတ်ဘူး။ ရှင့်အသံ၊ ရှင့်မျက်နှာ၊ ရှင့်အမူအရာနဲ့ ရှင်သွားပုံလာပုံတွေထဲက အားလုံး၊ ဒါမှ မဟုတ် တစ်ခုခု ဖြစ်ချင်ဖြစ်မှာပဲ။ ရှင့်မှာရှိနေတဲ့ အဲဒီ‘အရာတစ်ခု’ဟာ တခြားလူတွေဆီမှာ မရှိဘူး”လို့ ပြန်ပြောတယ်။ ထုံးစံအတိုင်းပဲပေါ့ဗျာ။ ကျုပ်ကတော့ သူ့စကားတွေကို မယုံဘူး။ ဒါကြောင့်မို့လည်း ဒီစကားတွေကို သူ့ပါးစပ် က ထပ်ခါတလဲလဲပြောအောင် ခဏခဏ မေးတာပဲ။ ကြားရပြန်တော့လည်း ကျုပ်အကြောင်း ကျုပ်ဘာသာကျုပ် တွေးယူထားတာတွေနဲ့ သူပြောတာ တွေကို နှိုင်းယှဉ်ပြီး စိတ်ချမ်းသာရတယ်မဟုတ်လား။ ဒီလိုနဲ့ပဲရက်တွေ တစ်ရက်ပြီးတစ်ရက် ကုန်လာတယ်။ ကျုပ်အနေနဲ့ ဝန်ခံရတော့မှာပဲ။ ရက်တွေကြာလာတော့ သူ့စိတ်ကူးတွေဟာ ကျုပ်ခေါင်းထဲမှာ စွဲလာတယ်ဗျ။

“ဆိုကြပါစို့ရဲ့၊ သူပြောတဲ့အတိုင်း တကယ်တမ်း မှန်နေရင်ကော”

ဆိုတဲ့ မေးခွန်းကို ကိုယ့်ဘာသာကိုယ် ပြန်မေးလာမိတယ်။ ကျုပ်ကိုယ်ကျုပ် ထင်ထားတဲ့ အချက်တွေနဲ့ ခြားနေတယ်ဆိုတဲ့စကားကို ယုံကြည်လွန်းလို့တော့ မဟုတ်ပါဘူး။ ဒါပေမဲ့ အီဒါပြောခဲ့တဲ့ 'အရာတစ်ခု'ဆိုတဲ့ စကား အပေါ်မှာတော့ တယ်ပြီး သံသယမကင်းချင်သေးဘူး။ အဲဒီစကား ထဲမှာ လျှို့ဝှက်ချက်တွေများ ရှိနေသလား။ အဲဒီ 'အရာတစ်ခု'ဆိုတဲ့ စကားကြောင့် ကျုပ်မှာ တောင်စဉ်ရေမရတွေ လျှောက်တွေးမိတယ်။ မိန်းမတွေက ခါးကုန်းတွေ၊ လူပုတွေ၊ အဘိုးကြီးတွေ၊ သရဲသဘက်လောက် အရုပ်ဆိုး၊ အကျည်းတန်တဲ့ လူတွေကို သဘောကျတတ်တယ်ဆိုတာ ကျုပ်သိတယ်။ ကျုပ်ဟာ အဲဒီလူစားမျိုးတွေထဲက တစ်မျိုးမျိုးနဲ့များ တူနေသလား။ တကယ်တော့ ကျုပ်ဟာ ခါးကုန်း တစ်ယောက်လည်း မဟုတ်ဘူး။ သရဲသဘက်လောက် အရုပ်ဆိုးတဲ့လူတစ်ယောက်လည်း မဟုတ်ဘူးဗျ။

အဲသလို ကျုပ်စိတ်တွေ မတင်မကျနဲ့ ဗလုံးဗထွေး ဖြစ်နေချိန်လောက်မှာပဲ အီဒါနဲ့ ကျုပ်ဟာ ဆပ်ကပ်ပွဲတစ်ပွဲ သွားကြည့်ဖို့ ဆုံးဖြတ်ခဲ့ကြတယ်။ နှစ်ယောက်သား အရမ်းကို ပျော်နေကြတယ်ဗျ။ ဆပ်ကပ်ပြမယ့် ရွက်ထည်တဲကြီးထဲ ရောက်တော့ ကျုပ်တို့ နှစ်ယောက် ဈေးပေါပေါ ထိုင်ခုံပေါ်မှာ နေရာယူကြတယ်။ တစ်ယောက်နဲ့တစ်ယောက် လက်ချင်းချိတ်ပြီး ပူးကပ်ထိုင်ကြတယ်။ ကျုပ်ဘေးမှာတော့ အရုပ်မြင့်မြင့်၊ အသားဖြူဖြူ မိန်းမတစ်ယောက် ထိုင်နေတယ်။ အသက်ကတော့ ခပ်ငယ်ငယ်ပါ။ လှတော့ အတော်ကလေး လှသားဗျ။ သူနဲ့ အတူပါတဲ့ လူကတော့ အသားမည်းမည်းလူတစ်ယောက်ပဲ။ လူကောင်က ထွားထွားနဲ့ အားကောင်းမောင်းသန်ကြီး။ သူ့ကြည့်ရတာ ခပ်ကြမ်းကြမ်း ခပ်တေတေ ရှိမယ့်ပုံပါ။

အားကစားသမားတစ်ယောက်နဲ့တော့ အတော်တူသား။ ကျုပ်စိတ်ထဲမှာ သူတို့ကို ကြည့်ပြီး 'ရှေ့သွားနောက်လိုက်ညီတဲ့ စုံတွဲ'လို့ သတ်မှတ်လိုက်တယ်။ အဲဒီနောက်တော့ ကျုပ်ခေါင်းထဲမှာ သူတို့အကြောင်း မရှိတော့ပါဘူး။ ကျုပ်အာရုံဟာ ဆပ်ကပ်ထဲမှာပဲ ရောက်နေတယ်။

ပြပွဲကွင်းထဲမှာတော့ ဘာပြကွက်မှ မရှိသေးဘူး။ ဒါပေမဲ့ ပြပွဲကွင်းရဲ့ ဟိုတစ်ဖက်အစွန်းက စင်မြင့် ပလက်ဖောင်းပေါ်မှာတော့ အနီရောင် ယူနီဖောင်းဝတ်ဘင်ခရာအဖွဲ့ တစ်ဖွဲ့ ရောက်နေပြီ။ စစ်ချီအတီးမျိုးဆန်ဆန် တေးသီချင်းတွေကို တစ်ပုဒ်ပြီးတစ်ပုဒ် အဆက်မပြတ် တီးပေးနေကြပြီ။ နောက်ဆုံးမှာ လူပြက်လေးယောက် ကွင်းထဲဝင်လာတယ်။ နှစ်ယောက်က လူပုလေးတွေ။ မျက်နှာတွေကို အဖြူရောင်မိတ်ကပ်တွေ ပိန်းနေအောင် လိမ်းထားတယ်။ ပြီးတော့ ဘောင်းဘီအပွ ကြောင်ကြောင်ကျား[illegible]ားကြီးတွေ ဝတ်လို့။ လေးယောက်သား ခုန်လိုက်ပေါက်လိုက်။ ပြက်လုံးတွေ ထုတ်လိုက်။ တစ်ယောက်ပါး တစ်ယောက်ရိုက်လိုက်။ အချင်းချင်း ခြေထောက်တွေနဲ့ ကန်လိုက်ကျောက်လိုက် လုပ်နေကြတယ်။ အဲဒါက သဘောကျလွန်းလို့ တအားရယ်တယ်။ ရယ်လွန်းတော့ ချောင်းဆိုးတာပေါ့။

အဲဒီနောက်တော့ တီးဝိုင်းက အသံ ပြောင်းသွားတယ်။ မြင်ကွင်းထဲကို မြင်းတွေ ဝင်လာတယ်။ အားလုံး ခြောက်ကောင်။ အကွက်အပြောက်တွေနဲ့ အုန်းခွံရောင်မြင်းက သုံးကောင်။ အဖြူရောင်က သုံးကောင်။ မြင်းတွေဟာ ကွင်းထဲမှာ ဝိုင်းကြီးပတ်ပတ်လှည့်နေတယ်။ သူတို့သခင်ကတော့ အနီရောင်နဲ့ ရွှေရောင်ဝတ်စုံတွေ ဝတ်ပြီး တရွှမ်းရွှမ်း ရိုက်ပြီး အသံပေးနေတယ်။ မကြာခင်မှာ စကပ်တိုတိုပါးပါးကလေးနဲ့ အသားကပ်



မာတိကာသို့

ဘောင်းဘီ ခြေအိတ်တွေ ဝတ်ထားတဲ့ မိန်းမတစ်ယောက် ဝင်လာပြီး မြင်းတစ်ကောင်ရဲ့ ဇက်ကြိုးကို လှမ်းဆွဲလိုက်တယ်။ ပြီးတော့ မြင်းရဲ့ ဘေးကနေပြီး မြင်းနဲ့အတူ ပြေးလိုက်နေတယ်။ အမယ်– သူက မြင်းရဲ့ ကျောပေါ် ခုန်တက်လိုက်၊ ပြန်ခုန်ဆင်းလိုက် လုပ်သွားနေတာကိုး။ မြင်းတွေဟာ ပထမတော့ အသားကျပြေးနေကြတယ်။ နောက်တော့ ဒုန်းစိုင်းလာတယ်။ မြင်းတွေ ပြန်လည်း ဝင်သွားရော လူပြက်တွေ ပြန်ထွက်လာတယ်။ စောစောကလိုပဲရယ်စရာတွေ လုပ်ပြကြတယ်။ နောက်ပြီးတော့ ကောင်းကင်ဘားသမား မိသားစုတစ်စုဝင်လာတယ်။ အဖေရယ်၊ အမေရယ်၊ သူတို့သား ကောင်ပေါက်စလေးရယ်။ အားလုံး သုံးယောက်။ အပြာရောင် အသားကပ်ဘောင်းဘီအင်္ကျီတွေ ဝတ်ဆားထား ကြတယ်။ သုံးယောက်စလုံး အကြောအဆစ်တွေက မာလိုက်တောင့်လိုက် ကြတာဗျာ။ သူတို့ဟာ တဲခေါင်မိုးကနေပြီး တန်းလန်းကျနေတဲ့ ကြိုးကို ဆွဲပြီး တက်သွားကြတယ်။ ခေါင်မိုးထိပ်လည်း ရောက်ရော ကောင်းကင်ဘားကို အမျိုးမျိုးအဖုံဖုံ စီးပြကြတော့တာပဲ။ ကောင်းကင်ဘားကို လက်တွေနဲ့ ဆွဲစီးတယ်။ ခြေထောက်တွေနဲ့ချိတ်ပြီး ဇောက်ထိုးမိုးမျှော် စီးပြတယ်။ သူတို့သားကလေးကိုလည်း ဘောလုံးပစ်သလို တစ်ယောက် လက်က တစ်ယောက်ကို ပစ်ပစ်ပေးကြတယ်။ သူတို့ကို ကြည့်ပြီး တအံ့ တဩ ဖြစ်နေတဲ့ ကျုပ်က အီဒါကို ပြောတယ်။ "ဟိုမှာ ကြည့်စမ်း၊ ငါ တောင် ကောင်းကင်ဘားသမား ဖြစ်ချင်လာပြီ။ ငါကတော့ လေထဲကို ခုန်ဆင်းပြီး ဘားတန်းကို ခြေထောက်တွေနဲ့ ဖမ်းချင်တာကွ" အီဒါကလည်း ထုံးစံအတိုင်းပေါ့။ ကျုပ်ကို တိုးကပ်ပြီး "ဒါတွေက အလေ့အကျင့်ပါ"

လို့ ပြောတယ်။ ကျုပ်ဘေးက အသားဖြူတူတူ မိန်းမက ကျုပ်တို့ နှစ်ယောက်ကို တစ်ချက်လှမ်းကြည့်လိုက်ပြီး သူ့အဖော်ကို ဆီမန်း မန်းသလို တိုးတိုးနဲ့ ကပ်ပြောနေတယ်။ ပြီးတော့ နှစ်ယောက်စလုံး ဟားတိုက်ပြီး ရယ်နေကြတယ်။

ကျွမ်းဘားအပြီးမှာ ဝင်မယ့်အထွက်က ခြင်္သေ့တွေဗျ။ ပရိသတ်အတွက် ဆွဲဆောင်မှုရှိတဲ့ ပြကွက်တစ်ကွက်ဆိုပါတော့။ အဲဒီပြကွက်မစခင်ကလေးမှာ အနီရောင်ဝတ်စုံနဲ့ လူတစ်စုဝင်လာပြီး ကောင်းကင်ဘားကျွမ်းပြတုန်းက ခင်းထားတဲ့ ကော်ဇောကြီးကို ပြန်လိပ်ကြတယ်။ လိပ်တဲ့အခါမှာ လူပြက်တစ်ယောက်ကိုပါ ထည့်လိပ်ပြီး ထမ်းထုတ်သွားကြတယ်။ အီဒါဟာ ကော်ဇောလိပ်ကြီးထဲက ခေါင်းပြူထွက်နေတဲ့ လူပြက်ရဲ့ မျက်နှာဖြူဖြူကြီးကို မြင်တော့ ဖင်ဆောင့်ဆောင့်ပြီး ရယ်တော့တာပေါ့။ သူထိုင်နေတဲ့ ထိုင်ခုံပေါ်က လျှောကျသွားမှာတောင် စိုးရိမ်ရသေးတယ်။ မကြာခင်မှာပဲ ခြင်္သေ့ငါးကောင် တန်းစီပြီး ဝင်လာကြတယ်။ ခြင်္သေ့မတစ်ကောင်က တစ်ချက်ဟိန်းလိုက်သေးတယ်။ နောက်ဆုံးက ပါလာတဲ့ လူကတော့ ခြင်္သေ့ အထိန်းသမားပေါ့။ လူကတော့ ခပ်ငယ်ငယ်ပါပဲ။ ထုံးစံအတိုင်း ပရိသတ်ဘက်ကို ဦးညွှတ်ပြီး နှုတ်ဆက်တယ်။ ခြင်္သေ့တွေက သူ့ကို လှည့်ပတ်ပြီး အဝိုင်းလိုက် လျှောက်နေကြတယ်။ သူတို့ရဲ့ ဟိန်းသံဟောက်သံတွေကတော့ ဆူညံနေတာပဲ။ နောက်ဆုံးမှာ ခြင်္သေ့အထိန်းသမားဟာ ခြင်္သေ့တွေကို ခွေးခြေကစ်လုံးချင်းပေါ် တစ်ကောင်စီ တက်ခိုင်းတယ်။ ခွေးခြေကလေးတွေက တကယ့် သေးသေးလေးတွေဗျ။ သူတို့ခများ ဖွတ်ခိုင်းလို့သာ တက်ထိုင်နေ ကြရတာကလား။ ဒါကြောင့်မို့



မာတိကာသို့ ▶▶

ထင်ပါရဲ့။ ပါးစပ်ကြီးတွေ ဖြဲပြီး ဟိန်း တယ်။ နှစ်ကောင်သုံးကောင်ကဆိုရင် ခြင်္သေ့အထိန်းသမား သူတို့အနားက ဖြတ်အသွားမှာ ခြေထောက်တွေ မြှောက်မြှောက်ပြီး လှမ်းပုတ်လိုက်တော့ မလို လုပ်နေကြတယ်။ ခြင်္သေ့ အထိန်းသမားကလည်း ပညာသားပါပါနဲ့ အသာကလေး ရှောင်ရှောင် သွားတယ်။

"တကယ်လို့များ ခြင်္သေ့ကြီးတွေက သူ့ကို ကိုက်စားလိုက်ရင် ဘယ့်နှယ်လုပ်မလဲနော်"လို့ အီဒါက ကျုပ်လက်မောင်းကို ဆွဲပြီး ခပ်တိုးတိုး ပြောတယ်။ အဲဒီတုန်း ဖြုန်းဆို အတီးသံဟာ ဆူညံလာတယ်။ ခြင်္သေ့ ထိန်းသမားဟာ ခြင်္သေ့ငါးကောင်ထဲက အသက်အကြီးဆုံး ခြင်္သေ့ကြီးဆီကို လျှောက်သွားတယ်။ ခြင်္သေ့ကြီး ကြည့်ရတာ အိပ်ချင်မူးတူး ဖြစ်နေသလို ပဲ။ ဟိန်းလား ဟောက်လားလည်း မလုပ်ဘူးဗျ။ ငြိမ်ငြိမ်ကြီးဗျ။ အဲဒီ အကောင်ကြီးကို ပါးစပ်ဟခိုင်းပြီး ခြင်္သေ့ထိန်းသမားက သူ့ခေါင်း သွင်းပြတယ်။ အဲသလို သုံးခါတိတိ လုပ်ပြတာ။ လက်ခုပ်သြဘာသံတွေ က သောသောကို ညံနေတာပဲ။ ကျုပ်က အီဒါ[illegible]က်လှည့်ပြီး "မင်းကတော့ ယုံချင်မှ ယုံမယ်။ ငါလည်းပဲ အဲဒီခြင်္သေ့ကြီးရဲ့ ပါးစပ်ထဲ ခေါင်းသွင်း ပြရဲတယ် သိလား"လို့ ပြောလိုက်မိတယ်။ အီဒါကလည်း ကျုပ်ဘက်ကို တိုးကပ်ပြီး "ရှင်လုပ်ရဲလိမ့်မယ်ဆိုတာ ကျွန်မ သိပါတယ်"တဲ့။ ဒီစကား လည်း ပြောလိုက်ရော ကျုပ်ဘေးက မိန်းမနဲ့ သူ့အဖော်က ကျုပ်တို့ကို အသေအချာလှည့်ကြည့်ပြီး တဟားဟား အော်ရယ်ကြပြန်တယ်။ ဒီ တစ်ခါမှာတော့ဖြင့် ကျုပ်တို့ကို ကြည့်ပြီး ရယ်နေကြတယ်ဆိုတာ သေချာ သွားပြီဗျ။ အီဒါကလည်း ရှုးရှုးရှဲရှဲဖြစ်လာတယ်။ သူက ဒေါသတကြီးနဲ့

ကျုပ်ကို ပြောတယ်။ "သူတို့က ကျွန်မတို့ကို ရယ်နေကြတာပဲ။ ခင်ဗျား တို့ သိပ်ရိုင်းတာပဲလို့ ရှင်က သူတို့ကို ဘာကြောင့် မပြောတာလဲ" ဒါပေမဲ့ တော်ပါသေး တယ်။ ခေါင်းလောင်းတီးသံတစ်ချက်ပေါ်လာလို့ ပရိသတ်တွေဟာ ထိုင်နေကြရာက ထလာကြတယ်။ ခြင်္သေ့တွေလည်း ပြန်ဝင်သွားကြပြီ။ ပွဲစဉ်က ပထမပိုင်း ပြီးသွားပြီဗျ။

ကျုပ်တို့နှစ်ယောက်ရွက်ထည်တဲထဲက ထွက်လာတော့ ဟိုနှစ်ယောက် ကျုပ်တို့ရှေ့က လျှောက်သွားနေတာ မြင်ရတယ်။ အီဒါကတော့ ဒေါသကြီး တုန်းပဲ။ ကျုပ်ကို ကပ်ပြီး ပြောနေပြန်တယ်။ "ခင်ဗျားတို့ သိပ်ရိုင် တာပဲ ဆိုတဲ့စကား သူတို့ကို ရှင်ပြောရမယ်၊ တကယ်လို့ ရှင်မပြောဘူး ဆိုရင် ရှင်ဟာ လူကြောက်ပဲ"တဲ့။ ဒီစကားဟာ ကျုပ်ရဲ့ မာနကို ထိခိုက်စေတဲ့ စကားဗျ။ ဒါကြောင့်မို့ သူတို့ကို ကျုပ်တစ်ခုခုတော့ ပြောမှ ဖြစ်မယ်လို့ ဆုံးဖြတ်လိုက်တယ်။

ဆပ်ကပ်ပွဲပြတဲ့ ရွက်ထည်တဲကြီးရဲ့ အပြင်ဘက်တစ်နေရာမှာ အဖီတဲလို ထိုးထားတဲ့ တဲတစ်လုံးရှိတယ်။ အဲဒီတဲဟာ တိရစ္ဆာန်တွေကို လှောင်ချိုင့်တွေနဲ့ ထည့်ပြီး ပြထားတဲ့ တိရစ္ဆာန်ရုံလိုဟာမျိုးပေါ့။ ပရိသတ် တွေ အပျင်းပြေကြည့်နိုင်ဖို့ ဆပ်ကပ်အဖွဲ့က လုပ်ပေးထားတာ။ အဲဒီတဲကြီး ထဲ ဝင်သွားရင် တစ်ဖက်မှာ တိရစ္ဆာန်အရိုင်းတွေကို လှောင်ချိုင့်ကြီးတွေနဲ့ ထည့်ပြထားတယ်။ မျက်နှာချင်းဆိုင်တစ်ဖက်မှာတော့ ကောက်ရိုးခင်းထား တဲ့ ကွက်လပ်တစ်ခု ရှိတယ်။ အဲဒီထဲမှာ ယဉ်ပါးနေတဲ့ တိရစ္ဆာန်တွေကို လွတ်လွတ်လပ်လပ် ထားတယ်။ မြင်းကျားတွေ၊ ဆင်တွေ၊ မြင်းတွေနဲ့ ခွေးတွေဆိုပါတော့ဗျာ။ တဲထဲမှာ ခပ်မှောင်မှောင် ဖြစ်နေတယ်။ ကျုပ်



မာတိကာသို့ ▶▶

တို့ အထဲဝင်သွားတော့ ထိုစုံတွဲဟာ ဝက်ဝံလှောင်ချိုင့်တစ်လုံးရှေ့မှာ ရပ်နေတာ မြင်ရတယ်။ အသားဖြူဖြူ မိန်းမက လှောင်ချိုင့်ဘက်ကို ကုန်းပြီး အထဲက ဝက်ဝံကို ကြည့်နေတယ်။ ဝက်ဝံကြီးကတော့ သံတိုင်တွေဘက် ကျောပေးပြီး အိပ်မောကျနေတယ်။ ကျုပ်လည်း ဟိုလူ့ဆီကို တန်းသွားပြီး ခပ်ထန်ထန်လေသံနဲ့ မေးလိုက်တယ်။ "ကျုပ်ကို ပြောစမ်းပါဦး၊ ခင်ဗျားတို့ ရယ်နေကြတာဟာ ကျုပ်တို့ကို ရယ်နေကြတာ မဟုတ်လား"

သူက လှည့်ကြည့်ပြီး ချက်ချင်း ပြန်ဖြေတယ်။ "မဟုတ်ဘူး၊ ကျုပ်တို့က နွားထီးယောင်ဆောင်ဖို့ ကြိုးစားနေတဲ့ ဖားတစ်ကောင်ကို ရယ်နေကြတာ"

"ဖားတစ်ကောင်ဆိုတာ ကျုပ်ကို ပြောတာမဟုတ်လား"

"အဲဒီဦးထုပ်က မင်းခေါင်းနဲ့ တော်နေရင်လည်း ဆောင်းလိုက်ပေါ့ကွ"

အဲဒါက ကျုပ်နောက်ကျောကို တွန်းပြီး ဟိုလူရှေ့ရောက်သွားအောင် ပို့ပေးတယ်။ ကျုပ်ကလည်း အသံကို မြှင့်တင်ပြီး ပြန်ပြောလိုက်တယ်။ "မင်း ဘာကောင်လဲဆိုတာ မင်းကိုမင်း သိရဲ့လား၊ မင်းဘာမှ မသိနားမလည်တဲ့ လူယုတ်မာတစ်ယောက်ကွသိလား"

သူကလည်း ရိုင်းရိုင်းစိုင်းစိုင်းပဲ ပြန်ပြောတယ်။

"ဟား...ဟား...ဖားပြုတ်က အော်ဖို့ အသံပေးတာလား"

အဲဒီစကားလည်း ကြားရော ဟိုမိန်းမက အော်ရယ်တယ်။ အဲဒါကလည်း အသံစွာတာစွာတာနဲ့ ဝင်ပြောပါလေရော။ "ရယ်စရာ ဘာမှ

မရှိဘူး ဟဲ့ကောင်မရဲ့။ ရယ်နေမယ့်အစား ငါ့ယောက်ျားကို နင်ပွတ်သီးပွတ်သပ်လုပ်ပြီး မြှူနေတာကို ရပ်ဖို့ပဲ လိုတယ်ဟဲ့။ နင်က ငါ့ကို မမြင်ဘူးလို့များ ထင်နေသလားဟင်။ နင့်လက်မောင်းနဲ့ ငါ့ယောက်ျားကို တစ်ချိန်လုံး ပွတ်သီးပွတ်သပ်လုပ်နေတာ ငါသိတယ်ဟဲ့"

ကျုပ် အတော့်ကို အံ့အားသင့်သွားတယ်။ ဘာပြုလို့လဲဆိုတော့ အီဒါပြောတဲ့ ကိစ္စကို ကျုပ်လုံးဝ သတိမထားခဲ့မိဘူး။ ဒါပေမဲ့ ဘာပဲ ဖြစ်ဖြစ်ပေါ့လေ။ သူက ကျုပ်ဘေးမှာ ကပ်ထိုင်နေတာဆိုတော့ ကျုပ်ကို သူ့တံတောင်နဲ့ ထိမိချင်လည်း ထိမိပေမပေါ့။ သူကလည်း အလွန်စိတ်ဆိုးနေတဲ့ အသံနဲ့ ပြန်ပြောတယ်။

"ဒီမယ် ကလေးမ နင်ရူးနေပြီ"တဲ့။

"ငါမရူးဘူးဟဲ့၊ နင်ပွတ်နေတာ ငါမြင်တယ်ဟဲ့"

"သနားစရာ ငါးတစ်ကောင်နဲ့ တူတဲ့ နင့်ယောက်ျားကို ငါက ဘာများ မက်မောစရာရှိလို့ ဂရုစိုက်ရမှာလဲဟဲ့။ တကယ်လို့ ငါ ပွတ်သီးပွတ်သပ်လုပ်ချင်ရင် နင့်ယောက်ျားထက်သာတဲ့လူ ရှာမှာပေါ့။ ဟောဒီမှာကြည့်စမ်း၊ မြင်တယ်မဟုတ်လား။ ဒါမျိုးမှ တကယ့်ယောက်ျားဟဲ့"

သူက ပြောပြောဆိုဆို သူ့အဖော်ယောက်ျားရဲ့ လက်ကို ဆွဲပြီး မြှောက်ပြတယ်။ ဝက်သတ်သမားတစ်ယောက်က ဈေးဝယ်ကို ဝက်ပေါင်တစ်ချောင်း မြှောက်ပြနေတာနဲ့ တူလှပါသဗျား။ "ဒီလက်မျိုးမှ ငါက ပွတ်ချင်တာဟဲ့။ ဒီမှာကြည့်စမ်း။ အကြောတွေကို ပြိုင်းပြိုင်းထနေတာပဲ။ ဘယ်လောက်သန်သလဲ"

သူ့စကားလည်း ဆုံးရော၊ ဟိုလူက ကျုပ်ဆီလျှောက်လာပြီး ခြိမ်းခြောက်တဲ့ လေသံနဲ့ ပြောတယ်။ "တော်လောက်ပြီ ကိုယ့်လူ၊ သွားတော့၊ ဒီနားက ထွက်သွားတာဟာ မင်းအတွက် ကောင်းလိမ့်မယ်"

"မင်းက ဘာကောင်မို့ ထွက်သွားခိုင်းရတာလဲကွ"လို့ ကျုပ်က ပြန်အော်လိုက်ပြီး သူနဲ့ ပခုံးချင်းထိသွားအောင် ကျုပ်က ခြေဖျားတွေကို ထောက်လိုက်တယ်။ ပြီးတော့ ပခုံးချင်း တိုက်လိုက်တယ်။

အဲဒီနောက် ဖြစ်လာတဲ့ အဖြစ်ကတော့ ကျုပ်အသက်နဲ့ ကိုယ်မြဲနေသမျှ ကာလပတ်လုံး မေ့မှာ မဟုတ်တော့ပါဘူးဗျာ။ ကျုပ်ပြောလိုက်တဲ့ စကားကို သူက လုံးဝ အရေးမစိုက်ဘူး။ ဒါပေမဲ့ ဖြုန်းဆို ကျုပ်တစ်ကိုယ်လုံးကို ငှက်တောင်လေးတစ်တောင် မသလို မယူလိုက်တယ်။ ကျုပ်စောစောက ပြောခဲ့တာ မှတ်မိမှာပေါ့။ လှောင်ချိုင့်ကြီးတွေရဲ့ ဟိုတစ်ဖက်မှာ တိရစ္ဆာန် အယဉ်တွေ လွှတ်ထားတဲ့ ကွက်လပ်တစ်ခုရှိတယ်ဆိုတာလေ။ ကျုပ်တို့ရပ်နေတဲ့ နေရာရဲ့ နောက်နားကပ်လျက် နေရာမှာ ဆင်မိသားစုတစ်စုရှိနေတယ်။ ဆင်အဖေကြီးရယ်၊ ဆင်အမေကြီးရယ်၊ သူတို့သား ဆင်ပေါက်စကလေးရယ်။ အားလုံးသုံးကောင်။ နောက်ဆုံးကောင်က ဟိုနှစ်ကောင်နဲ့ ယှဉ်လိုက်ရင် ငယ်ငယ်ပါ။ ငယ်ငယ်ဆိုပေမယ့် လည်း ဆင်ပေါက်ဆိုတော့ မြင်းတစ်ကောင် သာသာလောက်တော့ ရှိနေပြီဗျ။ သူတို့ခမျာ မှောင်ရိပ်ကျနေတဲ့ ထောင့်ထဲမှာ နားရွက်ကြီးတွေနဲ့ အစွယ်ကြီးတွေကို အောက်စိုက်ပြီး ငြိမ်နေကြရှာတာ။ အဲ...အဲ...ဒါ ဟို... ဘဲနာကောင်ကြီးက ကျုပ်ကို မ,ပြီး သူ့ခေါင်းအထက်မှာ မြှောက်ထားရာက အငယ်ဆုံး ဆင်ရဲ့ ကျောကုန်းပေါ် ပစ်ချလိုက်တယ်ဗျ။



မာတိကာသို့

တိရစ္ဆာန်ဆိုတော့ ဘာရယ်လို့ ဘယ်သိပါ့မလဲ။ ဆပ်ကပ်ကွင်းထဲဝင်ဖို့ အချိန်ကျတာနဲ့ သူတို့ကို အချက်ပေးပြီလို့ ထင်ဟန်တူပါရဲ့။ ငြိမ်ငြိမ်ဆိမ်ဆိမ် ရပ်နေရာက လူသွားလမ်းအတိုင်း ပြေးပါလေရော။ လူတွေကလည်း လန့်ဖြန့်ပြီး ခြေဦးတည့်ရာကို ကစဉ့်ကလျား ထွက်ပြေးကုန်ကြတယ်။ အီဒါက အသံကုန်ဟစ်အော်ပြီး ကျုပ်နောက်က ကဆုန်စိုင်းပြီး လိုက်လာတယ်။ ကျုပ်ကတော့ ဆင်ပေါက်စရဲ့ ကျောပေါ်မှာ ကားယားကြီး ခွလို့။ ကျုပ်လည်း ကြောက်အားလန့်အားနဲ့ သူ့နားရွက်တွေကို ဆွဲပြီး ရပ်သွားအောင်လုပ်ဖို့ အစွမ်းကုန် အားထုတ်ပါတယ်။ ဒါပေမဲ့ မရဘူးဗျ။ နောက်ဆုံး လူသွားလမ်းဆုံးလည်း ရောက်ရော ကျုပ်လည်း ဆင်ပေါ်က လိမ့်ကျပါလေရော။ ကျုဖ်နောက်စေ့ဟာ မြေကြီးနဲ့ တအား ဆောင့်မိတာဆိုတော့ သတိလစ်သွားတာပေါ့။ နောက်ပိုင်းမှာ ဘာတွေဖြစ်ကုန်တယ်ဆိုတာ ကျုပ်လုံးဝ မသိတော့ဘူး။ ကျုပ်သတိရလာတော့ ရှေးဦးသူနာပြုအခန်းထဲရောက်နေပြီ။ အီဒါက ကျုပ်လက်တစ်ဖက်ကို ကိုင်ပြီး ကျုပ်ဘေးမှာ ထိုင်လို့။ နောက်တော့ ကျုပ်နေလို့ထိုင်လို့ သက်သာတာနဲ့ တစ်ပြိုင်နက် ဆပ်ကပ်ပြပွဲဒုတိယပိုင်းကို မကြည့်တော့ဘဲ အိမ်ကို ပြန်လာခဲ့ကြတယ်။

နောက်တစ်နေ့ကျတော့ ကျုပ်က အီဒါကို ပြောတယ်။ "မင်းအပြစ်ပဲ။ ဒီလို စိတ်ကူးမျိုး အထင်မျိုး ငါ့ခေါင်းထဲရောက်အောင်လုပ်တာ မင်း၊ ငါ့ကိုယ်ငါအထင်ကြီးလာပြီး ဘဝင်မြင့်အောင် မင်းလုပ်တာ။ ဟိုမိန်းမ ပြောတာမှ တကယ်မှန်တာ။ ငါဟာ သနားစရာ ငါးတစ်ကောင်ပဲ။ ဒီထက် မပိုဘူး"

အရုဏ်ကောင်းကင်စာအုပ်တိုက်

မာတိကာသို့ ▶▶

ဒါပေမဲ့ အီဒါက ကျုပ်လက်ကို ကိုင်ပြီး ကျုပ်မျက်နှာကို စေ့စေ့စပ်စပ် ကြည့်နေတယ်။ ပြီးတော့ "ရှင်ဟာလေ၊ တကယ့်ကို ကျက်သရေရှိတာပဲ။ ခုညာ တာလည်း အလွန်ပဲ"လို့ ပြောတယ်။ "တကယ်တော့ ဟိုအကောင်က ရှင့်ကို ကြောက်တယ်၊ ကြောက်လို့သာ ရှင့်ကို မပြီး ဆင်ပေါ်ပစ်ချတာပေါ့။ ဟုတ်ဘူးလား။ နောက်ပြီးတော့လည်း ရှင်စီးသွားတာကလေ တကယ့်ကို ခမ်းနားကြီးကျယ်တာပဲ။ တစ်ခုပဲ သနားစရာကောင်းတယ်။ ရှင် ဆင်ပေါ်က လိမ့်ကျသွားတာလေ"

ကဲ...အဲဒါပဲ။ ဘယ်လိုလုပ်မလဲ။ ကျုပ်ဘာပြန်ပြောမလဲ။ ကျုပ်မှာ ပြောစရာ မရှိတော့ဘူး။ ဘယ်လိုပဲဖြစ်ဖြစ် အီဒါ့အတွက်ကတော့ ကျုပ်ဟာ တစ်ခုပဲ။ အခြားလူတွေအတွက်ကတော့ တစ်မျိုး ဖြစ်ပေမပေါ့။ ဒါပေမယ့် ကျုပ်သိချင်နေတာ တစ်ခုတော့ ရှိတယ်။ မိန်းမတွေအနေနဲ့ သူတို့ချစ်မိပြီဆိုရင် ဘာကိုမြင်ပြီး ချစ်ကြတာလဲ။ အဲဒါကို ခင်ဗျား ပြောပြနိုင်မလားဟင်။ ။



## ပြစ်မှု

ဖြစ်နေတဲ့အဖြစ်က မခံချင်စရာကောင်းလွန်းတော့လည်း ကျုပ်အနေနဲ့ မပြောဘဲကိုမနေနိုင်ဘူး။ ဒါ့ကြောင့်မို့ ပြောရတာပါ။ ကျုပ်အနေနဲ့ မိန်းကလေးတစ်ယောက်နဲ့ မိတ်ဆွေ ဖြစ်လာပြီဆိုပါတော့။ချက်ချင်းလိုလိုပဲ ရီဂါမွန်တီနဲ့ မိတ်ဖွဲ့ပေးလိုက်တာချည်းပဲ။ သူကလည်းသူလုပ်နေကျ ပုံစံအတိုင်းပဲ၊ အဲဒီမိန်းကလေးကို သွေးဆောင်ဖြားယောင်းပြီး ကျုပ်လက်ထဲက လုယူသွားတာချည်းပဲ ...။

အဲသလိုဖြစ်ဖြစ်နေတာဟာ ဘာ့ကြောင့်လဲ ...။ မိန်းမတွေနဲ့ ပေါင်းသင်းဆက်ဆံတဲ့နေရာမှာကျုပ်လည်းပဲ သူ့လို'စွံ'တာပါပဲဆိုတဲ့အချက်ကို ကျုပ်ဘက်က မပြမိလို့ရင်လည်း ဖြစ်မယ်။ ဒါမှမဟုတ်ရင် သူဘာပဲလုပ်လုပ် ကျုပ်က သူ့အပေါ်မှာ မကောင်းစိတ်မထားဘဲ ဆက်ဆံမြဲဆက်ဆံနေလို့

ရင်လည်း ဖြစ်မယ်။ အေးပေါ့လေ။ သူ့ဘက်က အဲသလို သစ္စာမဲ့မှုမျိုး တွေ ရှိနေပေမယ့် ကျုပ်ကတော့သူ့အပေါ် စိတ်မဆိုးတဲ့အပြင် သူငယ်ချင်း တစ်ယောက်လိုပဲဆက်ဆံမြဲ ဆက်ဆံခဲ့ပါတယ်။

ဒါပေမဲ့ဗျာ၊ သူ့ဘက်ကတော့ အဲသလိုမျိုးမဟုတ်ဘူး...ဗျ။ ကျုပ်အပေါ်မှာ လုံးဝဂရုမစိုက်တဲ့ ပုံစံပဲ။ ကျုပ်က တစ်ဆင့်သိရတဲ့မိန်းကလေးကို ကျုပ်ရှေ့မှာပဲ မျက်နှာပြောင်တိုက်ပြီး ပိုးစကားပန်းစကားတွေ ပြောတယ်။ ရိသဲ့သဲ့ ပုံစံနဲ့ ပရောပရီလုပ်တယ်။ အံမယ်... ကျုပ်ရှေ့မှာတင် လူချင်းတွေ့ဖို့ ချိန်းလား ဘာလား...နဲ့။ အဲသလို လုပ်တာမျိုးကျတော့ ကျုပ်စိတ်ထဲမှာ ကသိကအောက်ဖြစ်မိတာပေါ့။ ယဉ်ကျေးတဲ့ လူတစ်ယောက်ရဲ့ အလုပ်မျိုး မဟုတ်တော့ ဒေါသလည်း ဖြစ်မိတာပေါ့။

သူကတော့ ကျုပ်နဲ့ ဆက်စပ်ပတ်သက်နေတယ်လို့ နည်းနည်းကလေးမှ တွေးပုံမပေါ်ဘူး။ သူ့အတွက် အဆင်ပြေဖို့နဲ့ သူသာယာဖို့လောက် သာရှေ့တန်းတင်ပြီး လုပ်နေတာပဲ။ ကျုပ်ကတော့ အချင်းချင်းရန်ဖြစ်မှာ စိုးရိမ်လို့ ဘာမှမပြောဘဲ ငြိမ်နေတာပါပဲ။ တစ်ကြိမ်နှစ်ကြိမ်တော့ကျုပ်က ပြောမိတယ်။ အခုလိုလုပ်နေတာဟာ မကောင်းတဲ့အကြောင်းပေါ့။ ပြောတာကတော့ ကိုယ့်ရင်ထဲက ခံစားမှုကို ဖော်ပြတဲ့နေရာမှာ ညှံ့ဖျင်းလွန်းလို့လားတော့ မသိဘူး...။ ခပ်တွန့်တွန့် လေသံနဲ့ ပြောမိတာပါ။

အမှန်တော့ ကျုပ်ဟာ ရင်ထဲမှာ ဒေါသစိတ်တွေ ပြင်းထန်နေပေမယ့် အပြင်ဘန်းမှာတော့ အေးအေးဆေးဆေးပါပဲ။ ကျုပ်ဒေါသဖြစ်နေတာကို ဘယ်သူမှ မရိပ်မိကြပါဘူး။ ဒါပေမဲ့ ...သူက ကျုပ်ကိုဘယ်လို ပြန်ပြော တယ်ထင်သလဲ...။ "မင်းအပြစ်တင်ရမှာက ငါမဟုတ်ဘူးကွ၊ မင်းကိုယ်မင်း



မာတိကာသို့ ▶▶

အပြစ်တင်ရမှာ...။ ကောင်မက ငါ့ကို မင်းထက်ပိုပြီး သဘောကျတယ်ဆိုရင် ငါ့ရဲ့ ဆက်ဆံရေးက မင်းထက်ပိုကောင်းပြီး ပိုတော်နေလို့ပေါ့ကွာ"တဲ့။ အေးပေါ့လေ။ တစ်နည်းအားဖြင့်တော့လည်း သူ့စကားဟာ မှန်ပါတယ်။ ရုပ်ရည်ကတော့ သူက ကျုပ်ထက်သာတာအမှန်ပါ။

အတိုချုပ် ပြောရရင်တော့ အဲသလို အချိုးမျိုးတွေ သူက ကျုပ်အပေါ် လေး,ငါးကြိမ်လောက် လုပ်ပြီးတဲ့ အခါမှာတော့ကျုပ်ဟာ သူ့ကို သိပ်ပြီး မုန်းတီးလာတယ်။ ဒါ့ကြောင့်မို့ ကျုပ်တို့နှစ်ယောက်စလုံး အလုပ်လုပ်နေတဲ့ အရက်ဆိုင်ထဲမှာ ကျုပ်ဟာ သူ့ကိုဘယ်နေရာမှာပဲတွေ့တွေ့ မျက်နှာချင်း မဆိုင်မိအောင် ကြိုးစားပြီးနေတယ်။ အရက်ကောင်တာရဲ့ နောက်မှာ လူချင်း ဆုံမိတာတောင်မှ စကားမပြောမိအောင် ရှောင်တယ်။

အဲဒီအချိန်မှာ ကျုပ်ဟာ သူက ကျုပ်အပေါ်မှာ လုပ်ထားခဲ့တဲ့ အမှားတွေကို မတွေးမိအောင် အားထုတ်ပြီး နေတယ်။ သူ့အကြောင်းကို တော့ မတွေးမိဘဲမနေနိုင်ပါဘူး။ အဲ...သူ့အကြောင်း တွေးလိုက်ရင် ကျုပ်စိတ်ထဲမှာ သူ့ကို တွေ့ချင်မြင်ချင်စိတ် မရှိလောက်အောင်ကို မုန်းတီး ရွံရှာမိတယ်။ သူ့ရဲ့ အသိဉာဏ်ကင်းမဲ့တဲ့ မျက်နှာ၊ မျက်စိပေါက်ကျဉ်းကျဉ်း၊ နှာခေါင်းကြီးကြီး၊ နှာယောင်ကောက်ကောက်တွေကို မြင်ယောင်ပြီး တအားကို စက်ဆုတ်မိပါတာပါပဲ။

သူ့ဆံပင်ကလည်းဗျာ။ ခေါင်းပေါ်မှာ သံခမောက်ဆောင်းထားတဲ့ အတိုင်းပဲ။ အမွေးအမျှင်ကလည်း ထူသလားမမေးနဲ့။ ကော်ဖီစက်ရှေ့မှာ စက်ခလုတ်ကို နှိပ်ပြီး ခွက်ကိုကိုင်ထားတဲ့ လက်က အမွေးတွေဟာ မည်းသဲနေတာပဲ။ တကယ့်ကို ရွံစရာ စက်ဆုတ်စရာကောင်းပါတယ်။

သူ့နှာခေါင်းကြီးကတော့ ကျုပ်ကို ဆွဲဆောင်မှုအပေးဆုံးအရာတစ်ခုပါပဲ။ နှာခေါင်းပေါက်ကြီးနှစ်ပေါက်က ကျယ်သလားမမေ့နဲ့။ နီရဲရဲမျက်နှာကြီးရဲ့ အလယ်မှာ ရှိနေတဲ့ အဲဒီနှာခေါင်းကြီးကို လက်သီးနဲ့ တအားပိတ်ထိုး လိုက်ရရင် ဘယ်လောက်များ အရသာရှိလိုက်မလဲလို့ မတွေးဘဲကို မနေ နိုင်ဘူး…။

ဒါပေမဲ့ ခက်သားပဲ။ လက်တွေ့ကတော့ ဖြစ်မှ မဖြစ်နိုင်တာကိုး။ အဲဒီတော့ ကျုပ်အနေနဲ့ အိပ်မက်ထဲမှာပဲလက်သီးနဲ့ ပိတ်ထိုးနေရတယ်။ တကယ်တော့ သူနဲ့ ကျုပ်နဲ့က လူချင်းက ကွာတယ်။ ကျုပ်က အရပ်ပုပု၊ ပိန်ခြောက်ခြောက်…။ သူက ကျုပ်ကို လက်ညှိုးနဲ့ ထိုးလိုက်ရင်တောင် လဲကျ သွားမှာ သေချာတယ်။

ကျုပ်သူ့ကို သတ်ပစ်ဖို့ဆိုတဲ့ စိတ်ကူးဟာ ကျုပ်ခေါင်းထဲကို ဘယ် လို ဝင်လာသလဲဆိုတာ ကျုပ်ကို ကျုပ်လည်း မသိဘူး။ ပြန်စဉ်းစားလိုက် တော့ ကျုပ်တို့နှစ်ယောက် 'အပြစ်ကင်းသော ရာဇဝတ်မှုတစ်မှု'လို့ နာမည်ပေးထားတဲ့ အမေရိကန်ရုပ်ရှင်ဇာတ်ကားတစ်ကားကို သွားကြည့် တဲ့ညက ဝင်လာတယ်လို့ ထင်တာပဲ။ အမှန်အတိုင်း ပြောရရင် ပထမတော့ သူ့ကို သတ်ချင်စိတ်ဟာ တကယ် မရှိပါဘူး။ သတ်ရင် ဘယ်လို သတ်မလဲဆိုတာလောက်သာ စဉ်းစားတာပါ။

စဉ်းစားရတာကတော့ တကယ့်ကို အရသာရှိတာပဲ။ ညပိုင်းအိပ် မပျော်ခင် တစ်ချိန်နဲ့ မနက်ခင်းအိပ်ရာထဲက မထခင် တစ်ချိန်ဟာ စဉ်းစားလို့ အကောင်းဆုံး အချိန်တွေပါပဲ။ ရီဂါမွန်တီဟာ ကောင်တာ နောက်က ခွေးခြေခုံပေါ်မှာ ထိုင်နေတယ်။ လက်ထဲက သတင်းစာကို

ငုံ့ပြီး ဖတ်နေတယ်။ ခေါင်းလိမ်းဆီတွေနဲ့ ပြောင်လက်နေတဲ့ သူ့ခေါင်းကို ကြည့်လိုက်ရင် အသည်းယားစရာ အတော်ကောင်းတာပါလားဗျာ။

ကျုပ်စဉ်းစားလေ့ရှိတယ်။ "ရေခဲတုံးကြီးတွေကို ခွဲတဲ့ သံစို့ကြီးနဲ့ သူ့ခေါင်းကို ရိုက်ခွဲလိုက်ရရင် ဘယ်လောက်ကောင်းလိုက်မလဲ ။ တစ်ချက်တည်းနဲ့ ပွဲချင်းပြီးသွားမှာပဲ"စသည်ဖြင့်ပေါ့ဗျာ။ ဒါပေမဲ့ ဒီကိစ္စက စိတ်ကူးရုံသက်သက်ပဲရှိပါတယ်။ အင်း...စိတ်ကူးရုံသက်သက်ပဲ လို့သာ ဆိုရတယ်။ စိတ်ကူးရတာကတော့ဖြင့် တကယ့်ကို အရသာရှိတာပဲ။ စိတ်ကူးတာကလည်း ကြာလာတော့ အပေါ်ယံသက်သက်သာ မဟုတ်တော့ဘူး။ အသေးစိတ် စိတ်ကူးတဲ့အထိ ဖြစ်လာတယ်။

တဖြည်းဖြည်းနဲ့ ကျုပ်ဟာ ကျုပ်ရဲ့ စိတ်ကူးကို လက်တွေ့ အကောင်အထည်ဖော်ချင်တဲ့ဆန္ဒဖြစ်လာတယ်။အဲဒီဆန္ဒကို ကျုပ်အနေနဲ့ ခုခံတွန်းလှန်ဖို့ အားထုတ်ပါသေးတယ်။ ဒါပေမဲ့ အချိန်တွေ ကြာလာလေ မရလေ ဖြစ်လာတယ်။ အဲဒီဆန္ဒရဲ့ ဖိအားက သိပ်ပြီး ကြီးမားလွန်းလာတော့ နောက်ဆုံးမှာ လက်တွေ့အကောင်အထည်ဖော်တော့မယ်လို့ ဆုံးဖြတ်လိုက်တယ်။

ဒါကြောင့်မို့ ကျုပ်ဟာ ဆိုင်ထဲမှာ အလုပ်တွေလုပ်ရင်းနဲ့ စကားပြောဖို့ အခါအခွင့်ရလာတိုင်း လောလောဆယ် ကျုပ်ဟာ မိန်းကလေးတစ်ယောက်နဲ့ ခင်မင်နေကြောင်း၊ အဲဒီမိန်းကလေးဟာ အရင်တုန်းက သိကျွမ်းခဲ့တဲ့ မိန်းကလေးတွေထက် ပိုချောပိုလှကြောင်း၊ အဲဒီ ကောင်မလေးက သူ့ကို တစ်ဖက်သတ် သဘောကျနေကြောင်း စသည်ဖြင့် ရိဂါမွန်တီကို ပြော...ပြောပြတယ်။ ကျုပ်က အဲဒီစကားတွေကို နေ့စဉ်

ပြောပြရုံမကဘူး။ ပြောတဲ့အခါမှာလည်း ကောင်မလေးက သူ့ကို သဘောကျနေတဲ့အတွက် ကျုပ်ကိုယ်တိုင်က သူ့အပေါ် မနာလို ဝန်တိုဖြစ်နေတဲ့ အမူအရာမျိုးကို လုပ်ပြလိုက်သေးတယ်…။

ကျုပ်ရဲ့ စီမံကိန်းက ရိုးရိုးစင်းစင်းကလေးပါ။ ကျုပ်တို့ဆိုင်က ည ဆယ်နာရီတိတိမှာ ပိတ်တယ်။ ဒါပေမဲ့ ဆိုင်ရှင်က ဆိုင်ထဲမှာ ထိုင်ပြီး ဆယ်နာရီခွဲအထိ စာရင်းတွက်နေလေ့ရှိတော့ ကျုပ်တို့ ချက်ချင်း ပြန်လို့ မရဘူး။ ဆိုင်ရှင်ပြန်သွားတဲ့ အခါမှာ ကျုပ်က ရီဂါမွန်တီကို ချိန်းထားတဲ့နေရာအထိ ခေါ်သွားမယ်။ ကျုပ်ချိန်းထားတဲ့နေရာက ဗီတာဘို မီးရထားလမ်းဘေးနားက ရေကာတာအောက်မှာ။ ကောင်မလေးက ကျုပ်တို့ကို အဲဒီနေရာက စောင့်နေလိမ့်မယ်လို့ ပြောထားမယ်။

ဆယ်နာရီ ဆယ့်ငါးမိနစ်အချိန်ကျရင် ရထားတစ်စီးက ဖြတ်သွားနေကျ…။ အဲဒီရထားဖြတ်သွားနေတဲ့အချိန်မှာ ရထားသံကြောင့် ဘေးပတ်ဝန်းကျင်က ဘာသံမှ မကြားနိုင်ဘူး။ အဲဒါကို အခွင့်ကောင်းယူပြီး ရီဂါမွန်တီကို ကျုပ်က ခြောက်လုံးပြူးနဲ့ ပစ်သတ်မယ်။ ဆယ်နာရီ မိနစ်နှစ်ဆယ်ကျတော့ ကျုပ်ဆိုင်ကို ပြန်မယ်။ ကျုပ်မေ့ကျန်ရစ်တဲ့ အထုပ်တစ်ထုပ်ကို ယူဖို့ ပြန်လာတာပါလို့ ပြောမယ်။ အဲဒီတော့ ဆိုင်ရှင်က ကျုပ်ကို မြင်သွားမယ်။ နောက်ဆုံး ဆယ်နာရီခွဲအကျော်မှာ ကျုပ်ဟာ အိပ်ရာပေါ် ရောက်နေမယ်။ ကျုပ်ရဲ့ အစီအစဉ်က အမေရိကန်ရုပ်ရှင်ကားထဲက တစ်ဝက်တစ်ပျက် ခိုးယူထားတယ်။ အထူးသဖြင့် ရထားဖြတ်သွားတုန်း သေနတ်နဲ့ပစ်သတ်တဲ့အပိုင်းဟာ ရုပ်ရှင်ထဲက ပြကွက်အတိုင်းပဲ …။



မာတိကာသို့ ▶▶

ကျုပ်ရဲ့ အကြံအစည်ဟာ အောင်မြင်ချင်မှလည်း အောင်မြင်ပေမပေါ့ဗျာ။ ကျုပ်လုပ်မယ့်ကိစ္စကို ကံမကောင်းအကြောင်းမသင့်ရင် သူသိသွားနိုင်တယ်။ ဒါပေမဲ့ ဘာပဲဖြစ်ဖြစ် ကျုပ်က သူ့ကို စက်ဆုပ်မုန်းတီးနေတော့ လက်စားချေခြင်းဖြင့် စိတ်သာယာမှုတော့ ရှာရမှာပဲ။ အဲဒီစိတ်သာယာမှုရဖို့အတွက်ကြောင့် ဘယ်လောက်ပဲ ခက်ခဲခက်ခဲ ဒီအလုပ်ကို ကျုပ်လုပ်ရမှာပဲ။

နောက်တစ်နေ့မှာ ကျုပ်တို့နှစ်ယောက်စလုံး အလုပ်များနေကြတယ်။ ဘာ့ကြောင့်လဲ ဆိုတော့ အဲဒီနေ့က စနေနေ့ကိုး...။ အလုပ်ကများနေတော့ သူနဲ့ ကျုပ်နဲ့ ကောင်မလေးအကြောင်း စကားပြောဖို့ အချိန်မရကြဘူး။ ကျုပ်အနေနဲ့လည်း ကိုယ်လုပ်ရမယ့်အစီအစဉ်ကိုတောင် မစဉ်းစားနိုင်ဘူး။ ညဆယ်နာရီထိုးတော့ ကျုပ်တို့နှစ်ယောက်ဟာ ထုံးစံအတိုင်း ဂျက်ကက်အကျီတွေကို ချွတ်ပြီး ဆိုင်ရှင်ကို နှုတ်ဆက်ကြတယ်။ ပြီးတော့ ဆိုင်ထဲက ထွက်လာခဲ့ကြတယ်။

ကျုပ်တို့ဆိုင်က လမ်းကြားထဲမှာဆိုတော့ အဲဒီလမ်းကြားက ထွက်လိုက်ရင် ဗီတာဘို မီးရထားလမ်းနဲ့ သိပ်မဝေးဘူး။ ဒီအချိန်ဆိုရင် မမေ့နိုင် ပန်းခြံထဲမှာ လာပြီး ဖက်ကြပွေ့ကြ၊ နမ်းကြရှုံ့ကြ လုပ်နေတဲ့ စုံတွဲတွေဟာ ပြန်သွားလောက်ပြီ။ အဲဒီပန်းခြံဟာ မီးရထားလမ်းနားက တောင်ကုန်းပေါ်မှာရှိတာ။ ကျုပ်တို့ထွက်လာတို့ လူရိပ်လူခြေဆိုလို့ တစ်ယောက်မှ မမြင်ရတော့ဘူး။ ဧပြီလဆိုတော့ တိုက်နေတဲ့လေကလည်း လေနုအေးကလေးဗျ။ ကောင်းကင်ကလည်း တဖြည်းဖြည်းချင်း တိမ်တွေပျောက်ပြီး ကြည်လင်လာတယ်။ လရောင်ကိုတော့ အခုအချိန်အထိ

မမြင်ရသေးဘူး။

ကျုပ်တို့နှစ်ယောက်ဟာ ဘေးချင်းယှဉ်ပြီး လျှောက်လာကြတယ်။ ရိဂါမွန်တီကတော့ သိပ်ကို အူမြူးနေတယ်။ သူ့အကျင့်အတိုင်း ကျုပ်ကျောကိုပုတ်ပုတ်ပြီး စကားတွေ ပြောလာနေတယ်။ ကျုပ်ကတော့ ခပ်တင်းတင်း ခပ်မာမာပဲ။ လက်နှစ်ဖက်ကို ပိုက်ပြီး ဂျက်ကက်အောက်မှာ ဝှက်ထားတဲ့ သေနတ်ကို ဖိထားတယ်။ ကျုပ်တို့ဟာ တဖြည်းဖြည်းနဲ့ တာရိုးကြီးဘေးကို ရောက်လာခဲ့ကြတယ်။ အဲဒီနေရာဟာ တာရိုးကြီး ရှိနေတဲ့အတွက် အမှောင်ဆုံးနေရာပဲ။ တခြားနေရာတွေထက်ပိုပြီး မှောင်ကျုံ မကဘူး၊ မှောင်မည်းနေတာပဲ...။ အဲဒီအချိန်မှာ ရိဂါမွန်တီက ရှေ့က...။ ကျုပ်က နောက်က...။

ချိန်းထားတဲ့နေရာက လမ်းဘေးဓာတ်မီးတိုင်နဲ့ သိပ်မဝေးဘူး။ အဲဒီနေရာရောက်တော့ ကျုပ်က "ကောင်မလေး မှာလိုက်တာကတော့ သူ့ကိုဒီနေရာက စောင့်ပါတဲ့...။ အဲဒီတော့ မင်းစိတ်မပူပါနဲ့ကွာ။ သူ မကြာခင် ရောက်လာမှာပါ"လို့ ပြောလိုက်တယ်။ သူဟာ စီးကရက်တစ်လိပ် မီးညှိပြီး ဖွာနေတယ်။ ပြီးတော့ ကျုပ်ကိုလှမ်းကြည့်ပြီး စပ်ဖြီးဖြီးနဲ့ ကြည့်နေတယ်။ 'အရက်ဆိုင်တစ်ဆိုင်က စားပွဲထိုးတစ်ယောက်အနေနဲ့ ဆိုရင် မင်းဟာ တော်တော် တော်တဲ့အကောင်ပဲ။ ဒါပေမဲ့ ဓိမ်ခေါင်း တစ်ယောက်အနေနဲ့ကျတော့ မင်းက တော်လွန်းအားကြီးလို့ ယှဉ်နိုင်တဲ့လူ မရှိဘူးကွ"လို့ သူက ကျုပ်ကို ပြောတယ်။ ဒီအကောင်ဟာ အဲသလိုပဲ။ နောက်သလိုလို ပြောင်သလိုလိုနဲ့ ကျုပ်ကိုအမြဲတမ်း စော်ကားလေ့ရှိတယ်။

နေရာကတော့ တော်တော်ခေါင်တဲ့ နေရာဗျ။ လူတစ်ယောက်မှ

မရှိဘူး။ လကလည်း ထွက်လာပြီ။ အနီးအနားမှာရှိနေတဲ့ သစ်ပင်တွေ ချုံပုတ်တွေနဲ့ ရေကာတာကြီးကြောင့် အလင်းရောင်သိပ်မဝင်နိုင်ဘူး။ တိုင်ဘာမြစ်ကတော့ စီးဆင်းနေတယ်။ ရေပြင်ပေါ်မှာ ငွေရောင်သင်ဖြူး ခင်းထားသလိုပါပဲ။ ရာသီဥတုက အေးလာလို့လား မပြောတတ်ပါဘူး။ ကျုပ်တစ်ကိုယ်လုံး တုန်ယင်လာတယ်။ ကျုပ်က ကျုပ်ကိုကျုပ် ရဲဆေး တင်တဲ့အနေနဲ့ "သူလာတော့ လာမှာပဲကွ၊ အချိန်တော့ မှန်ချင်မှ မှန် မယ်ပေါ့ကွာ။ သူက ဆိုင်တစ်ဆိုင်မှာ အလုပ်လုပ်တယ်။ သူ့အလုပ်ရှင် တွေ ပြန်မှ သူက ထွက်နိုင်မှာ"လို့ သူ့ကို ပြောပြတယ်။ သူကလည်း ချက်ချင်း ပြန်ဖြေတယ်။ "ဟော့...ဟော့ ဟိုမှာ သူလာနေပြီကွ"တဲ့။

ကျုပ်လှမ်းကြည့်လိုက်တော့ လူသွားလမ်းပေါ်အတိုင်း မည်းမည်း မည်းမည်းနဲ့ လျှောက်လာနေတဲ့ မိန်းမတစ်ယောက်ကို မြင်ရတယ်။ အမှန်တော့ ကျုပ်က ဒီနေရာအကြောင်းကို ဂဃနဏမှ မသိခဲ့ဘဲကိုး။ ဒီနေရာဟာလည်း ပြည့်တန်ဆာမတွေ ကျက်စားတဲ့နေရာပဲဗျ။ သူတို့ရဲ့ ဖောက်သည်တွေနဲ့ ချိန်းချိန်းပြီး တွေ့တဲ့နေရာတစ်ခုပဲ။ အဲသလို သိမထား တဲ့ ကျုပ်ဟာ မိန်းမတစ်ယောက်လာနေတာ မြင်တော့ သိပ်ကို အံ့သြ သွားတယ်။ ကျုပ်စိတ်ကူးနဲ့ ဖန်တီးထားတဲ့ မိန်းကလေးဟာ ဒီနေရာကို ဒီညလာဖို့ အကြောင်းမရှိဘူး။

ရီဂါမွန်တီကတော့ အဲဒီမိန်းမဘက်ကို လျှောက်သွားတယ်။ ချိန်း ထားတဲ့ ကောင်မတော့လာပြီကွ လို့ ယေချာပေါက်တွက်ထားပုံပေါ်တယ်။ ကျုပ်ကလည်း ယောင်တိယောင်ကမ်းနဲ့ နောက်ကလိုက်သွားမိတယ်။ ကျုပ်တို့နဲ့ မလှမ်းမကမ်းလည်းရောက်ရော မိန်းမက အမှောင်ရိပ်ထဲက

နေပြီး ဓာတ်မီးတိုင်အောက်ကို ထွက်လာတယ်။ အဲဒီတော့ သူ့မျက်နှာကို ကျုပ်မြင်တာပေါ့။ မျက်နှာကတော့ အတော့်ကိုထူးဆန်းတဲ့ မျက်နှာပဲ။ မျက်လုံးတွေက ပြူးတိပြူးကြောင်နဲ့။ ကာခြယ်တွေဆိုးထားလိုက်တာ မည်းနေတာပဲ။ တစ်မျက်နှာလုံးမှာ အထပ်ထပ်ဖို့ထားတဲ့ ပေါင်ဒါတွေကြောင့် ဖွေးဖွေးကို လှုပ်နေတာပဲ။ နှုတ်ခမ်းကလည်း ရဲရဲကိုတွတ်နေတာပဲ။ ဆိုးထားနဲ့ အနက်ရောင်ဆံပင်တွေကလည်း လေထဲမှာလွင့်နေတယ်။ လည်ပင်းမှာလည်း အနက်ရောင်ပုဝါကြီး စည်းထားလိုက်သေးတယ်။ အမှန်တော့ သူဟာ သူ့မျက်နှာကို ဖောက်သည်တွေမမြင်အောင် အမှောင်ဆုံးနေရာတွေကိုရွေးပြီး အလုပ်လုပ်နေရတဲ့ ပြည့်တန်ဆာတစ်ယောက်ပဲ။ အသက်ကလည်း အနည်းဆုံး ခြောက်ဆယ်လောက်ရှိပြီဆိုတော့ ကျုပ်အနေနဲ့ သရဲတစ်ကောင်နဲ့ တွေ့ရသလို တအားကို လန့်သွားတယ်။

ကျုပ်တော့ဖြင့် နားမလည်နိုင်တော့ပါဘူး။ အသက်တွေကြီးလာပေမယ့် အခုအချိန်ထိ ဒီအလုပ်ကလွဲပြီး တခြားအလုပ်ကို မလုပ်နိုင်သေးဘူး။ အဲဒါဘာ့ကြောင့်လဲ။ ဟိုအကောင် ရီဂါမွန်တီကတော့ ကျုပ်မြင်သလို မမြင်သေးဘူးဗျ။ အရှက်မရှိတဲ့လေသံနဲ့ "ခင်ဗျား ကျုပ်တို့ကို စောင့်နေတာလား" လို့ မေးတယ်။ မိန်းမကြီးကလည်း အရှက်မရှိ ပြန်ဖြေတယ်။ "ဒါပေါ့ကွယ်၊ မင်းတို့လေးတွေကို စောင့်နေတာပေါ့" တဲ့။

အခုအချိန်မှာတော့ ရီဂါမွန်တီဟာ မိန်းမကြီးကိုမြင်သွားပြီ။ သူ့အများကိုလည်း သူမြင်သွားပြီ။ အလန့်တကြားနဲ့ နောက်ကိုခြေတစ်လှမ်းဆုတ်လိုက်တယ်။ "ဟာ၊ ကျုပ်ဒီည မအားဘူးဗျ၊ ဒါပေမယ့် ဟောဒီ

ကျုပ်သူငယ်ချင်းကတော့ အားပါတယ်” လို့ပြောပြီး လမ်းဘေးကို ခုန်ထွက်လိုက်တယ်။ ပြီးတော့ တာရိုးအတိုင်း ပြေးထွက်သွားတယ်။ ကျုပ်ဆီက မိန်းကလေးတွေကို သုတ်သုတ်သွားတဲ့အတွက် သူ့ကို ဒီလိုမိန်းမမျိုးကြီးနဲ့တွေ့အောင် တမင်တကာလုပ်ပြီး လက်စားချေတာပဲလို့ သဘောပေါက်သွားပုံပေါ်တယ်။

ကျုပ်ကလည်း ကျုပ်ကျူးလွန်ဖို့ စီစဉ်ထားတဲ့ ရာဇဝတ်မှုဟာ အခိုးအငွေ့ဖြစ်သွားပြီလို့ သိလိုက်တယ်။ ကျုပ်က မိန်းမကြီးကို စိတ်မကောင်းတဲ့ မျက်နှာထားနဲ့ ကြည့်နေမိတယ်။ သူကတော့ ကျုပ်ကို အပြုံးနဲ့ ကြိုဆိုနေတယ်။ ဒါပေမဲ့ဗျာ သူ့အပြုံးက ကျုပ်ကို သရဲခြောက်ပြနေသလိုပါပဲ။ “ကိုလူချောကလေးရယ်၊ စီးကရက်တစ်လိပ်လောက်တိုက်ပါလား” လို့ မိန်းမကြီးက ပြောလိုက်တော့ ကျုပ်သူ့ကို သနားသွားတယ်။ အမှန်အတိုင်းပြောရရင် ကျုပ်ကိုယ်ကျုပ်လည်း သနားတယ်။ ဟိုအကောင် ရိဂါမွန်တီကိုလည်း သနားမိတယ်။

စောစောက ရိဂါမွန်တီအပေါ်မှာ စက်ဆုတ်မုန်းတီးနေတဲ့ စိတ်ဟာ ဝေးရာကိုလွင့်စင်သွားပြီ။ ကျုပ်မျက်လုံးတွေထဲမှာ မျက်ရည်စတွေနဲ့ ပြည့်လာတယ်။ အေးဗျာ၊ ကျုပ် ဒီမိန်းမကြီးကိုပဲ ကျေးဇူးတင်ရမှာပဲ။ သူကယ်လိုက်လို့သာ ကျုပ်ဟာ လူသတ်သမား မဖြစ်တာ။ “ကျွန်တော့်မှာ စီးကရက်တော့မပါဘူး။ ဒါပေမဲ့ ဒါတော့ပါတယ်“ လို့ ပြောလိုက်တယ်။ ခင်ဗျား ဒီပစ္စည်းကို ရောင်းရင် လီယန်ငွေတစ်ထောင်လောက်တော့ ရမှာပါ။

ပြောပြောဆိုဆိုနဲ့ပဲ ကျုပ်ဟာ ဘာရက်တာပစ္စတိုသေနတ်ကို



မာတိကာသို့ ▶▶

အဘွားကြီးလက်ထဲ ထည့်ပေးလိုက်တယ်။ အဲဒီနောက်တော့ ကျုပ်လည်းပဲ လမ်းဘေးကိုခုန်ဆင်းလိုက်ပြီး အသားကုန် ဒုန်းစိုင်းလာခဲ့တယ်။ ဒီအချိန်မှာပဲ ဗီတာဘိုမီးရထားဟာ ဝေါခနဲ၊ ဝေါခနဲ ဖြတ်သွားနေပြီ။ ရထားတွဲတွေမှာတော့ မီးလုံးတွေ ထိန်ထိန်လင်းလို့။ ကျုပ်ဟာ တစ်နေရာမှာရပ်ပြီး ရထားကိုကြည့်နေမိတယ်။ ရထားသံကိုလည်း အသံပျောက်သွားတဲ့အထိ နားစွင့်နေမိတယ်။ နောက်ဆုံးမှာတော့ ကျုပ်ဟာ အိမ်ကိုပြန်လာခဲ့တယ်။

နောက်တစ်နေ့မနက် အရက်ဆိုင်ကိုရောက်သွားတော့ ရီဂါမွန်တီက ကျုပ်ကိုဆီးပြောတယ်။ "မင်းငါ့ကို ထောင်ထားတယ်ဆိုတာ သိပါတယ်ကွာ။ ဒါပေမယ့် ငါစိတ်မဆိုးပါဘူး။ မင်းလုပ်လိုက်တာ ပြက်လုံးကောင်းလေးတစ်ခုလို့ ငါကယူဆပါတယ်" တဲ့။ ကျုပ်ကသူ့ကို ဖျတ်ခနဲလှမ်းကြည့်တယ်။ ဒီကောင့်ရဲ့ ပုံပန်းကတော့ အရင်တုန်းကလို ထောင့်မကျိုးတဲ့ပုံပါပဲ။ ဒါပေမယ့် ကျုပ်သူ့ကိုမုန်းစိတ်မရှိပါဘူး။ စိတ်ကလည်း အရမ်းကို ပေါ့ပါးသွားတယ်။

ရီဂါမွန်တီက ဖောက်သည်နှစ်ယောက်ဆီကို သွားပို့ပေးဖို့ ကော်ဖီနှစ်ခွက်တင်ထားတဲ့ လင်ပန်းတစ်ချပ်ကိုကျုပ်လက်ထဲလှမ်းပေးတယ်။ ကျုပ်က လင်ပန်းကိုယူရင်းနဲ့ "ဟေ့ကောင်၊ ဒီညဆိုင်ပိတ်ရင် တို့နှစ်ယောက် ဆုံကြဦးစို့၊ ငါဟိုကောင်မ အေမီလီယာကို ဖိတ်ထားတယ်ကွာ" လို့ တိုးတိုးလေး ကပ်ပြောလိုက်တယ်။ သူက "ဝမ်းနည်းပါတယ်ကွာ၊ ငါ ဒီည မလာနိုင်ဘူးကွ" လို့ ပြန်ပြောတယ်။

ကျုပ်ဟာ ကော်ဖီလင်ပန်းနဲ့ ထွက်လာခဲ့တယ်။ သူဒီည မလာနိုင်ဘူး



မာတိကာသို့

ဆိုတဲ့စကားဟာ ကျုပ်အတွက် စိတ်မကောင်းစရာ ဖြစ်နေတယ်။ အင်း၊ ခါတိုင်းဆိုရင် ကျုပ်နဲ့သိနေတဲ့ မိန်းကလေးတွေကို သူကျုပ်ဆီက 'သုတ်' သွားနေကျမဟုတ်လား။ အခုတော့ ကျုပ်ဆီက အေမီလီယာကို သူမ 'သုတ်'တော့ဘူးဆိုတော့ ကျုပ်စိတ်ထဲမှာ မကောင်းဘူးပေါ့ဗျာ။



## လာမထိနဲ့ မီးပွင့်သွားမယ်

အလက်စ်ဆန်ဒရိုဆိုတဲ့ကောင်က ကျုပ်ကို စားသောက်ဆိုင်တစ်ဆိုင်ထဲမှာ အရှက်တကွဲဖြစ်အောင် စော်ကားမော်ကား လုပ်ခဲ့တယ်။ သီတင်းနှစ်ပတ်ကြာတော့ ဒီအကောင်ဟာ သူ့မော်တော်ဆိုင်ကယ်ကို ကက်စ်ဆီယာလမ်းအတိုင်း စီးသွားနေတုန်း လော်ရီကားကြီးတစ်စီးနဲ့ ခေါင်းချင်းဆိုင်တိုက်မိလို့ နေရာမှာတင် ပွဲချင်းပြီးသွားတယ်။

နောက်တစ်ယောက်ကတော့ ဂျီယူလီဆိုတဲ့ အကောင်ပေါ့။ ဒီအကောင်က ကျုပ်ကို ရုပ်ရှင်ရုံထဲကအထွက်မှာ လက်သီးနဲ့ထိုးသွားတယ်။ နောက်သုံးရက်လောက်ကြာတော့ တိုက်ဘားမြစ် ရေချိုးဆိပ်မှာ ရေသွားချိုးရာက မြောင်းပုပ်မြောင်းသိုးတွေဆီကလာတဲ့ ရောဂါဆိုးတစ်မျိုးဝင်ပြီး နာရီပိုင်းအတွင်းမှာပဲ ကြွသွားတယ်။

အရှက်ကောင်းကင်စာအုပ်တိုက်

တစ်နေ့မှာပေါ့၊ ရီမိုဆိုတဲ့ကောင်က ကျုပ်ကို "မင်းဟာ သောက်ရူး၊ သောက်ပေါ၊ ဘာအသိမှမရှိတဲ့ ငတုံး၊ အလကားကောင်" လို့ မှိုချိုးမှျစ်ချိုး ပြောပြီး ထွက်သွားတယ်။ မကြာခင်မှာပဲ အယ်လ်အိုကာ လမ်းပေါ်မှာ ၄က်ပျောခွံတစ်ခွံကို တက်နင်းမိပြီး ချော်လဲလို့ ပေါင်တစ်ဖက်ကျိုးသွားတယ်။

မာရီယိုဆိုတဲ့ကောင်ကတော့ ဘောလုံးပွဲမှာ ကျုပ်ကို အလွန်ယုတ်မာ ရိုင်းစိုင်းတဲ့ အမူအရာတစ်ခု လုပ်ပြခဲ့တယ်။ အဲဒီနောက် ချက်ချင်းလိုလို ပဲ သူ့အိတ်ဆောင် မှတ်စုစာအုပ်ကို ဘယ်သူနှိုက်သွားမှန်းမသိဘူး၊ ပျောက်သွားတယ်။

တကယ်တမ်းပြောကြမယ်ဆိုရင်တော့ အခု ကျုပ်ပြောပြခဲ့တဲ့ လေးခု သာမကဘူး၊ အဲသလို အဖြစ်မျိုးတွေ အများကြီးရှိသေးတယ်။ ရှိသလောက် လျှောက်ပြောနေရင်လည်း မဖြစ်ဘူး။ ကြားရတဲ့လူအားလုံး ပျင်းကုန်မှာ စိုးရတယ်။ ဒါကြောင့်မို့ တိုတိုနဲ့လိုရင်းကိုပဲပြောမှဖြစ်မယ်။

ကျုပ်အနေနဲ့ အဲသလိုအဖြစ်မျိုးတွေနဲ့ မကြာမကြာ ကြုံကြုံနေရ တော့ တိုက်ဆိုင်မှုတွေလို့ မတွက်မိတော့ဘူး။ ခေါင်းထဲမှာ ကြံကြံဖန်ဖန် အတွေးတစ်ခုဟာ သူ့အလိုအလျောက် ဝင်လာတယ်။ ကျုပ်ကို လျှို့ဝှက် ဆန်းကြယ်တဲ့ စွမ်းအားတစ်ခုက စောင့်ရှောက်ကာကွယ်ပေးနေတယ်လို့ ထင်လာတယ်။ အဲ၊ အဲဒီစွမ်းအားကပဲ ကျုပ်ကို စော်ကားမော်ကားပြုတဲ့ လူတွေနဲ့ ကျုပ်ကိုရန်ပြုတဲ့လူတွေကို အသက်သေအောင်၊ ဒါမှမဟုတ် ဒဏ်ရာအနာတရဖြစ်အောင်၊ ဒါမှမဟုတ် ထိခိုက်နစ်နာအောင် လုပ်ပေးနေ တယ်လို့ ယူဆလာတယ်။

ဒီနေရာမှာ ကျုပ်ပြောချင်တာက ကျုပ်ကို စောင့်ရှောက်နေတဲ့ အရာဟာ မကောင်းဆိုးဝါးတော့ မဟုတ်နိုင်ဘူးဗျ။ ကောင်းတဲ့အမျိုးအစား ထဲကပဲဖြစ်ဖို့များတယ်။ ဒါပေမယ့် ခက်နေတာက ဒီကိစ္စကို အကျိုးနဲ့ အကြောင်းနဲ့ ဆီလျော်အောင်ပြောဖို့ကျတော့ မလွယ်ပြန်ဘူး။ တကယ် တော့ ကျုပ်ဟာ အဆင့်မြင့်မြင့် လူစားမျိုးလည်းမဟုတ်ဘူး။ လူချော လူလှတစ်ယောက်လည်း မဟုတ်ဘူး။ ခွန်အားဗလ တောင့်တင်းသန်စွမ်း တဲ့လူလည်း မဟုတ်ဘူး။ ငွေကြေးချမ်းသာတဲ့လူလည်း မဟုတ်ဘူး။ ကျုပ်လုပ်နေတဲ့အလုပ်က အထည်ဆိုင်တစ်ဆိုင်မှာ လက်ထောက်အရောင်း သမားဗျ။

အေးဗျာ၊ ဘာတွေပဲဖြစ်ဖြစ်ပေါ့။ ကျုပ်ကတော့ ကျုပ်ကို တခြား- လူတွေက မစော်ကားနိုင်အောင် မသိနိုင်မမြင်နိုင်တဲ့ တန်ခိုးစွမ်းအားရှင် တစ်ဦးတစ်ယောက်က ကာကွယ်စောင့်ရှောက်ပေးနေတယ်လို့ပဲ ထင်တာပဲ။ အေးပေါ့လေ။ ကျုပ်စကားကြားတဲ့ လူတွေကတော့ ဒါဟာ စိတ်ကူးယဉ် တစ်ခုပါလို့ ပြောကြမှာပဲ။

အဲသလိုဆိုရင် ကျုပ်တစ်ခုပြောပါရစေ။ ကျုပ်အပေါ် စော်ကား မော်ကားပြုလို့ သေတာတွေ၊ ဒဏ်ရာအနာတရ ဖြစ်တာတွေ၊ ထိခိုက် နစ်နာမှုဖြစ်တာတွေဟာ ဘာကြောင့်လဲ။ အထူးသဖြင့် ကျုပ်ကို အပေါ်စီး နဲ့ အနိုင်ယူချင်တဲ့လူတွေဟာ အဲသလိုဖြစ်ဖြစ်ကုန်တာ ဘာပြုလို့လဲ။ အဲဒါတွေကို တိုက်ဆိုင်မှုတွေပါကွာလို့ ပြောမလား။ ဒါမှမဟုတ်ရင် ကျုပ်ကို ကိုယ်စိတ်နှစ်ပါး ဆင်းရဲအောင်လုပ်တာနဲ့တစ်ပြိုင်နက် မမြင် နိုင်တဲ့ တန်ခိုးရှင်က ချက်ချင်းရောက်လာပြီး ကျုပ်ကိုကူညီနေတာလား။



မာတိကာသို့ ▶▶

ဖြစ်နိုင်ရင် ရှင်းပြကြစမ်းပါ။ အေးလေ၊ တကယ်လို့ ရှင်းမပြနိုင်ဘူး ဆိုရင်လည်း ရပါတယ်။ ကျုပ်ကတော့ ကျုပ်အတွေးနဲ့ကျုပ် ဟန်ကိုကျ နေတာပဲ။ မှော်ပညာနဲ့ရထားတဲ့ အတတ်ပညာတစ်ခုကို အမှီပြုပြီးနေရတဲ့ ဘဝလိုဟာမျိုးမို့ သာတောင့်သာယာ ရှိနေလိုက်တာလည်း အလွန်ပဲ။

နွေရာသီတစ်ရက်မှာပေါ့။ ကျုပ်နဲ့ ဂရာဇီယာဟာ တနင်္ဂနွေတစ်ရက် မှာ ဩစတီးယားဘက်သွားပြီး အပန်းဖြေမယ်လို့ စီစဉ်ကြတယ်။ ကျုပ်တို့ အထည်ဆိုင်မှာက လက်ထောက်အလုပ်သမား သုံးယောက်ရှိတယ်။ ဂရာ ဇီယာရယ်၊ ကျုပ်ရယ်၊ ပြီးတော့ ယူဂိုလို့ခေါ်တဲ့ လူသစ်တစ်ယောက်ရယ်။ အဲဒီယူဂိုဆိုတဲ့ကောင်က ကျုပ်အမှန်အတိုင်း ပြောပြရမယ်ဆိုရင် ကျုပ်နဲ့ လုံးဝမျက်နှာကြောမတည့်တဲ့ ပုံမျိုးဗျ။

ဒီကောင်က အရပ်ထောင်ထောင်မောင်းမောင်း၊ အားကစားသမား ရုပ်မျိုးနဲ့ သူ့ကိုယ်သူ အတော့်ကို အထင်ကြီးတဲ့ပုံစံ ပေါက်နေတယ်။ နှာခေါင်းကလည်း လက်ဝှေ့သမားနှာခေါင်းလို နှာခေါင်းကျိုးဗျ။ မေးရိုး ကြီးတွေကလည်း ခပ်ကားကားနဲ့ ဟိတ်ဟန်ကလည်း ခပ်ကြီးကြီးရယ်။ ဈေးဝယ်တစ်ယောက် ရောက်လာရင် သူ့ရှေ့ကကောင်တာကို လက်ထဲက အဝတ်စနဲ့သုတ်ရင်းမျက်လုံးတွေက လမ်းပေါ်မှာသွားလာလှုပ်ရှားနေတဲ့ လူတွေကိုလှမ်းကြည့်နေတယ်။ သူ့ရှေ့က ဈေးဝယ်ကိုတော့ တစ်ချက် ကလေးမှမကြည့်ဘူး။ အတော့်ကို သောက်မြင်ကပ်စရာကောင်းတဲ့ ပုံစံပါဗျ။ ကျုပ်ကတော့ ကြည့်လို့ကို မရဘူး။

ဈေးဝယ်တစ်ယောက် ရောက်လာရင် သူ့မျက်နှာထားနဲ့ ဟန်အမူအရာ တွေက ခပ်တည်တည်ပဲ။ ချိုသာပျူငှာတဲ့ပုံမျိုးကို လုံးဝမပြဘူး။ ဈေးဝယ်

က ခိုင်းတဲ့ပစ္စည်းကို ယူပြပြန်တော့လည်း ခပ်တည်တည်ပဲ။ တကယ်လို့ ဈေးဝယ်က မကြိုက်သလိုလို ဘာလိုလိုပြောလိုက်ရင်လည်း ပစ္စည်းကို ဖျတ်ခနဲကောက်ယူပြီး မလိုတမာလေသံနဲ့ "ခင်ဗျားလိုချင်နေတာက အညံ့စားပဲ"လို့ ပြောတယ်။ ပြီးတော့ ပစ္စည်းကိုယူပြီး စင်ပေါ်သွားတင်လိုက်တယ်။

အမှန်တော့ သူ့အဲသလိုလုပ်ထားတာဟာ ဈေးဝယ်တဲ့လူကို ခြိမ်းခြောက်တာဗျ၊ သိလား။ ဈေးဝယ်တဲ့လူကလည်း ဘာကြောင့်ရယ်လို့ မသိပါဘူး၊ သူက ပစ္စည်းကို ပြန်ယူသွားခါမှပဲပြန်ခေါ်ပြီး ပစ္စည်းကို ထပ်ကြည့်တယ်။ ကြည့်လည်းပြီးရော ဝယ်သွားတာပဲ။ ကျုပ် သူလုပ်သလို အတုခိုးပြီး လိုက်လုပ်ကြည့်တယ်။ သူ့လို အားကောင်းမောင်းသန် မဟုတ်လို့ပဲလား၊ ဒါမှမဟုတ် သူ့လို ရိုင်းရိုင်းစိုင်းစိုင်း လုပ်လေ့လုပ်ထ မရှိလို့ပဲလားတော့ မပြောတတ်ဘူး။ ဈေးဝယ်တွေကကျုပ်ကို "ဘော်တော်ရိုင်းတဲ့ကောင်ပါလား" လို့ပြောတယ်။ "မန်နေဂျာကို သွားတိုင်လိုက်လို့ အလုပ်ပြုတ်သွားမယ် သတိထား"လို့လည်း ခြိမ်းလားခြောက်လား လုပ်ကြတယ်။ ဒါနဲ့ပဲ ကျုပ်လည်း သူ့လို မလုပ်ရဲတော့ဘူး။ ကိုယ်လုပ်နေကျပုံစံအတိုင်းပဲ ဈေးဝယ်ကို ပြုံးပြုံးရယ်ရယ် ချိုချိုသာသာနဲ့ ဆက်ဆံပြီး ရောင်းရတယ်။

ဂရေဇီယာကလည်း ယူဂိုကို သဘောမကျဘူးဗျ သိလား။ သူက ကျုပ်ကို ယူဂိုအကြောင်း မကြာမကြာ ပြောလေ့ရှိတယ်။ "အဲဒီလူက ဘယ်လိုဟာကြီးမှန်း မသိဘူး။ တကယ့်ကြောက်စရာလူပဲ။ လူပုံကြီးကလည်း နီဂရိုးနဲ့ အတော့်ကိုတူတာပဲ"တဲ့။ အင်း၊ ဘယ်လိုပဲ ဖြစ်ဖြစ်

ပေါ့လေ။ ဂရာဇီယာနဲ့ကျုပ်နဲ့ ဩစတေးလျားဘက်သွားလည်ဖို့ စီစဉ်ထားတာကိုသိသွားတဲ့ ယူဂိုက ကျုပ်တို့ကိုမေးတယ်။ "တနင်္ဂနွေနေ့မှာ အပြင်ထွက်လည်ဖို့ စီစဉ်ထားကြတယ်ဆို၊ ဟုတ်လား"တဲ့။

ဂရာဇီယာကလည်း ဘယ်လိုမှန်းမသိပါဘူး။ ကိုယ်ကလေးတွန့်လိမ်လိုက် လုပ်ပြီး ထန်းလျက်ကို ခွေးလျက်ထားတဲ့ မျက်နှာမျိုးနဲ့ "ရှင်ကောဘာပြုလို့မလိုက်တာလဲ၊ လိုက်ခဲ့ပါလား" လို့ပြောတယ်။ ယူဂိုဆိုတဲ့ကောင်မျိုးက အလိုက်ကန်းဆိုးသိတတ်တဲ့ ကောင်မျိုးမှ မဟုတ်တာ။ ခေါ်တဲ့လူကခေါ်တော့ ချက်ချင်းပဲ "လိုက်မယ်"လို့ ဖြစ်လာတာပေါ့။ ဒါပေမယ့်သူကပြောတယ်၊ သူ့မိတ်ဆွေ အမျိုးသမီးတစ်ယောက်ကိုလည်း ခေါ်လာခဲ့မယ်တဲ့။ ဒါဆိုရင်တော့ သူကလည်း သူ့အတွဲနဲ့သူ၊ ကျုပ်ကလည်း ကျုပ်အတွဲနဲ့ကျုပ်ပေါ့။ ဒါပေမယ့် ခက်တာက သူ့စကားပြောလေသံက တစ်မျိုးပဲ။ ထန်တန်တန်၊ မာတာတာ၊ ကျောတော့တော့နဲ့။ သူကဟော့ ဂရေဇီယာနဲ့တွဲမယ်။ သူခေါ်လာမယ့် ကောင်မကို ကျုပ်ကတွဲပေါ့လို့ ဆိုချင်တဲ့သဘောက ပေါ်နေတယ်။

တနင်္ဂနွေနေ့ကျတော့ ကျုပ်တို့အားလုံး ချိန်းထားတဲ့အချိန်မှာ ဆန်ပါအိုလိုဘူတာမှာ ဆုံကြတယ်။ ခရီးသွားတွေကဖြင့် များပါ့ဗျာ။ ဘူတာထဲမှာ ကျုပ်တောက်နေတာပဲ။ ကျုပ်ရဲ့ ဂရေဇီယာကတော့ အပြာနုရောင် ဂါဝန်အသစ် ဝတ်လာတယ်။ သူ့ဆံပင်နဲ့ အလွန်လိုက်တဲ့အရောင်မို့ ကြည့်မဝ၊ ရှုမဝပါပဲ။ ကျုပ်ကတော့ နေ့လယ်စာအတွက် ဝယ်ထားတဲ့ ပစ္စည်းအိတ်ကို ကျောပိုးထားတယ်။ ဟိုအကောင် ယူဂိုကတော့ အစိမ်းနုရောင်ဝတ်စုံနဲ့ စမတ်ခပ်ကျကျပဲ။ သူခေါ်လာတဲ့ အမျိုးသမီးက သူ့ဘေး

မှာ။ နာမည်က ကလီမင်တီနာတဲ့။

ကျုပ်ရင်ထဲမှာရှိနေတဲ့ သံသယကတော့ မှန်နေပြီဗျ။ ဘာကြောင့်လည်းဆိုတော့ နှုတ်ရဲလျှာရဲ၊ ဇက်ရဲလက်ရဲကောင် ယူဂိုက ဂရေဇီယာရဲ လက်မောင်းကို လှမ်းဆွဲပြီး ကလီမင်တီနာနဲ့ကျုပ်ကို လှမ်းပြောတယ်။ "ကဲ၊ ကိုယ့်လူတို့နှစ်ယောက်က ကိုယ်တို့ကိုထားခဲ့ပြီး လစ်ထွက်မသွားနဲ့နော်။ ကိုယ်တို့နဲ့ လူချင်းကွဲမသွားအောင် သတိထား" တဲ့။ ဂရေဇီယာကလည်း ဒီအကောင်ပြောတာကို သိပ်သဘောကျသွားတဲ့ ပုံစံမျိုးနဲ့ ခိုးခိုးခစ်ခစ် လုပ်နေလိုက်သေးတယ်။ သူ့ကိုယ်ကလည်း လိမ်တွန့်ပြီး ထိုးထိုးထွန့်ထွန့်ဖြစ်နေတော့ ဟိုအကောင်နဲ့ ထိမိသွားတယ်။

အင်း၊ ကျုပ်အဖို့ကတော့ သွားပြီလို့ပဲတွက်ရတော့မှာပေါ့။ ကျုပ် ကလီမင်တီနာကို တစ်ချက်လှည့်ကြည့်မိတယ်။ ယူဂိုဆိုတဲ့အကောင်ရဲ့ အမြင်နဲ့ကြည့်မယ်ဆိုရင်တော့ ကလီမင်တီနာဟာ ကျုပ်နဲ့ အသင့်တော်ဆုံး မိန်းမပဲပေါ့လေ။ သူကတော့ ကျုပ်အတွက် သိပ်မဆိုးလှပါဘူးလို့ပဲ ဆိုပေမပေါ့။ ကောင်မက အသားကဖြူဖြူဗျ။ ကိုယ်လုံးကိုယ်ထည်က ဝပြဲပြဲနဲ့ တင်တွေရင်တွေက နွားမတစ်ကောင်နဲ့တယ်ပြီးတူတာပဲ။ မျက်နှာကလည်း အသိဉာဏ်တုံးမယ့် မျက်နှာဗျ။ တစ်ကိုယ်လုံး ခြုံကြည့်လိုက်ရင် နွားမတစ်ကောင်နဲ့ အတူတူပါပဲ။ သူ့မှာ လိုအပ်နေတာတစ်ခုက သူ့လည်ပင်းမှာ နွားခလောက်ကြီးတစ်လုံး ဆွဲပေးဖို့ပဲ။

ကလီမင်တီနာက ကျုပ်ကိုကြည့်ပြီး ပြုံးတယ်။ ပြီးတော့ ယူဂိုနဲ့ ဂရေဇီယာတို့ကို လှမ်းကြည့်တယ်။ "သူတို့နှစ်ယောက်က တစ်ယောက်ကို တစ်ယောက် တော်တော်ချစ်နေကြပုံပဲနော်၊ ရှင်သတိထားမိတယ် မဟုတ်

လား” တဲ့။ သူ့လေသံက ရှင်နဲ့ကျွန်မရော သူတို့လို မနေချင်ဘူးလား လို့ ဆွယ်ပြီးပြောလိုက်သလိုပဲ။ ကျုပ်ကလည်း ဒီလောက်တော့ အထာပေါက် ပါတယ်ဗျာ။ စိတ်မဝင်စားတဲ့လေသံနဲ့ “သြော် ဟုတ်လား၊ ကျုပ်ဖြင့် သတိမထားမိပါဘူးဗျာ” လို့ ပြန်ပြောလိုက်တယ်။

အဲဒီတုန်းမှာပဲ ရထားတစ်စီးလာတယ်။ ယူဂိုဆိုတဲ့ကောင်ဟာ အတော် သွက်တဲ့ကောင်ပဲဗျို့။ လူတွေအများကြီးထဲကနေပြီး ရထားပေါ်ကို သူအရင်ဆုံး တက်သွားနိုင်တာတွေ့လိုက်ရတယ်။ လူတွေကလည်း တိုးကြ ဝှေ့ကြ၊ အော်ကြဟစ်ကြနဲ့ ဆူညံနေတာပဲ။ အဲဒီကြားထဲကနေပြီး ယူဂိုရဲ့ ကြည့်ချင်စရာမကောင်းတဲ့ မျက်ခွက်ဟာ ပြတင်းပေါက်က ထိုးထွက်လာ တယ်။ ပြီးတော့ ကျုပ်တို့ဘက်ကို လှမ်းအော်တယ်။ “ခုံလေးခုံ ရ,ထား ပြီ၊ မပူကြနဲ့။ တက်ချင်တဲ့အချိန်ကျမှ တက်ခဲ့ကြ”တဲ့။

ကျုပ်တို့ ရထားပေါ်ရောက်တော့ အရင်ရောက်နှင့်နေတဲ့ ယူဂိုတို့ စုံတွဲနဲ့ မျက်နှာချင်းဆိုင် ထိုင်ကြရတယ်။ ရထားကလည်း ထွက်ပြီ။ အမှန်အတိုင်း ဝန်ခံရရင်တော့ ခရီးတစ်လျှောက်လုံးမှာ ကျုပ်မျက်လုံးတွေ ဟာ ရှေ့ကစုံတွဲဆီမှာပဲ ရောက်နေတယ်။ အခုဆိုရင် ကျုပ်ဘာမှမတတ် နိုင်တော့ဘူး။ ဂရေဇီရာကို သူမောင်ပိုင်စီးထားလိုက်ပြီ။ တစ်ချီတစ်ချီ မှာ ယူဂိုက ဂရေဇီယာကို တိုးတိုး တိုးတိုးနဲ့ စကားပြောတယ်။ ဂရေ ဇီယာကလည်း ရယ်တယ်။ တစ်ခါတလေမှာတော့ ယူဂိုက လူကြား သူကြား ပြက်လုံးတွေထုတ်တယ်။ ဂရေဇီယာကလည်း ရယ်တယ်။ အမယ်၊ တစ်ခါတလေကျတော့ ဟိုကောင်က ဂရေဇီယာကို အမှတ်တမဲ့ လိုလို ဘာလိုလိုနဲ့ ဖက်ထားသေးသဗျ။

ဂရေဇီယာဆိုတဲ့ ကောင်မကလည်း တော်တော်ကို သောက်ရက်နည်းတဲ့ကောင်မပါဗျာ။ ဟိုကောင်က ဖက်တာကိုခံနေတယ်။ ဟိုအကောင်က ဖက်ထားချိန်မှာ သူက ငါးရှဉ့်မတစ်ကောင်အတိုင်းပဲ လူးလိုက်လွန့်လိုက်နဲ့ အတော် အကြည့်ရခက်စရာကောင်းတဲ့ ကိစ္စပါလားဗျာ။ ကျုပ်သိပ်ပြီး နာကျည်းတာက တခြားမဟုတ်ပါဘူး။ သူတို့နဲ့ မျက်နှာချင်းဆိုင်မှာထိုင်နေတဲ့ ကျုပ်ကိုတောင်မှ အားမနာမထောက်ထားဘဲမျက်နှာပြောင်တိုက်လွန်းတဲ့ လုပ်ရပ်ပါ။

တကယ်လို့ ကျုပ်က လက်တုံ့ပြန်နိုင်မယ်ဆိုရင်လည်း အကောင်းသားပေါ့ဗျာ။ ကျုပ်ဘေးမှာရှိနေတဲ့ ကလီမင်တီနာနဲ့ ဖက်လိုက်ပွေ့လိုက်၊ ပလူးလိုက်မြူးလိုက် လုပ်နေရင် ဖြစ်တာပေါ့။ အဲဒါဆိုရင် ဟိုအကောင်ရဲ့လုပ်ရပ်ကို တုံ့ပြန်တဲ့ တိုက်ကွက်တစ်ခုပဲ။ ဒါပေမယ့်ဗျာ၊ ခက်နေတာက ကလီမင်တီနာဟာ ကျုပ်အတွက် လုံးဝဆွဲဆောင်မှု မရှိဘူးဗျ။ သူကိုယ်တိုင်ကလည်း ကျုပ်ကသူ့ကို ပိုးလားပန်းလားလုပ်တာကို ခံချင်ပုံမပေါ်ဘူး။ သူဟာ ထိုင်ခုံပေါ် ခေါင်းတင်ပြီး အိပ်လိုက်လာတယ်။ ပါးစပ်ကြီးက ဟလို့။ လက်တွေကိုတော့ ရင်ခွင်ပေါ်ချလို့။

ဩစတြေးလျားကိုရောက်တော့ အဝတ်လဲခန်းကိုသွားပြီး အဝတ်အစားတွေ လဲကြ၊ ဖယ်ကြတယ်။ အားလုံးရေကူးဝတ်စုံတွေနဲ့ဖြစ်လာတဲ့အချိန်မှာတော့ ကျုပ်တို့လေးယောက်ရဲ့ ခြားနားမှုတွေဟာ သိသိသာသာကြီးကိုပေါ်လာတယ်။ ဂရေဇီယာဟာ ကိုယ်လုံးကိုယ်ပေါက်တောင့်တောင့်ဖြောင့်ဖြောင့် သေးသေးသွယ်သွယ်နဲ့ အတော့်ကို လှတာပါလား။ ပေါင်တံတွေကလည်း ရှည်ရှည်သွယ်သွယ်၊ ရင်အုံကလည်း အချိုးအစား သိပ်ပြေပြစ်တယ်။



မာတိကာသို့

အင်း…ကလီမင့်တီနာကို ကြည့်လိုက်ရင်တော့ ခေါင်းအုံးကြီးတစ်လုံးကို အလယ်တည့်တည့် ကြိုးတစ်ချောင်းနဲ့ ချည်ထားသလိုပါလား။ ခါးလည်းမရှိ၊ လည်ပင်းလည်း မရှိ။ ယူဂိုနဲ့ ကျုပ်နဲ့ နှိုင်းယှဉ်ကြည့်လိုက်ပြန်တော့လည်း ခြားနားမှုက တယ်ပြီး သိသာမြင်သာတာပဲ။ သူ့ကိုယ်ခန္ဓာက အကြောတွေ ပြိုင်းပြိုင်းထနေတယ်။ နပန်းသမားတစ်ယောက်လို့ ထင်ရလောက်ပါတယ်။ ရင်အုပ်က ကျယ်ကျယ်၊ ခါးနဲ့တင်က သေးသေးဆိုတော့ကြည့်လို့ အဆင်ပြေသပေါ့ဗျာ။ ပေါင်တွေနဲ့ လက်မောင်းတွေကလည်း သန်မာတောင့်တင်းလိုက်တာ အလွန်ပဲ။

အင်း…ကျုပ်ကတော့ အရပ်က ပုပု၊ ခန္ဓာကိုယ်က ပိန်ပါးပါး၊ ခြေဆံလက်ဆံတွေက သေးသေး၊ တစ်ကိုယ်လုံးမှာ အကြောမှ မရှိသလောက်ပဲ။ လက်မောင်းတွေကလည်း ပိန်လှီလှီနဲ့။ ပင့်ကူတစ်ကောင်နဲ့ တစ်ထေရာတည်းပါပဲ။

ယူဂိုကတော့ တကယ့်ဇက်ရဲလက်ရဲပဲ။ ဖျတ်ခနဲ ဂရေဇီယာရဲ့ လက်မောင်းကို ဆွဲပြီး သဲပြင်ပေါ် ဖြတ်ပြေးတယ်။ ရေတိမ်ရောက်တော့ လှိုင်း တွေကြားကို နှစ်ယောက်သား ထိုးဆင်းလိုက်တယ်။ “တော်တော့်ကို အတွဲညီတဲ့ စုံတွဲပဲနော်”လို့ ကလီမင်တီနာက ပြောတယ်။ သူ့လေသံက ကျုပ်စိတ်တိုနာကျည်းလာအောင် ဆွပေးသလိုပဲ။ ယူဂိုနဲ့ ဂရေဇီယာတို့ကတော့ ရေထဲမှာ ဆော့ကစားနေကြတယ်။ သူတို့အချင်းချင်း ရေနဲ့ပက်လိုက်ကြ၊ အော်ဟစ်ပြီးရယ်လိုက်ကြနဲ့ ဆူညံနေတာပဲ။ အဲဒီနောက်တော့ ယူဂိုက ဂရေဇီယာကလည်း ယူဂိုရဲ့ လည်ပင်းကို သိုင်းဖက်ပြီး ရယ်နေတယ်။

ကျုပ်က ကလီမင်တီနာကို ‘ရေကူးချင်သလား’လို့ မေးတော့



မာတိကာသို့ ▶▶

သူက ကူးချင်တယ်တဲ့။ ဒါပေမဲ့ သူရေစပ်နားမှာပဲ ကူးပါရစေတဲ့။ သူ ရေမကူး တတ်လို့ပါတဲ့။ ကဲ...ကောင်းရော။ အဲဒါနဲ့ပဲကျုပ်တို့နှစ်ယောက်ဟာ ရေစပ်က နှစ်ပေအနက်လောက်မှာ ရေကူးနေကြရတယ်။ ရေက ညစ်ပတ် လိုက်တာလည်း အလွန်ပဲ။ အေးလည်းမအေးဘူး။ နွေးနွေးကြီး။ အနားမှာ လည်း ဘောလုံးတွေ ပစ်ကစားနေကြတဲ့ ကလေးတွေကြောင့် ပွက်ပွက် ကို ညံနေတာပဲ။ ကမ်းစပ်က ထိုင်ပြီး ကလေးတွေကို ရေနက်ထဲ မသွား အောင် အော်ပြောနေကြတဲ့ မအေတွေနဲ့ ကလေးထိန်းတွေရဲ့ အသံတွေက လည်း ဆူနေတာပဲ။ အဲဒီအချိန်မှာ ယူဂိုတို့စုံတွဲကတော့ ပင်လယ်ပြင် ပေါ် ရောက်သွားကြပြီ။

သူတို့စုံတွဲကို လှမ်းကြည့်နေတဲ့ ကျုပ်ခေါင်းထဲကို အတွေးတစ်ခု ဖျတ်ခနဲဝင်လာတယ်။ ယူဂိုဆိုတဲ့ကောင်ဟာ ဒီနေ့ပဲ ရေနစ်သေလိမ့်မယ်ဆို တဲ့ အတွေးပဲ။ ကျုပ်အနေနဲ့ အခိုင်အမာကို တွေးမိတဲ့ သဘောရှိတယ်။ လုံးဝ မရှောင်သာမလွှဲသာ ဖြစ်ရမယ့်အဖြစ်တစ်ခုလို့လည်း ထင်တယ်။ ဘာကြောင့်လဲတဲ့။ ရှင်းပါတယ်။ သူက ကျုပ်အပေါ် မတရားလုပ်ထား တယ်မဟုတ်လား။ ဒါဆိုရင် သူသေရမှာပေါ့။ ဒီအတွေးလည်း ဝင်လာရော ကျုပ်စိတ်ဟာ အတော့်ကို ပေါ့ပါးသွားတယ်။

ကျုပ်ဟာ ကလီမင်တီနာဆီကို ရောက်သွားတယ်။ သူကတော့ ရေမကူးတတ်သူတွေအတွက် လုပ်ပေးထားတဲ့ ကြိုးစကို လက်နှစ်ဖက်နဲ့ ဆုပ်ဆွဲပြီး ရေပြင်ကို သူ့ခြေထောက်တွေနဲ့ တဖြုန်းဖြုန်း တဝုန်းဝုန်း ရိုက်ခတ်နေတယ်။ ကျုပ်က စိတ်ထဲမှာ ရှိနေတဲ့အတိုင်းပဲ။ "ယူဂိုဆိုတဲ့ ကောင်ဟာ အလွန့်ကို ကြွားချင်ဝါးချင်တတ်တဲ့ကောင်။ ဒီကောင်ဟာ



မာတိကာသို့ ▶▶

ကြွက်တက်ပြီး ရေနစ်မယ်။ အဲဒီကျရင် သတိလစ်နေတဲ့သူ့ကို လူတွေက သယ်လာပြီး ကမ်းစပ်မှာ ချထားလိမ့်မယ်။ အသက်ရှုပိုက်တွေလည်း တပ်ပေးထားရလိမ့်မယ်"လို့ ပြောချလိုက်တယ်။

ကလီမင်တီနာက ကျုပ်ပြောနေတဲ့ စကားရဲ့အဓိပ္ပာယ်ကို နားမလည်တဲ့ မျက်နှာထားနဲ့ စိုက်ကြည့်နေပြီး "ယူဂိုက ရေကူးသိပ်တော်တာ"လို့ ပြောတယ်။ ကျုပ်ကလည်း ဘာရမလဲ။ ခေါင်းကို တွင်တွင်ခါလိုက်ပြီး "ဟုတ်ပါတယ်။ ဒီအကောင် ရေကူးသိပ်တော်ပါတယ်။ ဒါပေမဲ့ သူ့ရဲ့ တနင်္ဂနွေအပန်းဖြေခရီးဟာ ရေနစ်ပြီး အဆုံးသတ်ရမှာ သေချာတယ်။ ငါပြောတဲ့စကားကို မယုံရင် မင်းစောင့်ကြည့်လို့ ပြန်ပြောလိုက်တယ်။

အချိန်တော်တော်ကြာတော့ ယူဂိုတို့စုံတွဲဟာ ကမ်းခြေကို ပြန်ရောက်လာတယ်။ နှစ်ယောက်သား လက်ချင်းချိတ်ပြီး ကမ်းစပ်မှာ ပြေးလွှားဆော့ကစားနေကြတယ်။ အမယ်၊ တစ်ယောက်ကို တစ်ယောက် ဖမ်းလိုက်ဖက်လိုက်၊ ပွေ့တဲ့အခါ ပွေ့လိုက်နဲ့ အတော့်ကို မြူးနေကြတာပါလား။ တစ်ခါတလေမှာ သဲတွေကို အလုံးတွေလုပ်ပြီး ပစ်ပေါက်ကစားနေကြတယ်။ ကစားရင်းက နှစ်ယောက်သား တစ်ယောက်ပေါ်တစ်ယောက်ထပ်လဲတဲ့အခါ လဲကျသွားကြတယ်။

ကျုပ်ဟာ ကြိုးစကို ကိုင်ပြီး ရေကူးနေတဲ့ ကလီမင်တီနာရဲ့ ဘေးမှာ ရပ်ပြီး ယူဂိုတို့ လုပ်သမျှကို စိုက်ကြည့်နေမိတယ်။ ကျုပ်ရဲ့ မျက်စိထဲမှာ ကြွက်တက်ပြီး ရေနစ်နေတဲ့ ယူဂိုကို မြင်နေတယ်။ ဒီအကောင် ရေနစ်သွားပြီ။ လူတွေက သတိမေ့နေတဲ့ ယူဂိုကို သယ်လာကြတယ်။ အသက်ရှုပိုက်တွေလည်း တပ်ပေးနေကြတယ်။ သွားပြီ။ ဒီအကောင်



မာတိကာသို့ ▶▶

ကြွသွားပြီ၊ ဒီအကောင် သေသလား၊ ရှင်သလား။ သေပြီဆိုတဲ့အထိတော့ ကျုပ်မတွေးချင်ပါဘူးဗျာ။ တကယ်ပြောတာပါ။

ကျုပ်အဲသလို တွေးနေတုန်းမှာပဲ ယူဂို ကျုပ်ဆီရောက်လာပြီး ပင်လယ်ပြင်ကို လှေစီးထွက်ရအောင်လို့ ပြောတယ်။ ကလီမင်တီနာကတော့ ချက်ချင်းပဲ ပြန်ပြောတယ်။ သူရေမကူးတတ်လို့ မလိုက်ချင်ဘူးတဲ့။ ဒါနဲ့ပဲ ကျုပ်တို့ သုံးယောက်လှေတစ်စင်းနဲ့ ထွက်ခဲ့ကြတယ်။ ကျုပ်က တက်မတွေ ကိုင်တယ်။ သူတို့ကတော့ ဘေးချင်းယှဉ်ပြီး ထိုင်လို့။

ပင်လယ်ပြင်က တည်ငြိမ်အေးဆေးနေပေမယ့် ကျုပ်မှာကတော့ ကပြောင်းကပြန် ဖြစ်နေတယ်။ ကျုပ်ဟာ သူတို့ကိုပဲ စူးစူးရဲရဲကြည့်နေမိတယ်။ ကျုပ်ရဲ့ မျက်လုံးအစုံထဲက အဆိပ်ငွေ့တွေ ထွက်လာပြီး သူတို့နှစ်ယောက်ကို ပြာကျသွားအောင် လုပ်လိမ့်မယ်လို့တောင်မှ မျှော်လင့်နေမိတယ်။ သူတို့ကတော့ ကျုပ်ကို သက်ရှိ သတ္တဝါတစ်ကောင်လို့တောင် ထင်ပုံမရဘူးဗျ။ တစ်ယောက်ကိုတစ်ယောက် ပွတ်ဟယ်သပ်ဟယ်နဲ့။ အဖျင်းတွေအပျက်တွေ ပြောပြီး ရယ်လို့ မောလို့။ တဝါးဝါးတဟားဟားနဲ့။

အဲဒီတုန်းမှာပဲ ဟိုအကောင်က ကျုပ်ကို လှမ်းပြောတယ်။ "ကိုယ့်လူက လည်း အတော်ညံ့တာပဲ။ ဘယ်ဘက်လက်နဲ့ဆွဲမှပေါ့။ ဒီလိုသာ လှော်နေရင် ဟိုဘက်က လာနေတဲ့ ဖောင်နဲ့ ဝင်တိုက်မိလိမ့်မယ်"တဲ့။ လေသံက အထက်စီးနဲ့ ကျောတောတောနိုင်လွန်းတော့ ကျုပ် သည်းမခံနိုင်တော့ဘူး။ "ဒီမှာ ယူဂို၊ မင်းဟာ တော်တော်ရိုင်းတဲ့ကောင်ပါလား။ မင်းကို လူယဉ်ကျေးဖြစ်အောင် သင်မယ့် ပြမယ့်လူ မတွေ့ခဲ့ဖူးဘူးထင်တယ်"လို့ ပြန်ပြောလိုက်တယ်။

သူက ကျုပ်ကို လှမ်းကြည့်ပြီး "ဘာကွ"လို့ ပြောတယ်။ "ငါပြော လိုက်တဲ့စကားဟာ မင်းပြောလိုက်တာမှ ဟုတ်ရဲ့လား"တဲ့။ ကျုပ်ကလည်း လေ့ကို အဆက်မပြတ်လှော်နေရာက "ဟုတ်တယ်ကွ။ ငါ့ပါးစပ်က ထွက်တာ အမှန်ပဲ။ မင်းဟာ တောသား လူရိုင်း၊ ယဉ်ကျေးမှုဆိုတာကို လုံးဝ နားမလည်တဲ့ ငတုံး"လို့ ပြန်ပြောလိုက်တယ်။

"ဘယ့်လိုလဲကွ။ မင်းက ဘာဖြစ်နေတာတုံး"လို့ သူက အော်မေး တယ်။ "ဘာမှ မဖြစ်ဘူးဟေ့။ မင်းဟာ ပထမတန်းစားလူယုတ်မာလို့ ပြောနေတာကွ"လို့ ကျုပ်က ပြန်အော်တော့ "မင်းစကားပြောတာ သတိထားပြော။ နာချင်လား"တဲ့။

"ငါ ကောင်းတယ်ထင်တာ ငါပြောတယ်။ ဘာဖြစ်လဲ။ မင်းဟာ လူယုတ်မာ။ မင်းဟာ ခွေးတိရစ္ဆာန်။ မင်းဟာ ငတုံး။ သောက်ပေါ"

"မင်းစကားကို ကြည့်ပြောနော်။ မင်း ငါ့အကြောင်း သိချင်နေသလား။ ဟင်းဟင်း...မင်းတော့ နာတော့မယ်"

ယူဂိုက ပြောပြောဆိုဆို ထိုင်ရာက ထလာပြီး ကျုပ်ရင်ဘတ်ကို လက်သီးနဲ့ တအားပိတ်ထိုးလိုက်တယ်။ ကျုပ်ကလည်း လက်ထဲက တက် တွေကို လွှတ်ပစ်လိုက်ပြီး ထိုင်နေရာက ခုန်ထလိုက်တယ်။ ပြီးတော့ သူ့ဆီပြေးသွားပြီး ပြန်ထိုးမလို့ လုပ်တယ်။ ဒါပေမဲ့ ဒီကောင်က ကျုပ်ထက် မြန်တယ်ဗျ သိလား။ သူက ကျုပ်ရဲ့ လက်ကောက်ဝတ်ကို သူ့လက်နဲ့ ဖမ်းဆွဲပြီး ညှစ်ထားတယ်။ သူ့လက်က သံမဏိလို မာကြောနေ တော့ ကျုပ်လက်ကောက်ဝတ်ဟာ ပြုတ်တူနဲ့ အညှပ်ခံထားရသလို ဖြစ်နေတယ်။

ကျုပ်တို့နှစ်ယောက်ဟာ လှေပေါ်မှာ ခွေးနှစ်ကောင်လုံးသလို လုံးထွေးနေကြတယ်။ ဂရေဇီယာကတော့ ထိုင်နေရာကနေပြီး ကြုံးအော်နေတယ်။ ကျုပ်တို့ နှစ်ယောက်ကတော့ ဘာရမလဲ။ အားရှိသလောက် သတ်ပုတ်နေကြတုန်းပဲ။ ကြာလာတော့ လှေက ဘယ်ခံနိုင်တော့မှာလဲ။ မှောက်သွားတာပေါ့။ ကျုပ်တို့အားလုံး ရေထဲကို နစ်သွားတယ်။

ကျုပ်တို့ဟာ ကမ်းခြေနဲ့ သိပ်မဝေးဘူး။ ကျုပ်အနေနဲ့ စိတ်ထဲက တွေးနေမိတယ်။ မင်းအခုပဲကြွက်တက်တော့မယ်။ ကြွက်တက်ရင် ရေနစ်မယ်။ ပြီးတော့ သေမယ်။ ငါ့ကို စော်ကားမော်ကား လုပ်ခဲ့တဲ့ အလက်စ်ဆန်ဒရိုနဲ့ ဂျီယူလီအိုတို့လို သေမှာပဲ။ မင်း သေကို သေမယ်သိလား"

လှေကတော့ ကျုပ်တို့နဲ့ ဝေးရာကို မျောပါသွားပြီ။ လှေမျောနေတာက မှောက်ခုံကြီးဗျ။ ကျုပ်တို့အားလုံး ကမ်းခြေဆီမှန်းပြီး ရေကူးနေကြတယ်။ "အရူး၊ မင်းဟာ သောက်ရူး"လို့ ယူဂိုက ကျုပ်ဘက်လှည့်ပြီး အော်တယ်။ ဂရေဇီယာကတော့ ဘာမှ မပြောဘဲ ရေကိုသာ တွင်တွင်ကူးနေတယ်။ ကျုပ်ကလည်း ဘာရမလဲ။ "ရူးက မင်းကွ။ မင်းသာ အရူး။ မင်းက ကြောင်သူတော် ကြွက်သူခိုးကွ"လို့ ပြန်အော်တယ်။

ကျုပ် တအားကုန်အော်လိုက်တော့ ပါးစပ်ထဲကို ရေတွေ ဝင်ကုန်တယ်။ ယူဂိုကတော့ ကျုပ်ကို လှည့်မကြည့်တော့ဘူး။ ကမ်းဘက်ကို ကူးသွားနေပြီ။ ကျုပ်ကိုယ်တိုင်လည်းပဲ သူတို့ကို ဂရုစိုက်နေဖို့ အချိန်မရတော့ဘူး။ ကမ်းခြေဘက်ကိုသာ မှန်းပြီး ကူးနေရတယ်။ ဒါပေမဲ့ စိတ်ကတော့ တစ်ချိန်လုံး ဟိုအကောင် ကြွက်တက်ပြီး ရေနစ်သွားတာကိုပဲတွေးနေမိတယ်။ "သွားပြီ။ ဒီအကောင် ကြွက်တက်တော့မယ်။ ပြီးရင်



မာတိကာသို့ ▶▶

ရေနစ်တော့မယ်။ နစ်တော့မယ်”

ရုတ်တရက် ကျုပ်ရဲ့ ညာဘက်ခြေထောက်ဆီက စူးခနဲ နာကျင်သွားတာကို ခံစားလိုက်ရတယ်။ တစ်ဆက်တည်းမှာပဲ ညာဘက်တစ်ခြမ်းလုံး လက်မောင်းအထိ မခံနိုင်အောင် အောင့်လာတယ်။ ကြွက်တက်တာကို ခံနေရတဲ့လူဟာ ယူဂိုမဟုတ်ဘဲကျုပ်ကိုယ်တိုင် ဖြစ်နေပြီဆိုတာကို သိလိုက်တယ်။ ဖြုန်းခနဲ မထင်မှတ်ဘဲ ဖြစ်လာတာဆိုတော့ ကျုပ်ကိုယ်ကျုပ် ထိန်းလို့ မရတော့ဘူး။ နာကျင်တဲ့ ဝေဒနာကလည်း ရပ်မသွားဘဲ ပိုဆိုးလာတော့ ကြောက်တာကလွဲပြီး တခြားဘာကိုမှ မသိတော့ဘူး။

ကျုပ်ဟာ ပါးစပ်ကို အသားကုန်ဖြဲပြီး “ကယ်တော်မူကြပါ”လို့ သံကုန်ဟစ်လိုက်တယ်။ ပါးစပ်ထဲကို ရေတွေ တရဟော ထိုးဝင်လာတယ်။ “ကယ်ကြပါဦး”လို့ ထပ်ပြီး အော်တယ်။ ဝင်လာတဲ့ ရေတွေကို ကယောင်ချောက်ချား ဖြစ်ပြီး မျိုချလိုက်တယ်။ ကြွက်ကတော့ တက်တုန်းပဲ။

ကျုပ်ဟာ ရေအောက်ကို နစ်သွားလိုက် ပြန်ပေါ်လာလိုက်နဲ့ ထိန်းလို့ မရတော့ဘူး။ “ကယ်ကြပါဗျို့”လို့ ထပ်အော်တော့ ပါးစပ်ထဲကို ရေတွေဝင်လာပြန်တယ်။ တစ်ချိန်လုံး အော်လိုက်၊ ရေတွေဝင်လာလိုက်၊ မျိုချလိုက်၊ မွန်းသွားလိုက်နဲ့ ချာချာလည်နေတယ်။ အဲဒီတုန်းမှာ “ငြိမ်ငြိမ်နေ၊ ငါမင်းကို ကမ်းခြေရောက်အောင် ပို့ပေးမယ်”လို့ ပြောလိုက်တဲ့ အသံကို ကြားလိုက်ရတယ်။ အသံက ယူဂို့အသံဗျ။ ကျုပ်သတိမေ့သွားသလိုပဲ ။

ကျုပ်သတိမေ့သွားတာ ဘယ်လောက်ကြာမှန်း မသိဘူး။ သတိပြန်

ရလာချိန်မှာ ကျုပ်ကျောအောက်က သဲပြင်ဟာ ပူနေတယ်။ လူတစ်ယောက်က ကျုပ်ရဲ့ လက်နှစ်ဖက်ကို ကိုင်ပြီး မြှောက်လိုက်ချလိုက် လုပ်ပေးနေတယ်။ တခြားလူတစ်ယောက်ကတော့ ကျုပ်ရင်ဘတ်ကို ဖိဖိပေးနေတယ်။ "ကျုပ်ဖြင့် ဒီငနဲကို ကြွပြီလို့ ထင်တာ"တဲ့။ လူတစ်ယောက်ရဲ့ ပြောသံကို ကြားလိုက်ရတယ်။

ကျုပ်ပါးစပ်ထဲက ရေတွေအန်ထွက်လာတယ်။ ခေါင်းကလည်း ထူလို့ မရအောင် လေးနေတယ်။ ကျုပ်ရင်ထဲမှာ ဒေါသလှိုင်းထလာတယ်။ "ဘယ်သူမှ ငါ့နားမကပ်နဲ့။ သွားကြ"လို့ အော်လိုက်မိတယ်။ အော်လို့လည်း ပြီးရော ကျုပ်ဟာ သတိလစ်သွားပြန်ရော။

ကျုပ်အဖို့ ကံဆိုးမိုးမှောင်ကျခဲ့ရတဲ့ အဲဒီနေ့အကြောင်းကို နောက်ထပ် မပြောချင်တော့ပါဘူး။ ဒါပေမဲ့ နောက်တစ်ပတ်အကြာ ဆိုင်ထဲမှာ အဖြစ်တစ်ခုနဲ့ ကြုံခဲ့ရပြန်တယ်။ ကျုပ်တို့အနားမှာ ယူဂိုမရှိတုန်း ဂရေဇီယာက ကျုပ်အနားကပ်ပြီး နှစ်ကိုယ်ကြားလေသံနဲ့ ပြောတယ်။ "ပြီးခဲ့တဲ့ တနင်္ဂနွေနေ့က ရှင်ရေနစ်ပြီး သေတော့မလိုဖြစ်ခဲ့တာ ဘာကြောင့်လဲ သိလား"တဲ့။

"ဟင့်အင်း၊ မသိဘူး။ ဘာကြောင့်လဲ"

"ယူဂိုက ကျွန်မကို ရှင်းပြတယ်။ သူ့ကိုကာကွယ်စောင့်ရှောက်ပေးနေတဲ့ လျှို့ဝှက်စွမ်းအားတစ်ခု ရှိတယ်တဲ့။ သူ့ကို မလေးမခန့် လုပ်တဲ့ လူမှန်သမျှ ထိခိုက်ကုန်တာချည်းပဲတဲ့။ တချို့ဆိုရင် သေတောင်သေသတဲ့။ သူ့အပြောကတော့ သူဟာ မပြစ်မှားအပ်သူတဲ့။ အဲဒါ ဘာအဓိပ္ပာယ်လဲဟင်။ ကျွန်မတော့ နားမလည်ဘူး"



မာတိကာသို့ ▶▶

ကျုပ်ဟာ တစ်ခဏတော့ဖြင့် ငိုင်ပြီး စဉ်းစားနေမိတယ်။ "အင်း... အဓိပ္ပာယ်က အရာဝတ္ထုတစ်ခု၊ ဒါမှမဟုတ် လူတစ်ယောက်ဟာ တခြားအရာဝတ္ထုတွေနဲ့ လူတွေထက် ပိုပြီး မြင့်မြတ်တဲ့သဘောရှိနေရင် မပြစ်မှားအပ်သူလို့ ပြောကြတာပဲ"လို့ ကျုပ်က ရှင်းပြတယ်။

ဂရေဇီယာက ဘာမှ ပြန်မပြောဘူး။ ဘာကြောင့်လဲဆိုတော့ ယူဂိုက ဝွမ်းလိပ်တစ်လိပ်ယူပြီး ကျုပ်တို့နားရောက်လာလို့ပါ။ သူက ဝွမ်းလိပ်ကို ဖြည်ပြီး ဂရေဇီယာကို လှမ်းပေးတယ်။ "ဒီပစ္စည်းဟာ မင်းအတွက် လိုအပ်မယ့်ပစ္စည်း"လို့လည်း ပြောတယ်။ အင်း၊ ကျုပ်ကတော့ ဂရေဇီယာရဲ့ အကြည့်ကို မြင်တာနဲ့ပဲ သူချစ်နေပြီဆိုတာ နားလည်လိုက်ပါတယ်။ ဒါပေါ့လေ။ ချောရုံသာမကဘူး။ အသက်ကလည်းငယ်၊ လူကလည်း အားကောင်းမောင်းသန် ယောကျ်ားတစ်ယောက်ပေကိုး။



# တစ်လိမ်နှစ်လိမ်

ဆီရာဖီနိုဆိုတဲ့အကောင်နဲ့ ကျုပ်နဲ့ဟာ သူငယ်ချင်းတွေပါ။ ဒါပေမဲ့ သူ့အလုပ်နဲ့ ကျုပ်အလုပ်ကတော့ တောင်နဲ့ မြောက်လို ကွာခြားပါတယ်။ သူက စက်မှုလုပ်ငန်းရှင်ကြီးတစ်ဦးဆီမှာ ကားမောင်းတဲ့ အကောင်ပါ။ ကျုပ်က ကင်မရာမင်းန်ပါ။ တစ်နည်းအားဖြင့် ပြောရရင် ဓာတ်ပုံဆရာ တစ်ယောက်ပေါ့ဗျာ။ ကျုပ်တို့နှစ်ယောက်က အလုပ်အကိုင်ချင်းသာ ကွာတာ မဟုတ်ဘူး။ လူပုံချင်းကလည်း အတော်ကွာတယ်။ သူ့ဆံပင်က လှတယ်ဗျာ။ အတွန့်ကလေးတွေ အလိပ်ကလေးတွေနဲ့ မျက်နှာက လည်း ပန်းနုရောင်၊ မျက်လုံးကျတော့ အပြာရောင်ဗျ။

ကျုပ်ကတော့ အသားက ညိုမည်းမည်း...။ မျက်နှာက ရင့်ချော်

ချော်နဲ့၊ လူကြီးတစ်ယောက်ပုံစံမျိုးပဲ။ မျက်လုံးအရောင်က အနက်ရောင်ဗျ။ အဲဒီကြားထဲမှာ မျက်တွင်းက ချိုင့်နေသေးတယ်။ ဒါပေမဲ့ အဲဒီခြားနားမှုတွေက သိပ်အရေးမကြီးပါဘူး။ အရေးကြီးဆုံး ခြားနားချက်ကတော့ အကျင့်စရိုက်ချင်းမတူတဲ့ ကိစ္စပဲ။

ဆီရာဖီနိုဆိုတဲ့အကောင်က မွေးကတည်းက လူလိမ်လူညာဇာတာပါလာတဲ့အကောင်ပဲ။ ကျုပ်ကတော့ လိမ်တတ်ညာတတ်တဲ့ အကျင့်မရှိဘူး။ ဒီလိုနဲ့ပဲ တနင်္ဂနွေနေ့တစ်နေ့မှာ ဆီရာဖီနိုက ကျုပ်ဆီက အကူအညီလိုနေတယ်လို့ ကျုပ်ကို လာပြောတယ်။ သူ့လေသံကို ကြားရုံနဲ့ ကျုပ်စိတ်ထဲမှာ မသင်္ကာသလို ဖြစ်လာတယ်။ ဘာကြောင့်လဲဆိုတော့ သူလုပ်သမျှကိစ္စတိုင်းဟာ ဒုက္ခဖြစ်တာများတယ်။ ဘာပဲဖြစ်ဖြစ်ပေါ့လေ။ သူနဲ့ချိန်းထားတဲ့အတိုင်း ပီယာဇာကိုလုံးနား လမ်းထဲက စားသောက်ဆိုင်ကို ကျုပ် ရောက်သွားတယ်။

အချိန်တော်တော်လေး ကြာတော့ ဒီကောင်ရောက်လာတယ်။ သူနဲ့အတူ 'လိမ်ဆင်ကြီး' တစ်ခု ပါလာတယ်။ သူစီးလာတဲ့ ကားကြီးက ဈေးအလွန်ကြီးတဲ့ အဖိုးတန်ကားကြီးဗျ။ သူ့အလုပ်ရှင်ပိုင်တဲ့ နောက်ဆုံးပေါ် ကားကြီးပေါ့ဗျာ။ လောလောဆယ် သူ့အလုပ်ရှင်ဟာ ရောမမြို့ပေါ်မှာ မရှိဘူး။ ခရီးဝေးထွက်သွားတယ်။ အဲဒီတော့ အလုပ်ရှင်ရဲ့ကားကို သူ့ ကားပုံစံမျိုးနဲ့ ယူလာတာပေါ့ဗျာ။

သူက အဝေးကြီးကတည်းက ကျုပ်ကို လက်တစ်ဖက်မြှောက်ပြလာတယ်။ လုပ်ထားတဲ့ ဟန်အမူအရာက သေငွေးဂိုက်ပဲ။ ပြီးတော့ ကားကို တစ်နေရာမှာ သွားရပ်တယ်။ သူ ကားပေါ်က ဆင်းပြီး ကျုပ်အနားရောက်

လာလို့ ကြည့်လိုက်တော့။ အံမယ် ဝတ်စားထားလိုက်တာ ကျော့မော့နေတာပဲ။ သူ့လည်ပင်းမှာလည်း ရောင်စုံ ပိုးပဝါတစ်ထည် စည်းထားလိုက်သေးတယ်။ ကျုပ်တို့ စားပွဲမှာ ထိုင်မိတော့ ကျုပ်က သူ့ကို သောက်မြင်ကပ်တဲ့ မျက်နှာထားနဲ့ ကြည့်လိုက်တယ်။ "မင်းက သန်းကြွယ်သဌေးကြီး ကျနေတာပဲ"လို့ကျုပ်က မလိုတမာသံနဲ့ ရေရွတ်လိုက်တယ်။

"ဒီနေ့တော့ ငါဟာ သန်းကြွယ်သူဌေးပဲကွ"လို့ သူက ပြန်ပြောတယ်။ သူဘာအဓိပ္ပာယ်နဲ့ ဒီစကား ပြောတယ်ဆိုတာ ကျုပ် ချက်ချင်းနားမလည်ဘူး။ ကျုပ်က "အခု စီးလာတဲ့ကားက ဘယ်လိုလဲကွ၊ မင်း ဘောလုံးပွဲမှာ လောင်းတာနိုင်လို့ ဝယ်လာတာလား"လို့ မေးတယ်။

"ငါ့သဌေးရဲ့ ကားသစ်ပါကွာ"လို့ သူက ပြောတယ်။ သူဟာ ဘာမှ ဆက်မပြောဘဲ ထိုင်ပြီး စဉ်းစားနေတယ်။ ပြီးတော့ ကျုပ်ကို ကြည့်ပြီး "ဟော့ကောင် မာရီယို၊ ခဏနေရင် အမျိုးသမီးနှစ်ယောက် ရောက်လာလိမ့်မယ်။ တစ်ယောက်ကို မင်းတွဲ၊ တစ်ယောက်ကို ငါက တွဲမယ်။ မျိုးရိုးကောင်းမိသားစုက ပေါက်ဖွားလာတဲ့ မိန်းကလေးတွေကွ။ မီးရထားအင်ဂျင်နီယာတစ်ယောက်ရဲ့ သမီးတွေပေါ့ကွာ၊ မင်းက ရုပ်ရှင်ထုတ်လုပ်တဲ့လူပေါ့ကွာ။ မင်း ငါပြောတာ သဘောပေါက်ပါတယ်နော်" လို့ သူက ပြောတယ်။

"မင်းက ကော ဘာကောင်လဲ"

"ငါ မင်းကို ပြောပြီးပြီလေ၊ ငါက သန်းကြွယ်သဌေးပေါ့ကွာ..."

ကျုပ်ဘာမှ မပြောတော့ဘူး။ ထိုင်နေရာက ထရပ်လိုက်တယ်။

သူက ကျုပ်ကို အလန့်တကြား မော့ကြည့်တယ်။ "ဟော့ကောင်…မင်းက ဘာ လုပ်မလို့လဲ။ သွားတော့မလို လား"လို့ မေးတယ်။

"အေး…ဟုတ်တယ်။ ငါလစ်တော့မယ်"လို့ ကျုပ်က ပြန်ပြောတယ်။ "မင်းသိသားပဲ။ ငါက လိမ်တာ မကြိုက်ဘူးကွ၊ ကဲ…သူငယ်ချင်း၊ မင်း ဘာသာမင်း ပျော်ပျော်ကြီးသာ နေခဲ့တော့"

"ဟာ…နေပါဦး၊ ခဏနေပါဦးကွာ။ မင်းအခုလို လုပ်လိုက်ရင် ငါ့ အစီအစဉ်တွေ ပျက်ကုန်တော့မယ်"

"မပူပါနဲ့ကွာ။ မင်း အစီအစဉ်ကို ငါ မဖျက်ဆီးပါဘူး"

"ဟာ မဟုတ်သေးဘူးကွ။ ခဏနေပါဦးကွာ၊ ကောင်မလေးတွေက မင်းကို တွေ့ချင်နေကြတာ"

"သူတို့က တွေ့ချင်ပေမယ့် ငါက သူတို့ကို မတွေ့ချင်ဘူးကွာ"

အတိုချုပ်လိုက်ရင် ကျုပ်တို့နှစ်ယောက်ဟာ အငြင်းအခုံဖြစ်နေကြတယ်။ သူက ထိုင်လျက်။ ကျုပ်က သူ့ရှေ့မှာ မတ်တပ်ရပ်လို့။ နောက်ဆုံးမှာတော့ သူနဲ့ ကျုပ်နဲ့က သူငယ်ချင်းမဟုတ်လား။ အဲဒီတော့ သူ ချောက်မကျအောင် နေပေးဖို့ ကျုပ်က သဘောတူလိုက်တယ်။ ဒါပေမဲ့ ကျုပ်က "ဒီပွဲမှာ အဆုံးထိအောင် ငါပါချင်မှ ပါမှာနော်။ အဲဒါတော့ မင်းသိထားဖို့ လိုတယ်"လို့ ကြိုတင်ပြီး သတိပေးလိုက်တယ်။ ဒါပေမဲ့ ဒီအကောင်က ကျုပ်စကားကို ကြားပုံ မပေါ်ဘူး။ သူ့မျက်နှာက ဝင်း လက်နေတယ်။ ပြီးတော့ "ဟော့…ဟော့ ဟိုမှာ လာနေပြီကွ"လို့ ပြောတယ်။

ပထမတော့ ကျုပ် ဆံပင်ဘုတ်သိုက်ကြီးတွေကလွဲပြီး ဘာမှ



မာတိကာသို့ ▶▶

မမြင်ရဘူး။ မိန်းမနှစ်ယောက်စလုံးဟာ သူတို့ခေါင်းပေါ်မှာ ဆံပင်တွေ စုတင်လာသလိုပဲ။ အတော်ကြီး ခက်ခက်ခဲခဲနဲ့ ကြည့်တော့မှ သူတို့ မျက်နှာတွေကို မြင်ရတယ်။ မျက်နှာတွေက ပိန်သွယ်သွယ်နဲ့။ ကြည့် ရတာ တစ်မျိုးပဲ။ ခေါင်းပေါ်က ဆံပင်တွေက ဘုတ်သိုက်ကြီးတွေဆိုတော့ သူတို့မျက်နှာတွေဟာ အသိုက်ထဲကနေပြီး အပြင်ကို မျှော်ကြည့်နေတဲ့ ငှက်ပေါက်စ နှစ်ကောင်နဲ့ တူသလိုပဲ။

ဒါပေမဲ့ ကိုယ်လုံးကိုယ်ပေါက်ကျတော့ နှစ်ယောက်စလုံး ခါးသေးလို့ ရင်ချီ ပဒုမ္မနီလို့ ဆိုရမယ့် အမျိုးအစားထဲ ပါသဗျ။ သွားဟန်လာဟန် ကန့်ကလျန့် တင်လှုပ်ဖင်လှုပ်တော့အရှိသား။ ဆင်တူဝတ်စုံနဲ့ဆိုတော့ ရုတ်တရက်ကြည့်လိုက်ရင် အမြွှာညီအစ်မလို့ ထင်ရတယ်။ ဟိုအကောင် ဆီရာဖီနိုက ထိုင်နေရာကနေပြီး တကယ့်လူကြီးလူကောင်း ဂိုက်ဆိုက်နဲ့ ထရပ်လိုက်တယ်။ "ဟော့ဒါက ကိုယ့်သူငယ်ချင်း မာရီယိုပေါ့၊ သူက ရုပ်ရှင်ထုတ်လုပ်ရေးလုပ်ငန်းရှင်လေ။ ဟောဒီနှစ်ယောက်ကတော့ ဆီညော်ရာ အိုင်းရစ္စနဲ့ ဆီညော်ရာ မီမိုဆာ တဲ့။

သူတို့က စားပွဲမှာဝင်ထိုင်ကြတယ်။ ထိုင်လိုက်ပြီဆိုတော့မှပဲ ကျုပ် သူတို့ကို အသေအချာမြင်ရတယ်။ ဟိုအကောင် ဆီရာဖီနိုဟာ အိုင်းရစ္စ ကို တော်တော်အရေးပေးတယ်။ အဲဒါကိုကြည့်ခြင်းအားဖြင့် ဒီအကောင် ဟာ အိုင်းရစ္စကို သူ့အတွက်လို့ သတ်မှတ်ထားပြီဆိုတာ သိသာတယ်။ သူ့ပါးစပ်က ထုတ်မပြောပေမယ့် မီမိုဆာဟာ ကျုပ်အတွက်ဆိုတာ သေချာတယ်။

သူတို့ဟာ အမြွှာညီအစ်မတော့ မဟုတ်ဘူးဗျ။ မီမိုဆာက အသက်

သုံးဆယ်ကျော်လောက်ရှိပြီ။ နှာခေါင်းကရှည်ရှည်၊ ပါးစပ်ကပြဲပြဲနဲ့ သူ့မျက်နှာပုံပန်းက ထမင်းဆာနေတဲ့ပုံမျိုးပဲ။ အရုပ်ဆိုးတယ်လို့ပဲ ပြောနိုင်တဲ့ အနေအထားရှိတယ်။ အိုင်းရစ္စကတော့ အသက်နှစ်ဆယ်လောက်ရှိပြီ။ သူ့ရုပ်ကမဆိုးဘူး။ ကျုပ်သတိထားမိတာတစ်ခုက သူတို့လက်တွေဟာ ခပ်ကြမ်းကြမ်းဗျ။ ဘယ်နည်းနဲ့မှ အထက်တန်းစား အမျိုးသမီးတွေ မဖြစ်နိုင်ဘူး။ ဟိုအကောင်ကတော့ မြူးကြွနေတာပဲ။ စကားတွေကို တဖောင်ဖောင်ပြောပြီး မိုးတစ်လုံးလေတစ်လုံးနဲ့ အကြွားအဝါစကားတွေကို အများကြီးပြောနေတယ်။

မိမိုဆာက "ဗင် မှာကတော့" လို့ စကားစလိုက်တယ်။ အဲဒီတုန်းမှာ အိုင်းရစ္စက ကပျာကယာဝင်ပြောတယ်။ "ကျွန်မတို့ ဗီယာရက်ဂီအိုမှာဆိုရင်…" သူတို့နှစ်ယောက်ဟာ တစ်ယောက်မျက်နှာတစ်ယောက် လှမ်းကြည့်ပြီး ရယ်နေကြတယ်။ ဆီရာဖီနိုက မလုံမလဲမျက်နှာထားနဲ့ "မင်းတို့ ဘာရယ်နေတာလဲ" လို့ မေးတယ်။

"ဘာမှမဟုတ်ပါဘူး" လို့ မိမိုဆာကဖြေတယ်။ "ကျွန်မညီမက တစ်ခါတလေ အူကြောင်ကြောင်နိုင်တယ်။ ကျွန်မတို့ ပထမရောက်စက ဗင်းနစ္စမြို့က ဟိုတယ်တစ်ခုမှာ တည်းတယ်။ ဗီယာရက်ဂီအိုကိုရောက်တော့ အိမ်ကလေးတစ်လုံး ရထားတယ်" တဲ့။

မိမိုဆာဟာ အဲဒီစကားကို ပြောလိုက်တဲ့အချိန်မှာ ကျုပ်တို့ကို မကြည့်ရဲဘူး။ မျက်လွှာတွေကို ချထားတယ်။ ကျုပ်ကတော့ သူလိမ်ပြောနေပြီဆိုတာ ကောင်းကောင်းသိတယ်။ သူ့ကြည့်ရတာ ကျုပ်နဲ့တူပုံရတယ်။ ကျုပ်လည်းပဲ လူတစ်ယောက်ရဲ့မျက်နှာကို စေ့စေ့ကြည့်ပြီး လိမ်မပြောရဲ



မာတိကာသို့ ▶▶

ဘူး။ အဲဒီတုန်းမှာပဲ မိမိုဆာက "ဆီညော်မာရီယို၊ ရှင်က ရုပ်ရှင်ကား ထုတ်လုပ်တဲ့လူလို့ ပြောတယ်။ ကျွန်မတို့ကို ရှင်ကိုယ်တိုင် ရုပ်ရှင် စမ်းရိုက်ကြည့်မယ်လို့ ဆီရာဖီနိုက ပြောတယ် ဟုတ်သလား" လို့မေးတယ်။

ကျုပ်က ဆီရာဖီနိုကို လှမ်းကြည့်တယ်။ ဒါပေမဲ့ ဒီကောင်က မျက်နှာကို ဟိုဘက်လှည့်ထားတယ်ဗျ။ အဲဒီတော့ ကျုပ်က မိမိုဆာဘက် လှည့်ပြီး "ဒီလိုရှိပါတယ် ဆီညော်ရီတာရယ်၊ ရုပ်ရှင်စမ်းရိုက်တယ်ဆို တာက ရုပ်ရှင်ကားတိုလေးတစ်ကား ရိုက်သလိုပဲ။ အခုချက်ချင်း ဖြုန်း ဖြုန်းဒိုင်းဒိုင်း ထရိုက်လို့မရဘူး။ ရုပ်ရှင်စမ်းရိုက်တော့မယ်ဆိုရင် ဒါရိုက်တာ တစ်ယောက်လိုတယ်။ ကင်မရာမင်းန်တစ်ယောက်လိုတယ်။ စတူဒီယို တစ်ခုလိုတယ်။ ဆီရာဖီနိုက, ဒီလုပ်ငန်းရဲ့အကြောင်းကို သိပ်ပြီးသိတာ မဟုတ်ဘူး။ ဒါပေမယ့် ဒီခေတ်မှာကတော့..."

"ဒီလိုဆို အခုမဖြစ်နိုင်ဘူးပေါ့"

"အဲသလိုတော့ မဟုတ်ပါဘူး။ ကျွန်တော်ပြောနိုင်တာက"

"ဒီလိုဆိုလည်း ကျွန်မတို့ကို အစမ်းတော့ရိုက်ပေးပါ။ ရှင်ကသဘော ကောင်းတယ်လို့ ကျွန်မတို့သိထားတယ်"

မိမိုဆာဟာ ပြောပြောဆိုဆို ထိုင်ရာကထပြီး ကျုပ်လက်မောင်းကို လှမ်းကိုင်လိုက်တယ်။ တစ်ကိုယ်လုံးလည်း ထိုးထိုးထွန့်ထွန့်လုပ်ပြီး ကျုပ် အနားကိုကပ်လာတယ်။ ဆီရာဖီနိုက ဘာတွေလိမ်ပြီး ပြောထားမှန်း မသိဘူး။ ကျုပ်ကို ဖွတ်အပူကပ်နေတယ်။ ကျုပ်အနေနဲ့ သူနားလည်အောင် ဘယ်လို ပြောပြရမှန်းလဲ မသိဘူး။ တကယ်တော့ အစမ်းရိုက်တယ်ဆိုတာ

မျိုးက အခုပြော၊ အခုချက်ချင်း ထရိုက်လို့ရတာမျိုးမှ မဟုတ်တာ။ ဘာပဲဖြစ်ဖြစ်ပေါ့လေ၊ ကျုပ်က ထပ်တလဲလဲ ရှင်းပြတော့ သူသဘောပေါက်လာဟန်တူတယ်။ ကျုပ် လက်မောင်းကိုလွှတ်ပြီး ဆီရာဖီနိုနဲ့ စကားပြောနေတဲ့ သူ့ညီမ အိုင်းရစ္စကို လှည့်ကြည့်တယ်။ "ငါနင့်ကို အစကတည်းက ပြောခဲ့သားပဲ။ အခုကျတော့ ငါထင်တဲ့အတိုင်း ဖြစ်နေပြီ။ တို့ဘယ်လိုလုပ်ကြမလဲ၊ အိမ်ပြန်ကြရင် ကောင်းမယ်ထင်တယ်" လို့ပြောတယ်။

အိုင်းရစ္စကလည်း ဒီလိုဖြစ်လာလိမ့်မယ်လို့ ထင်ခဲ့ပုံမပေါ်ဘူး။ အခုလို အခြေအနေမှန်ကို သိလိုက်တော့ စိတ်ရှုပ်သွားပုံပေါ်တယ်။ ဒါပေမယ့်သူက "မထူးတော့ပါဘူး၊ ညနေစောင်းတဲ့အထိ သူတို့နဲ့ အချိန် ဖြုန်းလိုက်တာ ကောင်းပါတယ်" လို့ ပြန်ပြောတယ်။

"ဟုတ်တယ်၊ အဲဒါအကောင်းဆုံးပဲ"လို့ ဆီရာဖီနိုက ဝင်ပြောတယ်။ "တို့ကားနဲ့လျှောက်လည်ကြတာပေါ့"

"ရှင့်မှာ ကားပါသလား"လို့ မီမိုဆာကမေးတယ်။

"ကားပါတယ်လေ၊ ဟိုမှာ မမြင်ဘူးလား"

မီမိုဆာက ကားကိုလှမ်းကြည့်တယ်။ ချက်ချင်းပဲ သူ့လေသံဟာ ပြောင်းသွားတယ်။ "ဒီလိုဆိုရင်လည်း ကားနဲ့လျှောက်သွားရအောင်၊ စားသောက်ဆိုင်ထဲထိုင်နေရတာ ပျင်းစရာကြီး"လို့ပြောတယ်။ လေးယောက်သား ကားဆီကို ရောက်သွားကြတယ်။ အိုင်းရစ္စက ကားရှေ့ခန်းထဲမှာ ဆီရာဖီနိုနဲ့ တွဲထိုင်တယ်။ ကျုပ်နဲ့ တွဲလျှောက်လာနေတဲ့ မီမိုဆာကတော့ ကျုပ်ကိုတစ်ချက်ငဲ့ကြည့်ပြီး "ရှင်စိတ်ဆိုးမယ်တော့ မထင်ပါဘူး။ ကျွန်မ

တို့ကတော့ ကတိပေးထားတာတွေကို မယုံကြည်တော့ဘူး၊ ဖြစ်နိုင်ရင် ကျွန်မတို့ကို စမ်းပြီးရုပ်ရှင်ရိုက်ပေးမယ် မဟုတ်လား” လို့ ထပ်ပြောပြန်တယ်။

ကျုပ်စောစောက အာပေါက်လုမတတ် ရှင်းပြခဲ့တာတွေဟာ အလကားဖြစ်ကုန်ပြီ။ သူလုံးဝနားမလည်ဘူးဆိုတာ ထင်ရှားနေတယ်။ အခုချိန်အထိ ရုပ်ရှင်အစမ်းရိုက်ပေးဖို့ နားပူနေတုန်းပဲ။ ကျုပ်က ဘာမှ ပြန်မပြောဘဲ ကားထဲဝင်ထိုင်လိုက်တယ်။ “ကဲ၊ တို့ဘယ်သွားကြမလဲ”လို့ ဆီရာဖီနိုကမေးတယ်။

မီမိုဆာကတော့ ကျုပ်လက်မောင်းကို နောက်တစ်ခါ ဆုပ်ကိုင်ထားပြန်ပြီ။ ပြီးတော့ ကျုပ်လက်ကို သူ့လက်နှစ်ဖက်နဲ့ကိုင်ပြီး ညှစ်ထားတယ်။ “ရှင်က သဘောကောင်းပါတယ်၊ သူ့ကိုစတူဒီယိုဆီ ပို့ခိုင်းပါလား၊ ဒါဆိုရင် ကျွန်မတို့ကို ရှင်ကိုယ်တိုင် ရုပ်ရှင်စမ်းရိုက်ကြည့်လို့ ရမှာပေါ့” တဲ့။ ကနွဲ့ကလျလေသံနဲ့ ကျုပ်ကို ပြောနေတယ်။

ဘာပြောလို့ ဘာလုပ်ရမှန်းမသိတဲ့ကျုပ်ဟာ ဒေါသဖြစ်ဖြစ်နဲ့ ငြိမ်နေမိတယ်။ သူကတော့ အဲဒါကိုပဲအခွင့်ကောင်းယူပြီး ကျုပ်ကိုပွတ်သီးပွတ်သပ် လုပ်နေရာက “ရှင်ကသာ ကျွန်မကို ရုပ်ရှင်အစမ်းရိုက်ပေးရင် ကျွန်မကလည်းရှင့်ကို အနမ်းလက်ဆောင်ပေးလိုက်မှာပဲ”လို့ တိုးတိုးကလေး ကပ်ပြောတယ်။

ခင်ဗျားတို့လည်း သိကြမှာပါ။ သူ့စကားကြားလိုက်တော့ ရုတ်တရက် ချက်ချင်းပဲ ကျုပ်စိတ်ထဲမှာ ရိုးတိုးရွတ ဖြစ်လာတယ်။ စိတ်ထဲမှာ

အဲသလို ဖြစ်လာတော့ လူကလည်း၊ ထိုးထိုးထွန့်ထွန့် ဖြစ်လာတယ်။ “ဒါဆိုရင် ဆီရာဖိနိုရဲ့အိမ်ကို သွားကြရအောင်။ သူ့အိမ်က အကြီးကြီးပဲ၊ လှလည်းလှတယ်၊ အိမ်ကိုရောက်တဲ့အခါကျတော့ မင်းတို့ကို ရုပ်ရှင်ရိုက်လို့ ဖြစ်မဖြစ် ကိုယ်ကိုယ်တိုင် အသေအချာကြည့်မယ်။ တကယ်လို့ ဖြစ်နိုင်တယ်ဆိုရင် စမ်းရိုက်ကြည့်တာပေါ့”လို့ ကျုပ်က လွှတ်ခနဲ ပြောလိုက်မိတယ်။

ဆီရာဖိနိုက ကျုပ်ကို ဖျတ်ခနဲလှည့်ကြည့်တယ်။ သူ့ကြည့်ရတာ အတော်ကြီး စိတ်ပူနေတဲ့ လက္ခဏာပဲ။ သူ့အနေနဲ့ အလုပ်ရှင်ရဲ့ကားကို သူ့ကားပါလို့ လိမ်ပြောရဲပေမယ့် အိမ်ကိုကျတော့ သူ့အိမ်ပါလို့ပြောပြီး ခေါ်သွားဝံ့တဲ့ပုံ မပေါ်ဘူးဗျ။ “ကားလျှောက်စီးရတာက ပိုကောင်းပါလိမ့်မယ်ကွာ”လို့ သူကပြောပေမယ့် ကောင်မနှစ်ကောင်က အိမ်ကိုပဲ သွားချင်တယ်လို့ နားပူနားဆာ လုပ်နေကြတယ်။

သူတို့က ရုပ်ရှင်အစမ်းရိုက်ကြည့်ဖို့ကလွဲပြီး တခြားဘာကိုမှ စိတ်မဝင်စားတော့ဘူး။ ဒါနဲ့ပဲ သူဟာ လက်မြှောက်အရှုံးပေးပြီး မော်တော်ကားကို မာရီယိုလီရပ်ကွက်ဆီ မောင်းလာခဲ့ရတယ်။ မိမိုဆာကတော့ တစ်လမ်းလုံး ကျုပ်ကို တတွတ်တွတ်နဲ့ တွတ်ထိုးလာတယ်။ ကျုပ်ကလည်း သူ ဘာပြောပြော နားမထောင်ဘူး။ “ရိုက်ပေးနော်၊ စမ်းရိုက်တာကတော့ ဖြစ်မှာပါ၊ အဲသလို စမ်းရိုက်ပေးမယ်ဆိုရင်...” ကျုပ်အနေနဲ့ အဲဒီစကားကလွဲလို့ တခြားဘာကိုမှ နားမဝင်ဘူး၊ ကြားလည်းမကြားဘူး၊ ဂရုလည်းမစိုက်မိဘူး။ ဒါပဲ။

ကျုပ်တို့ မာရီယိုလီရပ်ကွက်ထဲ ရောက်လာတယ်။ လမ်းဘေးဝဲယာ

မှာရှိနေတဲ့ အိမ်ကြီးတွေကဖြင့် တကယ့်အဖိုးတန်အိမ်တွေချည်းပဲ။ နောက်ဆုံးမှာ ဆီရာဖီနီရဲ့ အလုပ်ရှင်အိမ်ထဲကို ရောက်သွားကြတယ်။ ကျုပ်တို့လူစုဟာ တတိယထပ်အထိ တက်သွားကြတယ်။ အခန်းတွေက မှောင်မည်းနေတယ်။ သပ်သပ်ရပ်ရပ်လည်းမရှိဘူး။ "ကိုယ်က ခရီးဝေးသွားနေတာကြာပြီ၊ အိမ်ထဲမှာ ရှုပ်ပွနေတာပဲ"လို့ ဆီရာဖီနီက ပြောလိုက်သေးတယ်။

ဆီရာဖီနီဟာ ပြတင်းပေါက်တွေကို လိုက်ဖွင့်နေတယ်။ ကျုပ်တို့ကတော့ ကတ္တီပါ ဆိုဖာကြီးတွေပေါ် ဝင်ထိုင်ကြတယ်။ တစ်နေရာမှာတော့ ကျကျနန ဖုံးအုပ်ထားတဲ့ စန္ဒရားကြီးတစ်လုံး။ ကျုပ်က အစီအစဉ်ကို လက်တွေ့အကောင်အထည်ဖော်ဖို့ အားထုတ်တယ်။ "ကဲ–ကဲ၊ တို့နှစ်ယောက်က မင်းတို့ရဲ့ အမူအရာတွေကိုကြည့်မယ်။ ပထမဆုံး အခန်းထဲမှာ မင်းတို့နှစ်ယောက် လမ်းလျှောက်ပြကြရမယ်။ ဒါမှလည်း ရုပ်ရှင်စမ်းပြီးရိုက်လို့ ရမရ ငါဆုံးဖြတ်လို့ရမှာ"လို့ ကျုပ်က ပြောလိုက်တယ်။

"ကျွန်မတို့က ခြေထောက်တွေကိုပါ ပြရမှာလား"လို့ မိမိုဆာက ပြန်မေးတယ်။

"မဟုတ်ဘူး၊ မဟုတ်ဘူး။ အဲဒါကိုပြဖို့ မလိုသေးဘူး။ လမ်းလျှောက်ပြရင် လုံလောက်ပြီ"

သူတို့နှစ်ယောက်ဟာ ကျုပ်တို့ရှေ့မှာ ခေါက်တုန့်ခေါက်ပြန် လမ်းလျှောက်ပြနေကြတယ်။ သူတို့လမ်းလျှောက်နေပုံကို ဘယ်သူကမှ ကျက်သရေရှိတယ်လို့ ပြောကြမယ်မထင်ဘူးဗျ။ ခေါင်းပေါ်မှာ ဆံပင်တွေက ဘုတ်သိုက်။ လမ်းလျှောက်တဲ့အခါမှာ သူတို့ရဲ့ တင်၊ ရင်နဲ့ ခါး



မာတိကာသို့ ▶▶

တွေကလည်း မလှဘူး။ အထူးသဖြင့် သူတို့ခြေထောက်တွေက သူတို့ရဲ့ လက်တွေလိုပဲ။ သိပ်ကိုကြီးပြီး အရုပ်သိပ်ဆိုးတာပဲ။ ပြီးတော့လည်း လမ်းလျှောက်တဲ့အခါ ခြေထောက်တွေက 'ခွင်'နေလိုက်သေးတယ်။ ပျော့ပျော့နွဲ့နွဲ့လည်း မဟုတ်ဘူး။ တောင့်တောင့်တင်းတင်းကြီးတွေဆိုတော့ ကြည့်ရတာ အတော့်ကို အကျည်းတန်တာပဲ။

အမှန်အတိုင်းပြောရရင်တော့ သူတို့လို ပုံစံကြီးတွေကို ဘယ် ရုပ်ရှင်ထုတ်လုပ်ရေးသမားကမှ မသုံးမှာသေချာပါတယ်။ သူတို့ကတော့ လမ်းလျှောက်ပြနေတုန်းပဲ။ အခန်းရဲ့အလယ်မှာ သူတို့ချင်းဆုံမိတဲ့အခါ အော်အော်ပြီး ရယ်နေလိုက်သေးတယ်။ ချက်ချင်းပဲကျုပ်က "ရပ်တော့၊ တော်ပြီ၊ ထိုင်ကြ"လို့ လှမ်းပြီးပြောလိုက်တယ်။

နှစ်ယောက်စလုံး ဆိုဖာပေါ် သွားထိုင်ပြီး ကျုပ်မျက်နှာကို စိုးရိမ် မကင်းတဲ့ မျက်နှာထားတွေနဲ့ ကြည့်နေကြတယ်။ "စိတ်တော့မကောင်း ပါဘူး"လို့ ကျုပ်ကပြောတယ်။ "ဒါပေမဲ့ မင်းတို့ပုံတွေက မဖြစ်နိုင်ဘူး"

"ဘာပြုလို့လဲ"

"အေး၊ ဘာပြုလို့လဲဆိုတာကို ငါရှင်းပြမယ်"လို့ ကျုပ်က ပြောတယ်။ "ငါရိုက်မယ့် ရုပ်ရှင်ကားတွေအတွက် မင်းတို့လို ပုံလှလှ၊ ပညာတတ်ထင်ရှား တဲ့ မိန်းကလေးမျိုးတွေ မလိုဘူး။ ငါမှာလိုနေတာက အလုပ်သမလို မိန်းကလေးမျိုးတွေ။ စကားပြောရင် ခပ်ကြမ်းကြမ်း ခပ်ရမ်းရမ်းနဲ့ ရိုင်းရိုင်းစိုင်းစိုင်းစကားလုံးတွေပြောတတ်တဲ့ မိန်းမစားမျိုးတွေကို လိုချင် တာ။ အူတိအူကြောင်နဲ့ အောက်တန်းကျကျ မိန်းမစားမျိုးတွေသာ လိုချင်တာ။ မင်းတို့ကျတော့ မျိုးရိုးကောင်း မိသားစုက ပေါက်ဖွားလာတာ။

မင်းတို့အဖေက အင်ဂျင်နီယာတစ်ယောက် မဟုတ်လား။ အဲဒီတော့ မင်းတို့က ငါရှာနေတဲ့ အမျိုးအစားတွေ မဟုတ်ဘူး"

ကျုပ်က ဆီရာဖီနိုကို လှမ်းကြည့်တယ်။ သူကတော့ ဆိုဖာပေါ်မှာ ပျော့တိပျော့ခွေ ဖြစ်နေတယ်။ စိတ်ပျက်တဲ့ မျက်နှာထားနဲ့ မှိုင်တွေချနေတယ်။ "ကျွန်မတို့လည်း အလုပ်သမတွေလို သရုပ်ဆောင်နိုင်ပါတယ်" လို့ မိမိုဆာက ပြောတယ်။

"မဖြစ်နိုင်ဘူး။ မင်းတို့သရုပ်ဆောင်နိုင်မှာ မဟုတ်ဘူး။ မွေးကတည်းက ဒီလူတန်းစားက မွေးလာတာမဟုတ်တော့ ဖြစ်မှာမဟုတ်ပါဘူး" လို့ ကျုပ်က ပြောလိုက်တယ်။

အားလုံး ငြိမ်ဆိတ်နေကြတယ်။ ကျုပ်အနေနဲ့ ငါးစာကို တပ်ထားလိုက်ပြီ။ ငါးက ဟပ်ဖို့ပဲ လိုတော့တယ်။ ထင်ထားတဲ့အတိုင်းပါပဲ။ ခဏနေတော့ မိမိုဆာဟာ ထိုင်ရာကထပြီး သူ့ညီမနားကို သွားထိုင်တယ်။ သူ့ညီမရဲ့နားနားကိုကပ်ပြီး စကားတီးတိုးပြောတယ်။ သူ့ညီမမျက်နှာက သိပ်ပြီး ကြည်ကြည်လင်လင် မရှိဘူး။ ဒါပေမဲ့ နောက်ဆုံးမှာတော့ သဘောတူတဲ့ လက္ခဏာပြတယ်။ အဲဒီနောက်တော့ မိမိုဆာဟာ ခါးထောက်ပြီး ကျုပ်ရှေ့လာရပ်တယ်။ ပြီးတော့ "ကဲ ဆရာကြီး၊ ရှင့်ကို အခုပြောနေတဲ့ မိန်းမတွေဟာ ဘယ်လိုအစားမျိုးလို့ ရှင်ထင်သလဲ"လို့ မေးတယ်။

ကျုပ်က ရယ်မောပြီး "မီးရထားအင်ဂျင်နီယာတစ်ယောက်ရဲ့ သမီးတွေပေါ့"လို့ ဖြေလိုက်တယ်။

"ရှင်ထင်တာက တကယ့်ဆန့်ကျင်ဘက်ပဲ။ ကျွန်မတို့ဟာ ရှင်လိုချင်

နေတဲ့ မိန်းမစားတွေပါ။ သာမန်အလုပ်သမတွေပါ။ အိုင်းရစ္စက ဝန်ထမ်း၊ ကျွန်မက သူနာပြုဆရာမရှင့်”

“ဒါဆိုရင် ဗီယာရက်ဂီယိုက အိမ်ဆိုတာက ဘယ်လိုလဲ”

“ဒါက လုံးဝမရှိတဲ့ဟာတစ်ခုပါ။ ကျွန်မတို့နေတာက ဩစတီးယားဆင်းရဲသားရပ်ကွက်ထဲက အိမ်စုတ်တစ်လုံးမှာနေတာ”

“ဘာပြုလို့ အခုလို လိမ်ရညာရတာလဲ”

အဲဒီတော့ အိုင်းရစ္စက “ကျွန်မကမလိမ်ချင်ဘူး၊ ဒါပေမယ့် မီမိုဆာက လူတွေရဲ့မျက်လုံးတွေထဲကို သဲနဲ့ပက်မှ ကိုယ်လိုချင်တာဖြစ်မှာလို့ ပြောတာနဲ့”

“ကျွန်မကလည်း လိမ်ညာပြီး မပြောရင် ဆီရာဖီနိုက ကျွန်မတို့ကို ရှင်နဲ့မိတ်ဆက်ပေးမှာ မဟုတ်ဘူးလို့ ထင်တယ်လေ။ ဒါကြောင့် လိမ်ပြောရတာ။ ကဲပါလေ၊ အဲဒါတွေ ခေါက်ထားလိုက်၊ အခုကျွန်မတို့ကို ရုပ်ရှင်စမ်းရိုက်ပေးမှာလား”

“အင်း၊ ဒီကိစ္စ တစ်လိမ်နှစ်လိမ် ပွေလိမ်ရှုပ်ကုန်ပြီ”လို့ ကျုပ်က ရယ်မောပြီး ပြောလိုက်တယ်။ “ကိုယ်ဟာ ရုပ်ရှင်ထုတ်လုပ်တဲ့လူ မဟုတ်ဘူး၊ ဓာတ်ပုံရိုက်စားနေတဲ့ ကင်မရာမင်းတစ်ယောက်။ ဆီရာဖီနိုကလည်း လူကြီးလူကောင်း သေဌေးကြီးယောင်ဆောင်နေတဲ့ ကားမောင်းသမား”

ကျုပ်စကားကြားတော့ မီမိုဆာဟာ တစ်ချက်ကလေးမှ ဣန္ဒြေပျက်မသွားဘူး။ ခပ်တည်တည်ပဲ။ “ကျွန်မက အဲဒီအတိုင်း ဖြစ်လာလိမ့်မယ်လို့ ထင်ထားတာပဲ”လို့ သူကပြောတယ်။ “ကျွန်မတို့ဟာ ကံကိုဆိုးတယ်။

ကားတစ်စီးနဲ့ ယောကျ်ားတစ်ယောက်တော့ တွေ့ပါရဲ့။ ဒါပေမဲ့ သူက ကားဒရိုင်ဘာတစ်ယောက် ဖြစ်နေတယ်။ ဟင်း၊ ဟင်း၊ ကဲလာ အိုင်းရစ္စ၊ တို့သွားကြစို့"

ဆီရာဖီနိုက ဖျတ်ခနဲ လှုပ်ရှားလာတယ်။ "ခဏနေကြပါဦး၊ မင်းတို့က အခု ဘယ်သွားကြမှာလဲ"လို့ မေးတယ်။

"ကျွန်မတို့ကြိုက်တဲ့နေရာကို သွားမှာပါ ကိုလိမ်ကြီးရယ်"

ရုတ်တရက် ကျုပ်စိတ်ထဲမှာ သူတို့ကို သနားစိတ်ဝင်လာတယ်။ အထူးသဖြင့် အိုင်းရစ္စအတွက် စိတ်မကောင်းဖြစ်မိတယ်။ တကယ်တော့ အိုင်းရစ္စဟာ မိန်းမချောလေးဗျ။ အခုဆိုရင်သူ့မျက်လုံးအစုံထဲမှာ မျက်ရည်တွေ ပြည့်လျှံနေတာကို ကျုပ်မြင်နေရတယ်။ ကျုပ်က ကပျာကယာ အကြံတစ်ခုပြုပါတယ်။ "ကိုယ်ပြောတာ နားထောင်ကြပါဦး"လို့ ကျုပ်က ပြောတယ်။ "တို့လေးယောက်စလုံး လိမ်ခဲ့ကြတာပါ။ အဲဒီတော့ ပြီးခဲ့တာတွေကို မေ့ပစ်လိုက်ကြပါ။ တို့ ရုပ်ရှင်သွားကြည့်ကြရင် မကောင်းဘူးလား၊ ဘယ်လိုသဘောရကြသလဲ"

တစ်ယောက်တစ်ခွန်း ဆွေးနွေးကြတယ်။ အိုင်းရစ္စက ကျုပ်အကြံကို လက်ခံချင်တယ်။ မီမိုဆာကတော့ အခုအချိန်ထိ စိတ်ကမပြေသေးတော့ လုံးဝလက်မခံဘူး။ ဂုဏ်သိက္ခာကျသွားပြီဖြစ်တဲ့ ဆီရာဖီနိုကတော့ ဘာတစ်ခွန်းမှ ဝင်မပြောရဲတော့ဘူး။ အဲဒါနဲ့ပဲ ကျုပ်က "ကိုယ်ကတော့ ကင်မရာမင်းပဲ။ ရုပ်ရှင်ထုတ်လုပ်သူမဟုတ်ဘူး။ ဒါပေမယ့် အိုင်းရစ္စကို ကိုယ်နဲ့သိတဲ့ တွဲဖက်ရုပ်ရှင်ဒါရိုက်တာတစ်ယောက်နဲ့ မိတ်ဆက်ပေးမယ်။ အကြီးအကျယ် ထောက်ခံပေးတာမျိုး မလုပ်ပေးနိုင်ပေမယ့် ဘာမှမရတာနဲ့



မာတိကာသို့ ▶▶

စာရင် အများကြီးတော်သေးတယ်လို့ ယူဆရမှာပဲ။ မင်းအတွက်ကတော့ ဘာမှဖြစ်လာမယ်မထင်ဘူး။ အိုင်းရစ္စအတွက်ကတော့ တစ်ခုခုဖြစ်လာနိုင်စရာရှိပါသေးတယ်” လို့ မိမိုဆာကို ချော့ပြောတယ်။

မိမိုဆာ စိတ်ပြေသွားတာနဲ့ပဲ ကျုပ်တို့ ရုပ်ရှင်ရုံထဲ ရောက်သွားကြတယ်။ ရုံထဲမှာလည်း အိုင်းရစ္စက ဆီရာဖီနိုနဲ့ ပွတ်သီးပွတ်သပ်ပဲ။ ဒီအကောင်ဟာ လူလိမ်လူညာ ကားဒရိုင်ဘာတစ်ယောက်မှန်း သိနေပေမယ့် နေတဲ့ပုံစံကတော့ အဲဒီအတိုင်းပဲ။ မိမိုဆာကတော့ သူ့ဘာသာတစ်ယောက်တည်း ငြိမ်ဆိတ်နေတယ်။

အားလပ်ချိန်ပေးတော့ သူက “ကျွန်မက အိုင်းရစ္စကို အမေတစ်ယောက်လို စောင့်ရှောက်ပေးနေရတာ။ သူက ရှင်မြင်တဲ့အတိုင်းပဲ၊ မိန်းမချောလေးတစ်ယောက်ပါ၊ အခုဆိုရင် ရှင်ကတိပေးထားပြီးပြီနော်။ ရှင်ကတိတော့တည်မှဖြစ်မယ်။ တကယ်လို့ ကတိမတည်ရင်တော့ ရှင့်ကို မာရ်နတ်ဆိုးကြီးက ဒဏ်ခတ်မှာ သေချာတယ်”

“

”လို့ ကျုပ်က နောက်ပြောင်ပြီးပြောတယ်။

“ရှင်က ကတိပေးပြီးပြီ။ အဲဒီကတိကို ရှင်တည်ရမှာပဲ”လို့ သူက ပြန်ပြောတယ်။ “အိုင်းရစ္စကို ရုပ်ရှင် အစမ်းအရိုက်ခံရအောင်တော့ ရှင်လုပ်ပေးရမှာပဲ”။ ။



## ကြောက်စရာ့ရောဂ

ကျုပ်အနေနဲ့ ရှူးဖိနပ်အသစ်တစ်ရံကို သိပ်ပြီး ရချင်နေလွန်းလို့လားတော့ မသိဘူး။ အဲဒီနှစ် နွေရာသီတစ်လျှောက်လုံးမှာ အဆောက်အအုံစောင့်တစ်ယောက်ဆီက တစ်ညကို လီယာငွေတစ်ရာနှုန်းနဲ့ ကျုပ်အိပ်ဖို့ ငှားထားတဲ့ အိပ်ရာပေါ်မှာ အိပ်တော့မလို့ လှဲနေတဲ့အခါတိုင်း ရှူးဖိနပ်တွေကိုပဲ စိတ်ကူးနေလေ့ ရှိပါတယ်။ တကယ်တော့ ကျုပ်ဟာ ဖိနပ်မပါဘဲ လမ်းလျှောက်နေရလို့ မဟုတ်ပါဘူး။ ကျုပ်အခု စီးနေတဲ့ ရှူးဖိနပ်ဟာ အမေရိကန်တွေ ပေးသွားတဲ့ဖိနပ်ပါ။ စီးရတာ သိပ်ပေါ့ပြီး သိပ်ကို ကောင်းပါတယ်။ အင်မတန်မှလည်း နူးညံ့ပါတယ်။

ဒါပေမဲ့ အခုအချိန်မှာတော့ ရှူးဖိနပ်တွေက စုတ်ပြတ်နေကြပြီ။ နှစ်ဖက်စလုံးမှာ ခွာတွေ မရှိသလောက် ဖြစ်နေပြီ။ တစ်ဖက်ကဆိုရင်



မာတိကာသို့ ▶▶

ပေါက်နေလို့ အထဲက ခြေချောင်းကလေးတွေဟာ အပြင်ကို ပြူတစ်ပြူတစ် လုပ်နေကြပြီ။ ကျန်တစ်ဖက်ကတော့ သိပ်ပါးပြီး ပြားချပ်နေတဲ့အတွက် ညှပ်ဖိနပ်အစုတ်တစ်ဖက်နဲ့ တူနေပြီ။

ကျုပ်ဟာ ရှာလို့ဖွေလို့ရတဲ့ ပစ္စည်းအတိုအထွာလေးတွေကို မှောင်ခိုဈေးမှာ သွားရောင်းတယ်။ ရတဲ့ ငွေထဲက မငတ်ရုံတစ်မယ် ချွေတာစားပြီး ရှူးဖိနပ်အသစ်တစ်ရံ ဝယ်ဖို့ ငွေစုပါတယ်။ ဒါပေမဲ့ ဖိနပ်တစ်ရံဖိုးရဖို့က မလွယ်ဘူးဗျာ။ အခုချိန်ထိ လီယာငွေထောင်ဂဏန်းလောက်က လိုနေတုန်းပဲ။

အချိန်တွေ သိပ်ပြီးကြာလာတော့လည်း ကျုပ်လိုချင်နေတဲ့ ရှူးဖိနပ်အသစ်ဟာ ကျုပ်စိတ်ထဲမှာ အစွဲအလမ်းကြီးတစ်ခု ဖြစ်လာတယ်။ ကျုပ်ဘယ်ကိုပဲ သွားသွား၊ ကျုပ်စိတ်ထဲမှာ ဖိနပ်က ကျုပ်နဲ့ လိုက်နေတယ်။ ကျုပ်မျက်စိထဲမှာ အစက်အပြောက်ကလေးတွေနဲ့ အနက်ရောင် ရှူးဖိနပ်ကိုပဲ မြင်ယောင်နေတယ်။ အများအားဖြင့် သူက ကျုပ်ရှေ့ကနေပြီး ကြိုးတန်းလန်းနဲ့ တွဲလောင်းကျနေတာ...။

ရှူးဖိနပ်အသစ်တစ်ရံ မစီးနိုင်တော့တဲ့ဘဝမှာ လူ့ပြည်မှာ ဆက်နေလို့ ကောင်းပါတော့မလားလို့တောင် တွေးမိလာတယ်။ တစ်ခါတလေ စိတ်ဓာတ်ကျ သိပ်ကျလွန်းတော့ ရှူးဖိနပ်အသစ်တစ်ရံလောက်မှ မဝယ်နိုင်တော့တဲ့အတူတူ့ကိုယ့်ဘာသာကိုယ် သတ်သေလိုက်တာပဲကောင်းပါတော့တယ်လို့ စဉ်းစားမိတယ်။

ကျုပ်လမ်းပေါ် ရောက်လာပြီဆိုရင် ကျုပ်ဘေးက ဖြတ်သွားဖြတ်လာ လုပ်နေကြတဲ့ လူတွေရဲ့ ခြေထောက်တွေကိုပဲ ကြည့်နေမိတယ်။

တစ်ခါတလေမှာတော့ ဖိနပ်ဆိုင်တွေ ရှေ့မှာ ရပ်ပြီး မှန်ပြတင်း အကာကြီးတွေနောက်မှာ တန်းစီထားတဲ့ ရှူးဖိနပ်တွေကို ငေးကြည့်နေမိတယ်။ ဖိနပ်တွေရဲ့ ဈေးနှုန်း၊ အရွယ်အစားနဲ့ အရောင်အသွေးတွေကို ကြည့်ပြီး ကျုပ်နဲ့ တော်မယ့်၊ လိုက်မယ့် ရှူးဖိနပ်ကို ရွေးနေမိတယ်။

ကျုပ် ညအိပ်တဲ့ မြေအောက်ခန်းထဲမှာ ကျုပ်လိုပဲအများက ဝိုင်းပယ်ခံထားရတဲ့ အကောင်တစ်ကောင်ရှိတယ်။ အနေနည်းနည်းကြာလာတော့ သူနဲ့ ကျုပ် ခင်လာတယ်။ သူ့နာမည်က 'လော်ရပ်ဆို' တဲ့။ ဆံပင်ကလုလု။ ထွန့်တွန့်လိပ်လိပ်၊ ထူထူသန်သန်နဲ့။ ဒါပေမဲ့ ကျုပ်လိုတော့ အရုပ်အမောင်းက မကောင်းဘူး။

သူနဲ့ ခင်လာတာ ကြာလာတော့ ကျုပ်ဟာ ကျုပ်စိတ်ထဲခံစားမှုကို သတိထားမိလာတယ်။ တစ်နည်းမဟုတ် တစ်နည်းနည်းနဲ့ ရထားတဲ့ သူ့ရှူးဖိနပ်ကို ကြည့်ပြီး သူ့အပေါ် မနာလိုဝန်တိုဖြစ်လာတယ်။ သူ့ဖိနပ်က အတော်ကောင်းတယ်ဗျ။ သားရေကလည်း အထူစား၊ ချာနစ်ထပ်ခံပြီး ချုပ်ထားတာ။ မဟာမိတ်စစ်တပ်တွေက အရာရှိတွေသာ စီးတဲ့ ရှူးဖိနပ်မျိုးဆိုတော့ တကယ့် အကောင်းစားပေါ့ဗျာ။

အမှန်တော့ ရှူးဖိနပ်က လော်ရာဆိုနဲ့ မတော်ဘူး။ ဖိနပ်တွေက ကြီးနေတယ်။ မနက်တိုင်း သူအိပ်ရာက နိုးလို့ ဖိနပ်တွေကို စီးတဲ့အခါမှာ သတင်းစာအဟောင်းတွေကို ခေါက်ပြီး ဖိနပ်ထဲ ထိုးထည့်ပေးရတယ်။ ဒါပေမဲ့ ဖိနပ်တွေက ကျုပ်နဲ့တော့ တော်တယ်ဗျ။ လက်အိတ်တစ်စုံ စွပ်သလို ဖြစ်နေလိမ့်မယ်လို့ ကျုပ်ထင်တယ်။ ဘာကြောင့်လဲဆိုတော့ ကျုပ်က သူ့ထက် အရပ်ရှည်တယ်မဟုတ်လား။

လောလောဆယ် ကျုပ်သိထားတာကတော့ လော်ရာဆိုမှာလည်း ပစ္စည်းတစ်ခု သိပ်လိုချင်နေတယ်။ တခြားတော့မဟုတ်ဘူး။ သိုးကျောင်းသား ဆေးတံတစ်ချောင်း သိပ်ပြီး ဝယ်ချင်နေတယ်။ သူရောမမြို့ကို မလာခင် တုန်းက ဒီအကောင်ဟာ တောင်တန်းတွေပေါ်မှာ သိုးကျောင်းသမားတွေ နဲ့ နေခဲ့ဖူးတယ်လို့ ကျုပ်ကို ပြောဖူးတယ်။

သူက ပြောတယ်။ သူ့ဆံပင်က လှလှနဲ့ မျက်လုံးက ပြာပြာဆိုတော့ ဂျက်ကက်အင်္ကျီနဲ့ မဟာမိတ်စစ်သားတွေ ဝတ်တဲ့ စစ်ဘောင်းဘီကို ဝတ် ထားလိုက်မယ်ဆိုရင် သိပ်ပြီး ကြည့်ကောင်းမှာပဲတဲ့။ ပြီးတော့ ဆေးတံကို ခဲပြီး စားသောက်ဆိုင်တွေမှာ သိုးကျောင်းသား သီချင်းတွေဆိုမယ်တီးမယ် ဆိုရင် ငွေအများကြီး ရနိုင်တယ်တဲ့။

ဒါပေမဲ့ ခက်နေတာက တခြား မဟုတ်ဘူး။ ဆေးတံဝယ်ဖို့ ငွေမရှိတဲ့ ပြဿနာပဲ။ ဆေးတံဈေးကလည်း အကြီးသားကလားဗျ။ ဆေးတံ တစ်ချောင်းရဲ့ ဈေးက ရှူးဖိနပ်တစ်ရံဖိုးလောက် ရှိနေတာဗျ။ ကျုပ် စိတ်အထင် ပြောရရင် ရှူးဖိနပ်တစ်ရံထက်တောင် ဈေးပိုပေးရလိမ့်မယ် ထင်တယ်။ အဲဒီတော့ လော်ရာဆိုဟာလည်း ကျုပ်လိုပဲပေါ့။ သူ့နည်း သူ့ဟန်နဲ့ ရှာလို့ ဖွေလို့ ရလာတဲ့ ပစ္စည်းအတိုအထွာတွေကို ရောင်းပြီး ဆေးတံ တစ်ချောင်းဝယ်ဖို့ ကြိုးစားနေတယ်။

ဒါပေမဲ့ဗျာ။ ဒီကောင်လည်း ကျုပ်လိုပါပဲ။ ဆေးတံတစ်ချောင်းဖိုး က မရဘဲ ဖြစ်နေတယ်။ အဲဒီတော့ သူလည်းပဲကျုပ်လိုပဲပေါ့။ အချိန်ရှိ သမျှ ဆေးတံအကြောင်းပဲတွေးနေတာပဲ။ ဒီလိုနဲ့ပဲ တစ်ရက်မှာတော့ စကားများများ မပြောရဘဲနဲ့ ကျုပ်တို့နှစ်ယောက် အပေးအယူတစ်ခု

လုပ်ဖို့ သဘောတူခဲ့ကြတယ်။ ပထမကျုပ်က သူ့ကို ရှူးဖိနပ်အကြောင်း ပြောတယ်။ သူက ကျုပ်ကို ဆေးတံအကြောင်း ပြန်ပြောတယ်။ ဒါပေမဲ့ ဝယ်ချင်တယ်လို့ ပြောရုံလောက်ပဲပြောမိကြတာပါ။ နှစ်ယောက်စလုံး ဆေးတံပယ်တော့မယ်၊ ရှူးဖိနပ်ဝယ်တော့မယ်လို့တော့ မပြောမိကြပါဘူး။

နောက်ဆုံးမှာတော့ နှစ်ဦးသဘောတူဆုံးဖြတ်ချက်တစ်ခု ချလိုက်တယ်။ ဒီကိစ္စမှာ လုပ်နည်းကိုင်နည်းကို စဉ်းစားမိတဲ့လူက ကျုပ်ပါ။ ကျုပ်က ပြောပြလိုက်တော့ လော်ရာဆိုက ချက်ချင်း သဘောတူတယ်ဗျ။ လုပ်ရမယ့်နည်းက ဒီလို...။ ကျုပ်တို့နှစ်ယောက်အနေနဲ့ သမီးရည်းစားစုံတွဲတွေ ချိန်းတွေ့လေ့ရှိတဲ့ ချောင်ကောင်းကောင်းနေရာကို သွားကြမယ်။ ဥပမာ...ဘော်ဟီးစ်ပန်းခြံလို နေရာမျိုးပေါ့ဗျ။ အဲဒီနေရာကို ရောက်ရင် ပွေ့ဖက်နမ်းရှုံ့နေကြတဲ့အတွဲ တစ်တွဲကို ဝင်လုကြမယ်။

အဲဒီကိစ္စကို ဆွေးနွေးကြတဲ့အခါမှာ လော်ရာဆိုဟာ အတော်သွေးဆာနေတဲ့ လူငယ်တစ်ယောက်လို့ ကျုပ်သိလာရတယ်။ အမှန်အတိုင်းပြောရရင် ကျုပ်တော်တော်အံ့အားသင့်သွားတယ်။ သူ့ပုံပန်းက ဘာမှ မသိနားမလည်တဲ့ သိုးကျောင်းသားတစ်ယောက်နဲ့ တူတယ်မဟုတ်လား။ ဒီလိုလူမျိုးဆီက ခပ်ကြမ်းကြမ်းခပ်ရမ်းရမ်း စကားတွေကြားတော့ ကျုပ် အံ့သြမိတာပေါ့။

သူက ဒီအလုပ်ကို လုပ်ဖို့ အတော်ကြီးစိတ်အားထက်သန်နေပုံပေါ်တယ်။ ဝင်လုကြတဲ့အခါမှာ လိုအပ်လာရင် မိန်းမကိုရော ယောကျ်ားကိုပါ သတ်ပစ်မယ်လို့ သူက ကြိမ်းလားမောင်းလား လုပ်နေတယ်။ အံမယ်...သူက ဒီအကြောင်းကို ပြောရင်းပြောရင်းနဲ့ သူ့လက်ထဲက



မာတိကာသို့ ▶▶

စပန်နာကြီးနဲ့ ကျုပ်ခေါင်းကို ရိုက်တော့မလို လုပ်ပြတယ်။ ပြီးတော့ “ဒီအကောင်ကို ကျုပ်က ဟောဒီလို…ဟောဒီလို ဆော်မှာ၊ အဲဒီအတိုင်း သာ တွယ်လိုက်လို့ကတော့ နှစ်ကောင်စလုံး ကြွသွားမှာ သေချာပါတယ်ဗျာ” လို့ ပြောတယ်။

ကျုပ်မှာက ကျုပ်ကိုယ်ကျုပ် မထိန်းနိုင်တဲ့ စိတ်ရှိတယ်ဗျ။ ကျုပ်ရွာမှာ နေတုန်းက နေ့ရောညပါ ဖုံးကျင်းထဲမှာ လှဲနေခဲ့ရဖူးတယ်။ အပြင်ဘက် မှာကလည်း လေယာဉ်ပျံက တဝီဝီနဲ့ ဖုံးကြဲသံတွေကလည်း တဝေါဝေါ နဲ့။ အဲဒီတုန်းကတည်းက ကျုပ်ဟာ ကျုပ်မကြိုက်တဲ့ဟာ တစ်ခုခုနဲ့ တွေ့ရရင် ဒေါသကြီးလာတတ်တယ်။ အခုလည်းပဲ လော်ရာဆိုက ကျုပ် ခေါင်းကို စပန်နာကြီးနဲ့ ရွယ်တော့ ထောင်းခနဲ ဒေါသဖြစ်ပြီး သူ့ကို တအား ဆောင့်တွန်းပစ်လိုက်မိတယ်။ ဒီအကောင်ဟာ ခြေကားရား လက်ကားရားနဲ့ လဲကျသွားတယ်။ ကျုပ်က “မင်း ငါ့ကို ဒါမျိုး မလုပ်နဲ့၊ နောက်တစ်ခါ လုပ်ရင် ငါ မင်းကို အသတ်ပဲ”လို့ ပြောလိုက်မိတယ်။

အဲဒီနောက်တော့ ချက်ချင်းပဲ ကျုပ်အမှားကို ကျုပ် ပြန်သတိရလာ တယ်။ “မင်းဟာ တော်တော့်ကို တုံးတဲ့ အကောင်ပဲ။ ဘာကိုမှ မသိ နားမလည်တဲ့ အကောင်တစ်ကောင်ပါလား။ မင်းထူပုံ အ,ပုံ က နွားသိုး တစ်ကောင်နဲ့ ဘာထူးလို့လဲ။ မင်းနားလည်ထားရမှာက အပြင်ချောင် ကောင်းကောင်းမှာ ချိန်းတွေ့ကြတဲ့ ကောင်တွေနဲ့ ကောင်မတွေဟာ လူသိမှာ ကြောက်လို့ကွ။ လူသိမှာသာ မကြောက်ရင် အိမ်တစ်အိမ်မှာပဲ ချိန်းတွေ့ကြမှာပေါ့။ အဲဒီတော့ မင်း သူတို့ဆီက ငွေဝင်လုရင် သူတို့ ဘယ်သူ့ကိုမှ မတိုင်ရဲဘူး။ တိုင်လိုက်ရင် သူတို့ ယောကျာ်းတွေ ဒါမှ

မဟုတ် သူတို့ မိဘတွေ သိကုန်ပြီး သောက်ပြဿနာတွေ ပေါ်လာမှာပေါ့။ တကယ်လို့ မင်းသူတို့ကို သွားသတ်ရင် သတင်းစာတွေထဲမှာ ဟိုးလေး တကြော်ရေးကြတော့မယ်။ လူတိုင်းက သိသွားကြမယ်။ နောက်ဆုံး ရဲက မင်းကို 'ကုတ်'မှာပေါ့။

အဲဒီတော့ တို့လုပ်ရမှာက အရပ်ဝတ် ဝတ်ထားတဲ့ ရဲယောင်ဆောင်ပြီး သူတို့ကို ချောင်းဖမ်းရမယ်။ ပြီးတော့ "လက်မြှောက်။ မင်းတို့လူအများ သွားလာနေတဲ့ နေရာမှာ တစ်ယောက်နဲ့တစ်ယောက် ဖက်နမ်းနေကြတယ်။ ဥပဒေက ခွင့်မပြုဘူးဆိုတာ မင်းတို့ မသိဘူးလား...မင်းတို့အလုပ်က ဥပဒေကို ချိုးဖောက်နေတာကွ"လို့ ပြောမယ်။ ပြီးရင် သူတို့ပေးတဲ့ ငွေကို အသာယူပြီး လစ်လာရုံပဲ "လို့ ကျုပ်က ရှင်းပြလိုက်တယ်။

လော်ရာဆိုဟာ ပါးစပ်ကြီးဟပြီး ကျုပ်ကို ငေးကြည့်နေတယ်။ မျက်လုံးကြီးတွေကလည်း ပြူးနေလိုက်တာ အပြင်ကို ထွက်ကျလာမလားလို့တောင် ထင်ရတယ်။ နောက်ဆုံးမှာတော့ သူက "ခင်ဗျားပြောတာက ဟုတ်တော့ဟုတ်ပါရဲ့။ ဒါပေမဲ့ လူသေကောင်ဟာ အတင်းအဖျင်း မပြောတတ်ဘူးဆိုတဲ့စကားရှိတယ်မဟုတ်လား။ အဲဒီတော့..."

သူ့စကားမဆုံးခင် ကျုပ်က "မတုံးစမ်းပါနဲ့ကွာ၊ မင်း ငါပြောတဲ့အတိုင်းသာ လုပ်၊ မင်းပါးစပ်ကို ပိတ်ထား" ငေါက်လိုက်တော့ သူဟာ ပါးစပ်ပိတ်ပြီး ငြိမ်နေတယ်။ ကျုပ်တို့နှစ်ယောက်ဟာ အစီအစဉ်အတိုင်း လုပ်ဖို့ သဘောတူလိုက်ကြတယ်။

ချိန်းထားတဲ့နေ့ကျတော့ ညနေပိုင်းမှာ ကျုပ်တို့နှစ်ယောက်ဟာ ဘော်ဟီးစ်ပန်းခြံဆီကို သွားကြတယ်။ လော်ရာဆိုက သူ့စပန်နာကို



မာတိကာသို့

ဂျက်ကက်အင်္ကျီအတွင်း အိတ်ကပ်ထဲမှာ ထည့်လာတယ်။ ကျုပ် အိတ်ကပ်ထဲမှာတော့ ဂျာမန်လုပ် ပစ္စတိုတစ်လက် ပါလာတယ်။ သူများကရောင်းပေးဖို့ အပ်ထားတဲ့ ပစ္စတိုပါ။ အခုအချိန်အထိ ဝယ်မယ့်လူပေါ်မလာလို့ ကျုပ်လက်ထဲမှာ သောင်တင်နေတယ်။ ပစ္စတိုကို ယူလာတာက လိုအပ်လာရင်သုံးဖို့ပေါ့။

ကျုပ်တို့နှစ်ယောက်ဟာ ပန်းခြံဘေးက လမ်းသွယ်အတိုင်း လျှောက်လာခဲ့ကြတယ်။ ပန်းခြံထဲက ခုံတွေပေါ်မှာတော့ နေရာယူထားတဲ့ လူတွေဟာအများကြီးပဲ။ ပန်းခြံထဲက မီးတိုင်တွေအောက်မှာ လမ်းသလားနေတဲ့လူတွေလည်း ရှိတယ်။ ကျုပ်တို့ဟာ ပန်းခြံထဲမှာ အမှောင်ဆုံးနဲ့ ချောင်အကျဆုံးနေရာတစ်နေရာကို လိုက်ရှာကြတယ်။ သမီးရည်းစားဆိုတာကလည်းအဲသလို နေရာမျိုးဟာ သူတို့အတွက် အကောင်းဆုံးနေရာမို့ သိပ်ကြိုက်ကြတယ်မဟုတ်လား။

နောက်ဆုံးမှာ ကျုပ်တို့ဟာ ကျုပ်တို့နဲ့ အသင့်တော်ဆုံးနေရာကိုတွေ့ တယ်။ အဲဒီနေရာမှာကတော့ တကယ့်ကို မှောင်တာပဲဗျို့။ သစ်ပင်တွေကလည်း အုံ့အုံ့ဆိုင်းဆိုင်းနဲ့ အများကြီးပဲ။ မီးတိုင်တွေဘက်က အလင်းရောင်တွေကလည်း ဒီဘက်ကို ရောက်မလာဘူး။ ခုံတွေပေါ်မှာထိုင်နေကြတဲ့ အတွဲတွေကလည်း မရေမတွက်နိုင်လောက်အောင်ကို များပါတယ်ဗျာ။ တချို့ထိုင်ခုံတွေများဆိုရင် စုံတွဲနှစ်တွဲစီ ထိုင်နေကြတာတွေ့ရတယ်။ သူတို့လုပ်နေကြတဲ့အလုပ်တွေကတော့ ထုံးစံအတိုင်းပေါ့ဗျာ။ ပွေ့ကြဖက်ကြနမ်းကြရှုံ့ကြပေါ့။ အချင်းချင်း ရှက်ရကြောက်ရမှန်းလုံးဝကို မသိကြဘူး။ ရည်ရွယ်ချက်တွေက တူနေတော့လည်း ဒီလိုပဲ

ဖြစ်ရပေမပေါ့။

ဟိုအကောင် လော်ရာဆိုကတော့ သူဘာလုပ်ဖို့ ဒီနေရာကို လာခဲ့သလဲ ဆိုတာကိုတောင် သတိရပုံမပေါ်တော့ဘူး။ လူသတ်မယ်ဆိုတဲ့ သူ့စကား သူလည်း မေ့သွားတဲ့ လက္ခဏာပဲ။ စုံတွဲတွေကို ပြုံးပြုံးပြပြလိုက်ကြည့် ရင်း စိတ်ပြောင်းသွားပုံရတယ်။ သက်ပြင်းကိုလည်း မကြာခဏချတယ်။ သူ့မျက်လုံးတွေက နမ်းရှုံ့နေတဲ့ စုံတွဲတွေကို ကြည့်ပြီး မီးဝင်းဝင်းတောက် နေပေမယ့် မျက်နှာထားကတော့ မနာလိုဝန်တို ဖြစ်နေသလိုပဲ။

ပြီးတော့ တံတွေးကို ဂလုခနဲ မျိုချလိုက်ပြီး ကျုပ်ကို လှမ်းပြော တယ်။ "ကျွန်တော်လည်း လူငယ်တစ်ယောက်ပါဗျာ။ အခု ဖက်နမ်းနေ ကြတဲ့ အတွဲတွေကို မြင်တော့ ကျွန်တော် ပြောင်ပြောင်ပဲပြောလိုက်မယ်။ ကျွန်တော့်အနေနဲ့ ရောမမြို့ပေါ်မှာ မဟုတ်ဘဲ တောပိုင်းမှာသာဆိုရင်လား ဟားဟား အလွယ်ကလေးရယ်။ ဘေးမှာရှိတဲ့ကောင်ကို တစ်ချက်လောက် ဟောက်လိုက်ရင် တစ်ခါတည်း ထွက်ပြေးမှာ သေချာတယ်။ အဲ...အဲဒီ ကောင် မရှိတော့ဘူးဆိုရင် ချောင်ချောင်ကလေး၊ ဟဲ...အလှရေ...အချစ် ရေ၊ လာပါကွယ်၊ ဟိုတောစပ်သွားကြရအောင်၊ ငါမင်းကို ကိုက်မစားပါဘူး လို့ ပြောလိုက်ရင် အားလုံးအဆင်ပြေသွားပြီ"တဲ့။

သူဟာ ကျုပ်အနားက ထွက်သွားပြီး အတော်လှမ်းလှမ်းက အကြမ်း ဆုံး စုံတွဲတွေဆီကို သွားကြည့်နေတယ်။ သူ့လျှာကို ထုတ်ထုတ်ပြီး နှုတ်ခမ်းတွေကို လျက်နေတယ်။ ကျုပ်မျက်စိထဲမှာတော့ သူလျှာထုတ်ပြီး လျက်နေတဲ့ပုံက နွားသိုးတစ်ကောင်နဲ့ တူနေတယ်။

သူက ကျုပ်ကို ခေါင်းညိတ်ခေါ်တယ်။ စုံတွဲတွေကို လာကြည့်ပါ



မာတိကာသို့ ▶▶

လားလို့ ခေါ်နေတာဗျ။ "ဟော့ကောင်၊ သောက်ရူး...မင်း ဆေးတံကို လိုချင်သလား၊ မလိုချင်ဘူးလား ပြောစမ်း"လို့ ကျုပ်က အံကြိတ်ပြီး ခပ်ဝေါက်ဝေါက် ပြန်ပြောတော့ သူက "အခုအချိန်မှာတော့ ကျွန်တော် ဆေးတံမလိုချင်ဘူးဗျ။ ကောင်မလေးတစ်ယောက်ပဲရချင်တယ်။ ဥပမာ... ဟောဟိုကောင်မလေးလိုဟာမျိုးပေါ့"လို့ ပြောတယ်။

"အေးလေ...မင်းက အဲသလို ဖြစ်နေပြီဆိုရင်တော့ စပန်နာယူလာဖို့ မသင့်ဘူး။ ကဲ...လာ၊ ငါ့နောက်က လိုက်ခဲ့တော့"လို့ ကျုပ်က ပြောတယ်။ "ကျွန်တော်လည်း ခင်ဗျားပြောသလိုပဲထင်တယ်၊ ဒီအလုပ်ကို မလုပ်ရင်တောင် ကောင်းမယ်ထင်တယ်"လို့ သူက ပြန်ပြောတယ်။ သူ့အနေနဲ့က မိနစ်တိုင်း စိတ်ပြောင်းနေပြီဆိုတော့လည်း အဲသလိုပဲပြောတော့မှာပေါ့...ဗျာ။

ကျုပ်တို့ဟာ ချောင်အကျဆုံးဖြစ်တဲ့ ပင်စီယိုပန်းခြံဘက်ကို လျှောက်လာခဲ့ကြတယ်။ ဘော်ဟီးစ်ပန်းခြံရပ်ကွက်ထဲမှာတော့ ပင်စီယိုဟာလည်း အမှောင်ဆုံးနဲ့ ချောင်အကျဆုံးနေရာလို့ နာမည်ကြီးတဲ့နေရာတစ်နေရာပဲ မဟုတ်လား။ ဒီနားတစ်ဝိုက်ကျတော့လည်း လော်ရပ်ဆိုဟာ အပွေ့အဖက်တွေနဲ့ အနမ်းတွေဘာတွေကို မြင်နေတုန်းပဲ။ သူ့မျက်နှာထားကို မြင်ရုံနဲ့ သူဘာလုပ်ချင်နေတယ်ဆိုတာ ကျုပ်ရိပ်မိပါတယ်။

ကျုပ်ကတော့ လူတစ်မျိုးဗျ။ လွယ်လွယ်နဲ့ စိတ်ပြောင်းတတ်တဲ့ ကောင်မဟုတ်ဘူး။ ကျုပ် ဒီဟာတစ်ခုကို လိုချင်ရင် အဲဒီဟာပဲ။ အဲဒီဟာက လွဲပြီး တခြားဘာကိုမှ ပြောင်းယူရတဲ့ ကောင်စားမဟုတ်ဘူး။ အခုဆိုရင် ကျုပ်လိုချင်တာ ရှူးဖိနပ်တစ်ရံပဲ။ ဒီည ရှူးဖိနပ်တစ်ရံရဖို့က လွဲပြီး တခြား ဘာအာရုံမှမရှိဘူး။ ဟိုသင်းဒီသင်းတွေကို မြင်နေတွေ့နေ

ရလို့လည်း ကျုပ်စိတ်က ပြောင်းမသွားဘူး။

ကျုပ်တို့ဟာ ပင်စီယိုနားက ချောင်ကြိုချောင်ကြား လမ်းသွယ်တွေထဲမှာ လျှောက်သွားနေကြတယ်။ သစ်ပင်တွေ အောက်မှာ ရှိနေတဲ့ ထိုင်ခုံတွေကို တစ်ခုံပြီးတစ်ခုံ လျှောက်ကြည့်နေကြတယ်။ ကျုပ်တို့လုပ်မယ့် အလုပ်အတွက် သင့်တော်တဲ့ နေရာက ရှာလို့ကို မရဘူး။ တစ်နေရာရောက်ပြန်ရင်လည်း အနီးအနားမှာ ရှိနေတတ်တဲ့ တခြားစုံတွဲတွေက မြင်သွားမှာ ကြောက်နေရတယ်မဟုတ်လား။ အဲဒါနဲ့ပဲ ကျုပ်တို့ဟာ အဲဒီအနားတစ်ဝိုက်မှာ ချာလပတ်လည်နေကြတယ်။

လော်ရာဆိုကတော့ စောစောကလိုပဲ။ လုပ်ဖို့ စီစဉ်ထားတဲ့ အလုပ်အပေါ်မှာ စိတ်မဝင်စားတော့ပြန်ဘူး။ ဒါပေမဲ့ အခုအချိန်မှာ သူစဉ်းစားနေတာဟာ စောစောကလို အပွေ့အဖက် အနမ်းအရှုံ့ကိစ္စ မဟုတ်တော့ပြန်ဘူး။ ဘာကြောင့်ရယ်လို့တော့ ကျုပ်လည်း မပြောတတ်ဘူး။ သူ့အာရုံဟာ ပန်းခြံထဲက နေရာတိုင်းလိုလိုမှာ တွေ့မြင်နေရတဲ့ ကိုယ်တစ်ပိုင်း ကျောက်ဆစ်ရုပ်တုတွေ ဖြစ်နေတယ်။

ရုတ်တရက် သူက "ဒီရုပ်တုတွေက ဘယ်သူတွေလဲဗျ"လို့ ကျုပ်ကို မေးတယ်။ "ဒီရုပ်တုတွေက ဘယ်သူဘယ်ဝါဆိုတာ ကျွန်တော် သိချင်လိုက်တာဗျာ"တဲ့။

"မင်းဆိုတဲ့ကောင်ဟာ တော်တော်ကို တုံးတာပဲ။ အဲဒီလူတွေဟာ အလွန်ထင်ရှားကျော်ကြားခဲ့တဲ့ ပုဂ္ဂိုလ်ကြီးတွေပေါ့ကွ၊ သူတို့လို ထင်ရှားကျော်ကြားတဲ့ အမျိုးသားကြီးတွေဆိုရင် အခုလို ပုံတူကျောက်ရုပ်တွေ ထုပြီး ဒီအထဲမှာ လာထားကြတာပေါ့"လို့ ကျုပ်က ပြန်ဖြေလိုက်တယ်။



မာတိကာသို့

သူဟာ ကျောက်ရုပ်တုတစ်ခုဆီကို လျှောက်သွားပြီး သေသေချာချာ ကြည့်နေတယ်။ ပြီးတော့ ကျုပ်ကို လှည့်ကြည့်ပြီး "ဒီရုပ်တုကျတော့ မိန်းမတစ်ယောက်ပဲ၊ ဘာပြုလို့လဲ…"လို့ မေးတယ်။

"ဟကောင်ရ၊ သူလည်း ကြီးကျယ်ထင်ရှားခဲ့တဲ့ ပုဂ္ဂိုလ်တစ်ယောက် ဖြစ်ခဲ့လို့ပေါ့"လို့ ကျုပ်က ပြန်ပြောတယ်။

သူ့မျက်နှာထားက ကျုပ်စကားအပေါ်မှာ သဘောပေါက်ပုံ မပေါ်ဘူးဗျ။ တော်တော်ကြာကြာလေး ငြိမ်ဆိတ်နေပြီးခါမှ "ဒီလိုဆိုရင် တကယ်လို့ ကျွန်တော်ဟာ ကြီးကျယ်ထင်ရှားတဲ့ လူတစ်ယောက် ဖြစ်သွားတယ်ဆိုပါတော့။ သူတို့က ကျွန်တော့်ပုံကို အခုလို ထုပြီး ဒီနေရာမှာ လာထားမှာပဲလား"လို့ မေးတယ်။

"ထားမှာပေါ့ကွ။ အင်း ဒါပေမဲ့ မင်း မင်းလိုကောင်စားကတော့ ဘယ်တော့မှ ကြီးကျယ်ထင်ရှားတဲ့ လူတစ်ယောက် ဖြစ်မလာနိုင်ပါဘူးကွာ"

"ခင်ဗျားက ဘယ်လိုလုပ်ပြီး သိတာလဲ…။ ဆိုကြပါစို့ရဲ့။ ကျွန်တော်ဟာ ရောမမြို့ရဲ့ ကြောက်စရာလူဖြစ်လာပြီဆိုပါတော့။ ဥပမာဗျာ။ ကျွန်တောက်က လူတွေအများကြီးသတ်မယ်။ သတင်းစာတွေကလည်း ကျွန်တော့်အကြောင်းကို ရေးကြမယ်။ ကျွန်တော့်ကိုလည်း ရှာလို မတွေ့ကြဘူး။ ဖမ်းလို့ မမိကြဘူး။ အဲသလိုဆိုရင် သူတို့က ကျွန်တော့်ပုံကို ကျောက်ရုပ်ထုပြီး အခုလို ထားကြမှာပဲ လား"

ကျုပ် တအားအော်ပြီး ရယ်မိတယ်။ တကယ်တော့ ကျုပ် မရယ်ချင်

ပါဘူး။ ဒါပေမဲ့ မရယ်ဘဲ မနေနိုင်ဘူးဗျ။ ဘာ့ကြောင့်လဲဆိုတော့ ဒီအကောင် ပြောလိုက်တဲ့စကား ဘယ်က ရလာတယ်ဆိုတာ ကျုပ်က သိနေလို့ပါ။ သူ့ကိုယ်သူ 'ရောမမြို့က လူဆိုးကြီး'လို့ ကင်ပွန်းတပ်လိုက်တာဟာ တခြားကြောင့်မဟုတ်ဘူး။ လွန်ခဲ့တဲ့ သုံး,လေးရက်လောက်က သူနဲ့ ကျုပ် 'ရှိကာဂိုမြို့တော်မှ လူဆိုးကြီး'ဆိုတဲ့ ရုပ်ရှင်ကားကို သွားပြီး ကြည့်ခဲ့ကြတယ်မဟုတ်လား။ အဲဒါကြောင့် သူ့ပါးစပ်က ဒီစကားလုံး ထွက်လာတာ။

"ဘယ်ထားမလဲကွာ"လို့ ကျုပ်က ပြန်ပြောတယ်။ "လူတွေကို လျှောက်သတ်နေလို့ ကြီးကျယ်မြင့်မြတ်တဲ့လူဖြစ်လာတာမှ မဟုတ်တာ။ မင်းဆိုတဲ့ကောင်ဟာ တော်တော်ကို အ တာပဲ။ ကြီးကျယ်ထင်ရှားပြီး မြင့်မြတ်တဲ့ ပုဂ္ဂိုလ်တွေဟာ လူတွေကို လိုက်သတ်နေတဲ့ လူသတ်သမား မဟုတ်ဘူးဟ"

"ဒီလိုဆိုရင် သူတို့က ဘာတွေ လုပ်ကြသလဲ"

"ဟာ...ကွာ...သူတို့က စာအုပ်တွေ ရေးကြတယ်ကွာ"

ကျုပ်စကားကြားတော့ ဒီအကောင် မျက်နှာပျက်သွားတယ်။ သူ့စိတ်ဟာ သက်သာပုံ မရဘူး။ ဘာကြောင့်လဲဆိုတော့ သူက စာမှ ကောင်းကောင်း မတတ်ပဲကိုးဗျ။ ဒါပေမဲ့သူက ပြောတယ်ဗျ သိလား။ "ဘာပဲဖြစ်ဖြစ်ဗျာ။ ကျွန်တော်ကတော့ ကျွန်တော့်ရဲ့ ပုံတူရုပ်တုရှိစေချင်တယ်။ အဲသလိုဆိုရင် လူတွေက ကျွန်တော့်ကို အမြဲသတိရနေမှာ"တဲ့။

"အင်း...မင်းဆိုတဲ့ကောင်ကတော့ တကယ့်သောက်ရူးသောက်ပေါ



မာတိကာသို့

တစ်ကောင်ပါပဲကွာ”လို့ ကျုပ်က ပြောမိတယ်။ “မင်းအစား ငါ ရှက်သကွာ၊ ဒါပေမဲ့ ခက်ပါတယ်ကွာ၊ ငါဘယ်လိုပဲ ရှင်းပြပြ မင်းက နားလည်မယ့်ကောင်မဟုတ်ပါဘူး။ ရှင်းပြနေရင်လည်း အချိန်ဖြုန်းသလို ဖြစ်မှာပါပဲ”

ကျုပ်တို့ဟာ အဲဒီနားတစ်ဝိုက်မှာပဲ လှည့်ပတ်သွားနေကြတယ်။ နောက်ကျတော့ ပင်စီယိုကုန်းတန်းပေါ်ကို တက်လာခဲ့ကြတယ်။ အဲဒီတစ်ဝိုက်မှာတော့ ကားတွေတော်တော်များတယ်။ ကားထဲက ထွက်လာတဲ့ လူတွေဟာ အပေါ်စီး မြင်တွေ့နေရတဲ့ ရောမမြို့တော်ရဲ့အလှမှာ အံ့ဩမိန်းမောနေကြတယ်။ ကျုပ်တို့ကလည်း ကုန်းတန်းရဲ့ လှေကားတစ်တစ်ခုရဲ့ အစွန်းမှာ သွားရပ်ပြီး ရောမကို ကြည့်ကြတယ်။

ရှုခင်းက တစ်မြို့လုံးကို မြင်နေရတာ။ မြင်ကွင်းကြီးတစ်ခုလုံးဟာ မည်းနက်နေပေမယ့် ကြိုကြားကြိုကြား မီးရောင်လေးတွေကို မြင်ရတယ်။ အဲဒီကြားထဲမှာ အဖြူရောင်အက်ကြောင်းကလေးတွေကို မြင်ရသေးတယ်။ အဲဒါလေးတွေကတော့ လမ်းတွေဗျ။ လ မရှိပေမယ့် ကောင်းကင်က ကြည်လင်နေတော့ လင်းလင်းချင်းချင်း ရှိတယ်။ ကျုပ်က လော်ရပ်ဆိုကို လက်နဲ့တို့ပြီး မားမားမတ်မတ်ကြီး ရပ်နေတဲ့ စိန့်ပီတာဘုရားရှိခိုးကျောင်းကြီးကို လက်ညှိုးထိုးပြတယ်။ ကြယ်ရောင်တွေနဲ့ လင်းနေတဲ့ ကောင်းကင်ပြင်ကို ကျောပေးထားတဲ့ အရိပ်မည်းမည်းကြီးတစ်ခုနဲ့ တူနေပါတယ်။

“ခင်ဗျားပဲ စဉ်းစားကြည့်ပေါ့”လို့ လော်ရာဆို့က ပြောတယ်။ “တကယ်လို့ ကျုပ်ဟာ ရောမမြို့ရဲ့ ကြောက်စရာလူဆိုးကြီးတစ်ယောက်

ဖြစ်သွားရင် အခု ကျုပ်တို့ မြင်နေရတဲ့ အိမ်တွေထဲက လူတွေအားလုံးဟာ ကျုပ်အကြောင်းကိုပဲ စဉ်းစားနေကြမှာ။ ပြီးတော့လည်း အချိန်ရှိသမျှ ကျုပ်ရောက်လာပြီး သတ်မှာ ဖြတ်မှာကို ကြောက်နေကြမှာပဲ"

အဲဒီစကားတွေ ပြောနေရင်းနဲ့ သူက ရောမမြို့ဘက်ကို လက်တစ်ဖက် ရမ်းပြလိုက်သေးတယ်ဗျား။ သူ့အမူအရာက ရောမမြို့တစ်မြို့လုံးကို ခြိမ်းခြောက်ချင်တဲ့ ပုံမျိုးဗျ။ ပြီးတော့ သူက ဆက်ပြောလိုက်သေးတယ်။ 'ညတိုင်း ထွက်ပြီး လူတစ်ယောက်နှစ်ယောက်ကိုတော့ သတ်မှာပဲ။ သတ်ပြီးရင်လည်း ကျုပ်ကို ဘယ်သူမှ ရှာလို့ တွေ့မှာ မဟုတ်တော့ဘူး"တဲ့။ ကျုပ်ကလည်း "မင်းဟာ တော်တော့်ကို ရူးတဲ့ကောင်ပဲ။ မင်းရုပ်ရှင်မကြည့်သင့်ဘူး။ အမေရိကားမှာက စက်သေနတ်တွေနဲ့ ကားတွေကို တရားဝင် ပိုင်ဆိုင်ခွင့် ရှိတယ်။ ပြီးတော့ သူတို့က အလုပ်တွေအကိုင်တွေနဲ့ကွ။ မင်းကျတော့ ဘာကောင်မှ မဟုတ်ဘူး။ သိုးကျောင်းသမား သိုးနို့ညှစ် ပြီး ထောပတ်လာချက်တတ်တဲ့ကောင်။ ဂျက်ကက်အင်္ကျီထဲမှာ စပန်နာ ကြီးတစ်ချောင်းထည့်ပြီး ဘာမှ လုပ်နိုင်တဲ့ကောင်မှ မဟုတ်တာ"လို့ ပြန်ပြောလိုက်တယ်။

သူဟာ ကျုပ်ပြောတဲ့စကားအပေါ်မှာ ကျေနပ်ပုံ မပေါ်ဘူး။ စကား တစ်ခွန်းမှ ပြန်မပြောဘဲ အချိန်တော်တော်ကြာကြာ ငြိမ်နေတယ်။ နောက်ဆုံးမှာတော့ "ရှခင်းကတော့ သိပ်ကို လှပါတယ်ဗျာ။ ဒါပေမဲ့ ကျုပ် ကောင်းကောင်းနားလည်သွားပြီ။ ဒီည ကျုပ်တို့နှစ်ယောက် ဘာမှ လုပ်ဖြစ်မှာ မဟုတ်ပါဘူး။ လာလမ်းအတိုင်း ပြန်ပြီး အိပ်ကြရုံပဲပေါ့။" လို့ သူကပြောတယ်။ "မင်းစကားက ဘာအဓိပ္ပာယ်လဲကွ"လို့ ကျုပ်က



မာတိကာသို့ ▶▶

မေးတယ်။

"ကျုပ်စကားက ရှင်းရှင်းလေးပါဗျာ၊ စိတ်ကူးတုန်းက စိတ်ကူးခဲ့ပေမယ့် အခုကျတော့ ခင်ဗျားသွေးအေးသွားပြီ။ လုပ်ရမှာ ကြောက်သွားပြီ မဟုတ်လား" လို့ သူကပြန်ပြောတယ်။ ဒီအကောင်ဟာ ဒီလိုပဲဗျ၊ သူ့စိတ်က မငြိမ်ဘူး၊ သူတွေးချင်တာတွေ လျှောက်တွေးပြီးရင် ကျုပ်အပေါ်အပြစ်ပုံချတတ်တယ်။ ကျုပ်ကို လူကြောက်လို့လည်း စွပ်စွဲတတ်တယ်။ ဒါ့ကြောင့်မို့ကျုပ်က "ဟော့ အရှူး၊ လာသွားကြမယ်၊ ငါကြောက်တယ် မကြောက်ဘူးဆိုတာ မင်းသိသွားအောင်ပြမယ်"လို့ ပြန်ပြောလိုက်တယ်။

ကျုပ်တို့ဟာ ကုန်းစောင်းလှေကားထစ်အတိုင်း အောက်ကို ဆင်းလာခဲ့ကြတယ်။ မူရိတော်တို လမ်းဘက်ကို ရောက်လာကြတယ်။ ဒီနေရာတစ်ဝိုက်မှာလည်း ခုံတန်းတွေနဲ့ ထိုင်နေကြတဲ့ စုံတွဲတွေဟာ အများကြီးပဲ။ ဒါပေမယ့် ဒီနေရာမှာကတော့ ကျုပ်တို့အစီအစဉ်ကိုလုပ်လို့မဖြစ်ဘူးဗျ။ ဒါပေမယ့် တော်တော်ကလေး မှောင်မည်းနေတဲ့ နေရာတစ်နေရာမှာ စုံတွဲ တစ်တွဲကိုမြင်တော့ အဲဒီအတွဲဆီသွားဖို့ ကျုပ် စိတ်ကူးရလိုက်တယ်။ အဲဒီတုန်းမှာပဲ မြင်းစီးရဲနှစ်ယောက်ဟာ အနားက ဖြတ်သွားတယ်။ မှောင်ထဲမှာထိုင်နေတဲ့ စုံတွဲကလည်း ကြောက်လန့်ပြီး ပျောက်သွားပါလေရော။

ကျုပ်တို့ဟာ ဆက်လျှောက်လာရင်းနဲ့ မူရိတော်တိုတံတားကိုမြင်နေရတဲ့အပိုင်းကို ရောက်လာကြတယ်။ အဲဒီနေရာမှာ သံဆူးကြိုးတွေကာထားတဲ့ အဆောင်ကြီးတစ်ဆောင်ရှိတယ်။ တစ်ဖက်မှာတော့ အမြဲ

တမ်းဖွင့်ထားတဲ့ သစ်သားတံခါးတစ်ချပ်ရှိတယ်။ ကျုပ်လက်ထဲမှာ ငွေကြေးပြတ်တဲ့အခါတိုင်း ဒီအဆောင်ကြီးထဲမှာ လာလာပြီး အိပ်ခဲ့ရတဲ့ ညပေါင်းဟာ အများကြီးရှိခဲ့ဖူးတယ်။ ဒီအဆောင်ကြီးထဲမှာ တံတားဘက်ကိုမြင်နေရတဲ့ မှန်ကာအခန်းတစ်ခန်းရှိတယ်။ အဲဒီအခန်းထဲမှာ စိုက်ပျိုးကိရိယာ တန်ဆာပလာတွေနဲ့ ပန်းအိုးတွေရှိတယ်။ ပြီးတော့ ကျိုးပဲ့ပျက်စီးနေတဲ့ ကျောက်ထုရုပ်တွေလည်း ရှိတယ်။

ကျုပ်တို့ဟာ အဆောင်ရှေ့က ဆင်ဝင်အောက်ကို ရောက်သွားကြတယ်။ လော်ရာဆိုက ဆင်ဝင်အောက်မှာဝင်ထိုင်ပြီး စီးကရက်တစ်လိပ်ဖွာနေတယ်။ သူထိုင်နေတာက လှေကားခုံအစွန်းကလေးပေါ်မှာ ထိုင်နေတာဗျ။ ဟန်တစ်လုံးပန်တစ်လုံးနဲ့ စီးကရက်ဖွာနေတဲ့ သူ့ကိုသောက်မြင်ကပ်လာတယ်။ သူ့ကို လှေကားခုံပေါ်က တွန်းချလိုက်ချင်တဲ့ စိတ်တောင်ပေါ်လာမိတယ်။ တကယ်လို့ တွန်းချလိုက်ရင်လည်း ဒီအကောင် ခွေးကျကျသွားမှာကတော့ သေချာတယ်။ ကျသွားမယ်ဆိုရင်လည်း အောက်ဘက် ပေ ၁၅၀လောက် ရှိတဲ့ မူရိတော်တိုလမ်းမပေါ်ကို ကျသွားမှာ။ ပလက်ဖောင်းပေါ်ကိုသာ ခေါင်းနဲ့တည့်တည့်ကျရင် ကြက်ဥတစ်လုံးရိုက်ခွဲလိုက်သလိုနေမှာပဲ။

သူလမ်းပေါ်ကျသွားပြီဆိုမှ ကျုပ်ဆင်းလိုက်သွားပြီး သူ့ခြေထောက်က ရှူးဖိနပ်တွေကို ချွတ်ယူလိုက်ရင် ကိစ္စကပြီးပြီပေါ့။ အဲသလိုလည်း တွေးလိုက်မိရော ကျုပ်ရဲ့စိတ်တွေဟာ လှုပ်ရှားလာတယ်။ ရင်ထဲမှာလည်း လောရပ်ဆိုကို စက်ဆုပ်မုန်းတီးတဲ့စိတ်ဟာ ပြင်းထန်လာတယ်။ သူ့ကိုသတ်ပစ်လိုက်ချင်တဲ့ဆန္ဒက ကြီးလာတယ်။ အမှန်တော့ဗျာ၊ ဒီဆန္ဒရဲ့

နောက်မှာရှိနေတဲ့ ခံစားမှုအမှန်ကို ကျုပ်ချက်ချင်းပဲ ရိပ်မိလိုက်ပါတယ်။ တခြားမဟုတ်ဘူး၊ ကျုပ်လိုချင်နေတာက ရှူးဖိနပ်ပဲဗျ။ ဒီအချိန်မှာ လော်ရပ်ဆိုပဲဖြစ်ဖြစ်၊ ဘယ်ကောင်ပဲဖြစ်ဖြစ် သူ့ဆီက ရှူးဖိနပ်သာ ရမယ်ဆိုရင် ကျုပ်သတ်မိမှာအမှန်ပဲ။

နောက်ပြီးတော့လည်း အဲဒီအချိန်တုန်းက ကျုပ်ဟာ တဝဲလည်လည် လျှောက်သွားနေရတာကို စိတ်ပျက်ပြီး ဒေါသဖြစ်နေတယ်။ သူ ပြောပုံဆိုပုံနဲ့ လုပ်ကိုင်ပုံတွေကလည်း 'ချဉ်'စရာ သိပ်ကောင်းနေတယ်။ အဲဒီတော့ သူ့ကိုတွန်းချမိတော့မယ့် အခြေအနေမှာရှိတာ အမှန်ပဲ။ အဲဒီတုန်းမှာပဲ ကျုပ်တို့ရဲ့ဘေးနားက လူနှစ်ယောက်ဖြတ်သွားတယ်။ ကျုပ်ကို တောင်မှ ဝင်တိုးတော့မလို ဖြစ်သွားသေးတယ်။ လှည့်ကြည့်လိုက်တော့ စုံတွဲတစ်တွဲဗျ။

စုံတွဲဟာ ကျုပ်ရှေ့က ဖြတ်သွားတာ ယောကျ်ားက မိန်းမထက် အရပ်ပုတယ်။ ဒါပေမဲ့ မှောင်ရိပ်ကကျနေတော့ သူတို့မျက်နှာတွေ တော့ မမြင်လိုက်ရဘူး။ တံခါးဝရောက်တော့ မိန်းမက အထဲကို ဝင်ချင်ပုံ မပေါ်ဘူး။ အဲဒီတော့ ယောကျ်ားက "အထဲကို သွားကြရအောင်ပါကွာ" လို့ ပြောတယ်။ မိန်းမက "အထဲမှာ သိပ်မှောင်တယ်"တဲ့။ "မှောင်တာ ဘာမှမဖြစ်ပါဘူးကွာ"လို့ ယောကျ်ားကပြန်ပြောတယ်။ နောက်ဆုံးမှာတော့ မိန်းမက သဘောတူလိုက်တယ်။ သူတို့ဟာ တံခါး ကို တွန်းဖွင့်ပြီး အထဲကို ဝင်သွားကြပြီ။

ကျုပ်က ချက်ချင်းပဲ လော်ရာဆိုဘက်လှည့်ပြီး "ဟော့၊ ဒါဟာ တို့လိုချင်နေတဲ့ အကွက်ပဲကွာ။ သူတို့အနေနဲ့ ပျိုးပင်တွေထားတဲ့ မှန်လုံကာ

အခန်းထဲကိုဝင်မှာ သေချာတယ်။ အဲဒီတော့ တို့က စီစဉ်ထားတဲ့အတိုင်း ရဲယောင်ဆောင်ပြီး နောက်ကလိုက်မယ်၊ ဝင်ဖမ်းမယ်၊ သူတို့မှာ ပါလာ သမျှငွေကိုယူမယ်”လို့ ပြောလိုက်တယ်။

လော်ရာဆိုဟာ သူ့လက်ထဲက စီးကရက်ကို လွှင့်ပစ်လိုက်ပြီး ထိုင်နေရာက ခုန်ထလိုက်တယ်။ ပြီးတော့ “ကောင်းပြီလေ၊ လုပ်ကြ တာပေါ့၊ ကျွန်တော်ကတော့ မိန်းမကိုပဲယူမယ်” လို့ပြောတယ်။ ကျုပ် သိပ်ကို အံ့အားသင့်သွားတယ်။ “ဘာကွ”လို့ ကျုပ်ကပြောတော့ သူက “ကျွန်တော်ကတော့ ကောင်မကိုပဲယူမယ်၊ ကျွန်တော်ပြောတာ သဘော ပေါက်ရဲ့လား၊ ကျွန်တော်လုပ်ချင်တာ အဲဒါပဲ”လို့ ထပ်ပြောတယ်။

“ဘာကွ၊ မင်းရူးနေသလား၊ အရပ်ဝတ်နဲ့ရဲဆိုတာ အဲဒါမျိုး မလုပ်ရဘူးကွ၊ မင်းဘယ်လိုကောင်လဲ”

“ဘာပဲဖြစ်ဖြစ်ဗျာ၊ အဲဒါတွေကို ကျွန်တော်နားမလည်ဘူး”တဲ့။ သူ့မျက်နှာကို မမြင်ရလို့ အကဲမခတ်နိုင်ပေမယ့် သူ့အသံကတော့ သူ လုပ်ချင်တာကို လုပ်မှာပဲဆိုတဲ့သဘော ပါနေတယ်။ ကျုပ်ကလည်း အခိုင်အမာလေသံနဲ့ “အဲသလိုဆိုရင် ငါတို့ဘာမှမလုပ်တော့ဘူး”လို့ ပြောလိုက်တယ်။

“ဘာပြုလို့ မလုပ်ရမှာလဲဗျ”

“ဘာပြုလို့လဲဆိုတော့ မိန်းမတစ်ယောက်ကို အဲသလိုလုပ်တာ ငါခွင့်မပြုနိုင်လို့”

“ကျွန်တော့်ဘာသာ ကျွန်တော်လုပ်မယ်ဆိုရင်ကောဗျာ”

"မရဘူး၊ မင်းလုပ်ရင် ငါကတော့ ဆော်မှာပဲ။ တကယ်ပြောတာ၊ ငါကျိန်ထားလိုက်မယ်"

ကျုပ်တို့ဟာ မျက်နှာချင်းဆိုင်ရပ်ပြီး တစ်ယောက်နဲ့တစ်ယောက် ရန်စောင်နေကြတယ်။ ကျုပ်တို့ မျက်နှာတွေဟာ နှာချောင်းချင်း ထိလုမတတ် ကပ်နေကြတယ်။ သူက "ခင်ဗျားဟာ လူကြောက်ပဲ" တဲ့။ ကျုပ်ကလည်း "မင်းဟာ သောက်ရူးပဲ"လို့ ပြန်ပြောတယ်။ သူလုပ်ချင်တာကိုမလုပ်ရဘူးလို့ ကျုပ်က တားတော့လည်း သူက ဒေါသူပုန်ထတာပေါ့လေဗျာ၊ ဒါမျိုးက ဖြစ်တတ်တဲ့ သဘာဝပါ။

ခဏကြာတော့ သူက "ကောင်းပြီ၊ ခင်ဗျားပြောတဲ့အတိုင်းပဲ လုပ်မယ်။ မိန်းမကို ကျွန်တော်လက်ဖျားနဲ့တောင် မတို့ဘူး။ ဒါပေမယ့် ယောက်ျားကိုတော့ ကျွန်တော်ချမှာပဲ"တဲ့။

"မင်းဟာ တော်တော်ရူးတဲ့ကောင်ပါလား။ ဘာ့ကြောင့် ယောက်ျားကို ချရမှာလဲကွ"

"မလိုချင်ဘူးဗျာ။ မိန်းမကိုမရရင် ယောက်ျားကိုတော့ ဆော်ရမှ ကျေနပ်မယ်"

အချိန်ကကြာနေပြီ။ သူနဲ့ဆက်ပြီး စကားများနေရင် ရတောင့်ရခဲ အခွင့်အရေးကို လက်လွတ်ရတော့မှာဗျ။ ဒါကြောင့် လုပ်စရာရှိတာ ဆက်လုပ်နိုင်ဖို့အတွက် သူနဲ့ ကျုပ်နဲ့ကြားမှာ ပြေလည်အောင် မလုပ်လို့ မဖြစ်ဘူး။ အဲဒီတော့ ကျုပ်က "ကောင်းပြီလေကွာ၊ လိုအပ် လာရင်တော့ မင်းလုပ်ပေါ့။ ဒါပေမဲ့ ငါက ဟောသလို အချက်ပေးမှ လုပ်ရမယ်"



မာတိကာသို့ ▶▶

လို့ပြောပြီး ကျုပ်လက်တစ်ဖက်နဲ့ နဖူးကို ဖြတ်ဆွဲပြလိုက်တယ်။

ဒီကောင်က ငတုံးဗျ။ အစဉ်းစား အဆင်ခြင် လုံးဝမရှိတဲ့ကောင်။ မလိုအပ်ဘဲနဲ့ သွားလုပ်လိုက်ရင် ပြဿနာတွေက ရှုပ်လာမှာ။ ဘာပဲဖြစ်ဖြစ်ပေါ့လေ၊ လောရယ်ဆိုဟာ ကျုပ်စကားကို လက်ခံတယ်။ ကျုပ်ကလည်း သူ့ကို ကျုပ်ကအချက်မပြရင် ဘာမှမလုပ်ပါဘူးဆိုတဲ့ ကတိကို ထပ်ခါတလဲလဲ တောင်းတယ်။ သူကလည်း မလုပ်ပါဘူးလို့ ကတိပေးတယ်။

ကျုပ်တို့ဟာ ဝင်းတံခါးကို ဖွင့်ပြီး အထဲဝင်လိုက်သွားကြတယ်။ ပျိုးပင်တွေ၊ ပန်းအိုးတွေနဲ့ ကျောက်ဆစ်ရုပ်အပျက်တွေထားတဲ့ မှန်လုံကာ အခန်းထဲအထိ လိုက်သွားကြတယ်။ အထဲကိုဝင်သွားစမှာတော့ စုံတွဲကို မမြင်ဘူး။ နောက်ကျမှ မှောင်ရိပ်ကျနေတဲ့ ထောင့်ထဲက စုံတွဲကို လှမ်းမြင်တယ်။ ယောက်ျားက မိန်းမကို ဖက်နမ်းနေတာ တွေ့ရတယ်။

ကျုပ်က တံခါးကို တွန်းဖွင့်လိုက်ပြီး "ဘယ်သူတွေလဲကွ၊ ဒီမှာလာပြီး ဘာလုပ်နေကြတာလဲ"လို့ အော်ပြောလိုက်တယ်။ ယောက်ျားက ဖျတ်ခနဲ လှည့်ပြီး ကျုပ်ဆီကို လျှောက်လာတယ်။ မိန်းမကတော့ သူ့ကို မြင်သွားမှာကြောက်လို့ မှောင်ထဲမှာ ရပ်နေခဲ့တယ်။ ကျုပ်ဆီကို လာနေတဲ့ကောင်က လူငယ်ပဲရှိသေးတယ်။ အရပ်ပုပု၊ ခေါင်းကြီးကြီး၊ လည်ပင်းတုတ်တုတ်နဲ့။

ကျုပ်က သူ့ခြေထောက်တွေကို လှမ်းကြည့်လိုက်တော့ သူစီးထားတဲ့ ရှူးဖိနပ်တွေက အသစ်တွေဗျ။ ကျုပ်ကြိုက်တဲ့ ပုံမျိုးပဲ။ အမေရိကန်စတိုင်ပေါ့။ ရာဘာဆိုးတွေနဲ့ဆိုတော့ ကျုပ်ကပိုပြီး သဘောကျတယ်။

ချုပ်ရိုးချုပ်သားက ကောင်းလည်းကောင်း၊ လှလည်းလှ။

ဒီကောင့်မျက်နှာထားက ကြောက်တဲ့လက္ခဏာ မပြဘူး။ ကျုပ်သူ့ကိုကြည့်ပြီး ဒေါပွသွားတယ်။ သူက "ခင်ဗျားကဘယ်သူလဲ"လို့ လှမ်းမေးတယ်။

"ရဲကွ"လို့ ကျုပ်ကပြန်ပြောတယ်။ "လူအများ သွားလာတဲ့ နေရာတွေမှာ မိန်းမတစ်ယောက်နဲ့ ဖက်နမ်းနေတာဟာ ဥပဒေနဲ့မညီတဲ့ လုပ်ရပ်ကွ။ မင်းတို့နှစ်ယောက်စလုံး ဥပဒေကို ချိုးဖောက်နေကြတာ၊ ကဲ မချော၊ အဲဒီမှောင်ရိပ်ထဲမှာရပ်ပြီး ပုန်းနေလို့ရမယ် မထင်နဲ့၊ ရှေ့ကို ထွက်ခဲ့"

မိန်းမက မှောင်ထဲက ထွက်လာပြီး သူ့အဖော်ဘေးမှာ ရပ်နေတယ်။ မိန်းမက သူ့အဖော်ထက် အရပ်နည်းနည်းကလေး ပိုမြင့်တယ်။ ကိုယ်လုံးက ခပ်ပိန်ပိန်သွယ်သွယ်ရယ်။ ဝတ်ထားတဲ့ အင်္ကျီက တိုတိုကျပ်ကျပ်။ ခေါင်းလောင်းပုံ စကတ်အနက်က ခြေမျက်စိအထိ ရောက်နေတယ်။ မိန်းမက မိန်းမချောဗျ။ ဖားလျားချထားတဲ့ ဆံပင်က နက်မှောင်နေတာပဲ။ မျက်လုံးကလည်း အနက်ရောင်ဆိုတော့ တစ်မျိုးလှတာပေါ့။

"လူအများသွားလာရာ နေရာမှာ အခုလို ဖက်ရမ်းနမ်းရှုံ့နေတာဟာ ဥပဒေကို ချိုးဖောက်မှုတစ်ခုပဲဆိုတာ ဆီညော်ရီနာ မသိဘူးလား"လို့ ကျုပ်က ပြောတယ်။ "ပြီးတော့လည်း ဂုဏ်သိက္ခာရှိတဲ့ ဆီညော်ရီနာလို မိန်းကလေးတစ်ယောက်အဖို့ အခုလိုလုပ်တာဟာ ရက်စရာ အင်မတန်ကောင်းပါတယ်။ အများနဲ့ဆိုင်တဲ့ ပန်းခြံထဲက မှောင်ရိပ်ထဲမှာ နမ်းနေတာဟာ အပေါစား ပြည့်တန်ဆာတွေ လုပ်ပုံနဲ့ တူမနေဘူးလား"

သူက ကျုပ်ကို တစ်ခုခုပြောတော့မလို လုပ်နေတုန်းမှာပဲ သူ့အဖော်က လှမ်းတားတယ်။ ကျုပ်ဘက်ကိုလှည့်ကြည့်ပြီး "ဟုတ်ပါတယ်လေ၊ ကျွန်တော် ဥပဒေကို ချိုးဖောက်မိတာ အမှန်ပါပဲ။ ကဲ ခင်ဗျားက အထောက်အထား စာရွက်စာတမ်းတွေတော့ ကျွန်တော့်ကိုပြပါ" လို့ ဝင်ပြောတယ်။

"ဘာ အထောက်အထား စာရွက်စာတမ်းလဲ"

"ခင်ဗျားတို့ဟာ ရဲတွေဖြစ်ကြောင်း သက်သေခံနိုင်မယ့် စာရွက်စာတမ်းတွေပေါ့"

သူကိုယ်တိုင်က ရဲဖြစ်နေလို့သာ ဒီစကားမျိုးပြောတာပဲလို့ စိတ်ထဲက သိလိုက်တယ်။ သိပ်ပြီး အံ့သြစရာတော့ မရှိပါဘူး။ ကျုပ်က ထုံးစံအတိုင်း ကံဆိုးတတ်တယ်မဟုတ်လား။ ဒါပေမယ့် ကျုပ်က လေသံခပ်ကြမ်းကြမ်းနဲ့ "စကားသိပ်များမနေနဲ့ ကိုယ့်လူ၊ မင်းဥပဒေကို ကျူးလွန်တာ အမှန်ပဲ။ အဲဒီတော့ ထုံးစံအတိုင်း ပေးဆပ်ရမှာပဲ"လို့ ဟန်ကိုယ့်ဖို့လုပ်ပြီး ပြန်ပြောတယ်။

"ဒါပေါ့လေ၊ ပေးဆပ်ရမှာပေါ့"လို့ သူက ငေါ့တော့တော့ လေသံနဲ့ပြောတယ်။ သူပြောပုံက ရေ့နေတစ်ယောက်လေသံနဲ့ဗျ။ သူ့ကြည့်ရတာ ထိတ်လန့်သွားတဲ့ ပုံကတော့ လုံးဝမပေါ်ဘူး။ "ဟား၊ ဟား ၊ ရဲဆိုပါလား။ ဒီမျက်ခွက်မျိုးက ရဲတဲ့လား။ ပုံကတော့ ဘာပုံပါလိမ့်။ ဂျက်ကက်အကျီဟောင်းဝတ်ပြီး ရှူးဖိနပ်စုတ်စီးလို့၊ ဘာလဲ မင်းတို့က ငါ့ကို အရူးလုပ်လို့ရမယ် ထင်နေကြသလား"

အမှန်တကယ်ကို စုတ်ပြတ်နေတဲ့ ကျုပ်ရဲ့ ရှူးဖိနပ်အကြောင်း ပြောသံကြားလိုက်တော့ ကျုပ်စိတ်ဟာ 'ထောင်း'ခနဲ ဖြစ်သွားတယ်။ တကယ်တော့လည်း ရဲက အခုလောက် စုတ်ပြဲနေတဲ့ ရှူးဖိနပ်ကို စီးမတဲ့လားဗျာ။ ဒါကျတော့လည်း မှန်နေတာပဲ။ ဒါပေမယ့် ဘာပဲဖြစ်ဖြစ်ဗျာ၊ ကိုယ့်စိတ်ကို ထိန်းမရတော့တဲ့ကျုပ်ဟာ အိတ်ကပ်ထဲက ပစ္စတိုကို ဆွဲထုတ်ပြီး သူ့ဝမ်းဗိုက်ကို ထိုးထောက်လိုက်တယ်။

"အေးကွာ၊ ဟုတ်တယ်၊ ငါတို့ရဲမဟုတ်ဘူး။ အဲဒါဘာဖြစ်လဲ။ ကဲ မင်းတို့မှာ ပါသမျှငွေကိုထုတ်၊ ဒီကိုပေး၊ ရီးတီးယားတား လုပ်မယ်တော့ မကြံနဲ့၊ ဂန့်သွားမယ်"

ကျုပ်ဘေးမှာရပ်နေတဲ့ လော်ရာဆိုကတော့ ဘာမှဝင်မပြောဘူး။ ပါးစပ်အဟောင်းသားနဲ့ ငေးကြည့်နေတယ်။ ကျုပ်စကားဆုံးတော့မှ အိပ်ရာက လန့်နိုးလာသလိုဖြစ်သွားပြီး သူ့စပန်နာကြီးနဲ့ ဟိုအကောင်ရဲ့ နှာခေါင်းကို မထိတထိ ထိုးထားတယ်။ "မင်းကိုပြောနေတာ နားမလည်ဘူးလားကွ" လို့ပြောတယ်။ "တောင်းနေတဲ့ငွေကို ထုတ်ပေးရင်ပေး၊ မပေးရင် မင်းခေါင်းကို ရိုက်ခွဲလိုက်ရမလား" တဲ့။

လော်ရာဆို ဝင်ပါလာမှပဲ ကျုပ်ဟာ ပိုပြီးစိတ်တိုသွားတယ်။ ပမာမခန့် လုပ်ခဲ့တဲ့ ဟိုအကောင်ကို ကြည့်မရလောက်အောင် ဖြစ်လာတယ်။ မိန်းကလေးကတော့ လော်ရာဆိုလက်ထဲက စပန်နာကြီးကိုမြင်တော့ အလန့်တကြား ထအော်တယ်။ ကျုပ်က သူ့ကို လေအေးကလေးးနဲ့ ယဉ်ယဉ်ကျေးကျေးပြောတယ်။ "ဒီမယ်ဆီညော်ရီနာ၊ အဲဒီကောင်ကို ဂရုမစိုက်နဲ့၊ ဒီကောင်က သောက်ရူး၊ ဘာမှလည်း စိတ်မပူနဲ့၊ ဟိုထောင့်



မာတိကာသို့ ▶▶

ကိုပြန်သွား၊ နှုတ်ပိတ်ပြီးနေ၊ ဟော့ လော်ရာဆို၊ မင်းစပန်နာကြီးကို သိမ်းထားလိုက်"

အဲဒီနောက် ကျုပ်ဟာ ဟိုငနာဘက်လှည့်ပြီး "ကဲ၊ ကိုယ့်လူ၊ မြန်မြန်လုပ်၊ အချိန်မရှိဘူး"လို့ ပြောလိုက်တယ်။

အမှန်အတိုင်းပြောရရင် ဒီဘဲက ရုပ်ခပ်ဆိုးဆိုးပဲ။ ဒါပေမဲ့ သတ္တိတော့ ကောင်းပုံပဲ။ ကျုပ်က သူ့ဗိုက်ကို ပစ္စတိုနဲ့ ထောက်ထားပေမယ့် ကြောက်တဲ့လန့်တဲ့ အရိပ်လက္ခဏာ မပြဘူး။ သူ့လက်တစ်ဖက်နဲ့ အိတ်ကပ်ထဲက ပိုက်ဆံအိတ်ကို ဆွဲထုတ်ပြီး ကျုပ်ကို လှမ်းပေးတယ်။ "ရော့၊ ကျုပ် ပိုက်ဆံအိတ်"တဲ့။ ကျုပ်က ပိုက်ဆံအိတ်ကိုလှမ်းယူပြီး ကျုပ် အိတ်ကပ်ထဲကို ထိုးမထည့်ခင် လက်နဲ့ဖျစ်ညှစ်ကြည့်တယ်။ ငွေကတော့ များများစားစား ပါပုံမရပါဘူး။

"ကဲ၊ မင်းလက်ပတ်နာရီကိုချွတ်၊ ဒီကိုပေး"လို့ ကျုပ်က ထပ်ပြောတယ်။ သူကလည်း ချက်ချင်းပဲ ချွတ်ပေးတယ်။ နာရီက သိပ်တော့ တန်ဖိုးရှိမယ် မထင်ပါဘူး။ "မင်းဖောင်တိန်ကိုဖြုတ်"လို့ ပြောတော့လည်း ချွတ်ပေးတယ်။ ဖောင်တိန်ကတော့ အကောင်းစားဗျ။ အမေရိကန် ဖောင်တိန်။

သူ့ဆီက ကျုပ်ထပ်ပြီး တောင်းစရာ ဘာမှမရှိတော့ဘူး။ ဒါပေမဲ့ ဟို၊ ဟို၊ သူ့ခြေထောက်မှာစီးထားတဲ့ ရှူးဖိနပ်လှလှကလေးတော့ ကျန်နေသေးတယ်။ အဲဒီပစ္စည်းက စပြီးမြင်ကတည်းက ကျုပ်သဘောကျလာတာ။ သူက လှောင်ချင်ပြောင်ချင်တဲ့ လေသံနဲ့ "ဘာလိုချင်သေးသလဲ"လို့ မေးတယ်။ ကျုပ်ကလည်း တုံ့ဆိုင်းမနေပါဘူး။ "လိုချင်

သေးတယ်ဟေ့၊ မင်းရှူးဖိနပ်တွေကို ချွတ်လိုက်” လို့ ခိုင်းတယ်။

ဒီတစ်ခါမှာတော့ သူက “ကျွန်တော့်ဖိနပ်တွေကိုတော့ မလုပ်ပါနဲ့ဗျာ” တဲ့။ ကျုပ်စိတ်မထိန်းနိုင်တော့ဘူး။ စပြီး တွေ့ကတည်းက အခုအချိန်ထိ ကြည့်လို့မရအောင်ဖြစ်နေတဲ့ သူ့ရဲ့မာတာတာ ကျောတောတော မျက်ခွက်ကို လက်သီးနဲ့ တစ်ချက်ထိုးလိုက်တယ်။ အဲသလို လုပ်လိုက်ရင် သူ့အနေအထား ဘယ်လိုရှိလာမလဲ၊ သူ့ဆီက ဘယ်လိုတုံ့ပြန်မှု ရှိလာမလဲ ဆိုတာကိုလည်း သိချင်လို့ တမင်လုပ်လိုက်တာဗျ။

“ဟေ့ကောင်၊ ဖိနပ်တွေကို ချွတ်လိုက်စမ်း၊ ငါ့ကို အရူးလုပ်လို့ မရဘူး”လို့ ကျုပ်ကပြောလိုက်တယ်။ သူ့မျက်နှာဟာ နီရဲသွားတယ်။ ပြီးတော့ ဖြူသွားတယ်။ ကျုပ်ကိုသူ ခုန်အုပ်တော့မယ်လို့ ထင်ရတယ်။ အဲဒီတုန်းမှာပဲ ထောင့်ထဲမှာရပ်နေတဲ့ အမျိုးသမီးဟာ သူ့ဆီကို ပြေးလာတယ်။

“ဂျိနိုရယ်၊ သူတို့လိုချင်တာ အကုန်သာပေးလိုက်စမ်းပါ”လို့ သူ့လူကိုပြောတယ်။ သူ့လူက သူ့နှုတ်ခမ်းကို ပြတ်လုမတတ် ကိုက်ထားရင်းက “အေးကွာ၊ ပေးရမှာပေါ့”လို့ပြောပြီး သူ့ရှူးဖိနပ်တွေကို ချွတ်ပေးတယ်။ ဖိနပ်မရှိတော့မှပဲ ဒီကောင်ဟာ တော်တော်ကြီးကို ပုတာပဲဆိုတာ သိလာရတယ်။ လောရာဆိုထက်တောင် ပုတယ်ဗျ သိလား။ အမှန်တော့ အရပ်ပုလွန်းတဲ့အတွက်လည်း ခွာထူထူ မြင့်မြင့် ရှူးဖိနပ်ကို ဝယ်စီးတာပဲ။

သူဟာ သူ့ဖိနပ်တွေကို ပေးရတာ စိတ်မကောင်းဖြစ်ဟန်ရှိတယ်။ သူကိုယ်တိုင်လည်း ဒီဖိနပ်တွေကို သိပ်ပြီးကြိုက်နေပုံပေါ်တယ်။ အဲ

သူ့ဖိနပ်တွေကို ကျုပ်လက်ထဲပေးပြီးချိန်လောက်မှာပဲ ပြဿနာဖြစ်စရာ အမှားတစ်ခုက ဝင်လာတယ်။ ဖြစ်ပုံကသည်လို။

သူက ကျုပ်ကိုမေးတယ်။ "ခင်ဗျား ဘာထပ်လိုချင်သေးလဲ၊ ကျုပ်ရဲ့ ကုတ်အင်္ကျီကိုရော ချွတ်ပေးရဦးမလား"တဲ့။ သူ့ဖိနပ်တွေကို ကိုင်ထားတဲ့ ကျုပ်က "တော်ပြီ၊ မလိုတော့ဘူး"လို့ ပြန်ဖြေတော့မလို စိတ်ကူးနေတုန်းမှာပဲ ကျုပ်နဖူးကို တစ်ခုခုလာထိတယ်။

ကျုပ်ရဲ့ခေါင်းအထက် မျက်နှာကျက်ဆီက ဆင်းလာတဲ့ ပင့်ကူ ပေါက်စကလေးပါ။ ချက်ချင်းပဲမြင်လိုက်ပါတယ်။ အဲဒီတော့ ပင့်ကူကို ခါထုတ်ဖို့ ကျုပ်လက်နဲ့ နဖူးကို ကိုင်လိုက်တယ်။ အဲဒါကို မြင်လိုက်တဲ့ ဟို ခွေးတိရစ္ဆာန် ငတုံးကောင် လော်ရာဆိုက သူ့ကိုကျုပ်က အချက် ပြပြီလို့တွေးပြီး ဟိုလူ့ခေါင်း နောက်စေ့ကို စပန်နာကြီးနဲ့ တအား လွှဲရိုက်လိုက်တယ်။

'ခွပ်'ခနဲမြည်သွားတဲ့ အသံကြီးကို ကျုပ်ကြားလိုက်ရတယ်။ အုတ် နံရံကြီးတစ်ခုနဲ့ တအားကုန်ဆောင့်မိလို့ ထွက်လာတဲ့အသံမျိုးဗျ။ ဟို လူဟာ ကျုပ်ဘက်ကို ငိုက်ခနဲထိုးကျလာတယ်။ တကယ့် အရုပ်ကြိုးပြတ် လဲကျလာတာ။ ကျုပ်ကိုတောင်မှ လှမ်းဖက်တော့မလားလို့ ထင်လိုက် ရတယ်။ ရိုက်ချက်က ပြင်းတော့ သူ့ခမျာ သတိတောင်မရတော့ဘူး။

ထောင့်ထဲမှာရပ်နေတဲ့ မိန်းကလေးက အလန့်တကြား အော်ဟစ်ပြီး ပြေးထွက်လာတယ်။ မြေပြင်ပေါ်မှာ လဲကျနေတဲ့ သူ့လူကို တကြော်ကြော် အော်ခေါ်နေတယ်။ လော်ရာဆို ဆိုတဲ့အရူးဟာ ဘယ်လောက်အထိ

တုံးတယ်ထင်သလဲ။ သူ့လူကို ထိုင်ပြီးငုံ့ကြည့်နေတဲ့ မိန်းကလေးရဲ့ ခေါင်းကို စပန်နာနဲ့ ရိုက်လိုက်ရမလားလို့ မျက်နှာရိပ် မျက်နှာကဲပြပြီး ကျုပ်ကိုမေးနေတယ်။ "ဟေ့ကောင်၊ မင်းရူးနေသလား"လို့ ကျုပ်က ဒေါသတကြီးနဲ့ အော်ပြောတယ်။ "မြန်မြန်လာ၊ ဒီနေရာက အမြန်လစ်မှဖြစ်မှာ" ပြောပြောဆိုဆိုပဲ နှစ်ယောက်သား ဒုန်းစိုင်းပြီး ပြေးလာခဲ့ကြတယ်။

လမ်းသွယ်ထဲကို ပြန်ရောက်တာနဲ့တစ်ပြိုင်နက် ကျုပ်က "ဟေ့ကောင်၊ သောက်ရမ်းပြေးမနေနဲ့၊ ဖြည်းဖြည်းလျှောက်၊ အညောင်းပြေ လမ်းလျှောက်တဲ့ ပုံစံမျိုးဖြစ်အောင်လျှောက်၊ မင်းလုပ်ခဲ့တဲ့ မိုက်မဲမှုတွေဟာ တစ်ရက်စာ လုံလောက်သွားပြီ"လို့ ကျုပ်က လော်ရာဆိုကို ပြောတယ်။ သူက အရှိန်ကို လျှော့ချပြီး ဖြည်းဖြည်းလျှောက်တယ်။ ကျုပ်က ရှူးဖိနပ် တစ်ဖက်စီကို အပေါ်ဘေးအိတ်ကပ်တွေထဲ ထိုးထည့်လာခဲ့တယ်။

လျှောက်လာနေရင်းနဲ့ပဲ ကျုပ်က လော်ရာဆိုကို မြည်တွန်တောက်တီးလာတယ်။ "မင်းဟာ အတော့်ကိုဆိုးတဲ့ ကောင်ပါလားကွာ။ ဟိုကောင်ကို ဘာပြုလို့ အဲသလောက်အထိရိုက်ဖို့ စိတ်ကူးဝင်ရတာလဲ"

"ဟာ၊ ခင်ဗျားက အချက်ပြတော့ ကျွန်တော်လည်း ရိုက်မိတာပေါ့ဗျ"

"မင်းကို ဘယ်လိုအချက်ပြလို့လဲကွ၊ ငါ့နဖူးပေါ်ကို ပင့်ကူ တစ်ကောင်ကျလာလို့ဖယ်တာ"

"အဲဒါကို ကျွန်တော်က ဘယ်လိုလုပ်ပြီး သိမလဲဗျာ"

ကျုပ်သူ့ကို လည်ပင်းညှစ်ပြီး သတ်ပစ်ချင်တဲ့စိတ် ပေါ်လာတယ်။

"မင်းဟာ တကယ့်သောက်ရူးပါလား။ ဒုက္ခပဲ။ ဟိုလူ သေချင်သေသွားမှာ"လို့ ပြောလိုက်တော့ သူက "ဟာ၊ သေတော့သေမှာ မဟုတ်ဘူး၊ ကျွန်တော်ရိုက်ခဲ့တာက အချွန်ဘက်က ရိုက်ခဲ့တာ မဟုတ်ဘူး။ တကယ်လို့ သူ့ကို အသေလုပ်ချင်တဲ့စိတ်ရှိရင် ကျွန်တော်က အချွန်ဘက်နဲ့ရိုက်မှာ"လို့ ပြန်ပြောတယ်။

ကျုပ်သူ့ကို ဘာတစ်ခွန်းမှ ပြန်မပြောပေမယ့် ရင်ထဲမှာတော့ ဒေါပွလို့ကို မဆုံးဘူး။ သူကတော့ ဘာမှမဖြစ်သလိုပဲ ကျုပ်ကိုပြောတယ်။ "ကောင်မလေးက တော်တော်လှတာပဲ၊ အချစ်ကလေးရယ်၊ ငါနဲ့ လိုက်ခဲ့ပါလားကွယ်လို့တောင် ပြောချင်စိတ် ဖြစ်လာတယ်ဗျာ။ သူကလည်း သဘောကျချင်ကျမှာ။ ကျွန်တော်မပြောလိုက်မိတာ နာတယ်ဗျာ"တဲ့။

သူဟာ တစ်လမ်းလုံး ကောင်မလေးသာ လိုက်လာရင် ဘယ်လိုပြောလိုက်မယ်၊ ဘယ်လိုလုပ်လိုက်မယ်ဆိုတာတွေကို ပြောလာတယ်။ ကျုပ်က "မင်းရဲ့ပါးစပ်ပုပ်ကို ပိတ်ထားစမ်း။ ပိတ်မထားရင် ငါမင်းကို သတ်မိလိမ့်မယ်"လို့ ပြောလိုက်တယ်။ သူဟာ ချက်ချင်းပဲ ငြိမ်ကျသွားတယ်။ ကျုပ်တို့ဟာ တံတားပေါ်ကဖြတ်ပြီး ပီယာဇာ ဒယ်လာ လစ်ဘာတာဘက်ကို ရောက်လာတယ်။ သစ်ပင်တွေအောက်မှာ ရှိနေတဲ့ ထိုင်ခုံတွေပေါ်မှာ လူတစ်ယောက်မှ မရှိဘူး။ တိုင်ဘာမြစ်ပေါ်က မြူတွေဟာ တက်လာနေပြီ။

"ဒီနားမှာ ခဏထိုင်ရအောင်ကွာ"လို့ ကျုပ်က သူ့ကိုပြောတယ်။ "ငါရလာတဲ့ ရှူးဖိနပ်တွေကို စီးကြည့်ချင်တယ်"

ကျုပ်တို့ ခုံတန်းလျားတစ်လုံးပေါ်မှာထိုင်ပြီး ပိုက်ဆံအိတ်ကို အရင်ဆုံး



မာတိကာသို့ ▶▶

ဖွင့်ကြည့်တယ်။ လီယာငွေ နှစ်ထောင်ပဲပါတယ်။ အဲဒါကို တစ်ယောက် တစ်ဝက် ခွဲယူလိုက်ကြတယ်။ ပြီးတော့ ကျုပ်က "အမှန်တော့ မင်းဟာ ဘာကိုမှမရသင့်ဘူး။ ဒါပေမဲ့ ငါက တရားမျှတမှုကို လိုလားတဲ့ ကောင် ပါ။ အဲဒီတော့ ပိုက်ဆံအိတ်နဲ့ လက်ပတ်နာရီကို မင်းယူ။ ငါက ရှူးဖိနပ်နဲ့ ဖောင်တိန်ကိုယူမယ်၊ ဘယ့်နှယ်လဲ"လို့ ပြောလိုက်တယ်။

အဲဒီတော့ သူက "ခင်ဗျားလုပ်ပုံက သိပ်တော့မဟန်ဘူးဗျ၊ ကျွန်တော် တစ်ဝက်တော့ ရထိုက်တယ်"လို့ ပြန်ပြောတယ်။ အဲဒါနဲ့ပဲ ကျုပ်တို့ နှစ်ယောက်ဟာ အဝေမတည့်ဖြစ်ပြီး အငြင်းအခုံ ဖြစ်ကြတယ်။ နောက်ဆုံး ကျတော့ ကျုပ်က ရှူးဖိနပ်ကိုယူ၊ သူက ပိုက်ဆံအိတ်ရယ်၊ ဖောင်တိန် ရယ်ကို ယူဖို့ သဘောတူကြတယ်။

ဘယ်လိုပဲ ဖြစ်ဖြစ်ပေါ့လေ။ ကျုပ်က "မင်း ဖောင်တိန်ကိုယူတာ ဘာလုပ်မှာမို့လဲ၊ မင်းက ကိုယ့်နာမည်တောင်မှ ကောင်းကောင်း မရေးတတ် တဲ့ကောင်"လို့ ပြောတော့ သူက "ခင်ဗျားသိချင်ရင် ကျွန်တော်ပြောပြ မယ်။ ကျွန်တော်ဟာ စာလည်းဖတ်တတ်တယ်၊ ရေးလည်းရေးတတ်တယ်၊ ကျွန်တော်က မူလတန်းပညာတော့ သင်ဖူးပါတယ်ဗျ"လို့ ပြန်ပြောတယ်။

ကျုပ် သူ့ကို ဘာမှပြန်မပြောတော့ဘူး။ သူနဲ့ ရန်ဖြစ်နေရတာကို ငြီးငွေ့လာပြီဗျ။ ကျုပ်ဟာ ဖိနပ်တွေကိုချွတ်ပြီး ရလာတဲ့ ဖိနပ်သစ်တွေကို စီးကြည့်တယ်။ ဒါပေမဲ့ ဖိနပ်တွေက သေးနေတော့ ကျုပ် အတော့်ကို စိတ်ပျက်သွားတယ်။ လောကမှာ တခြားပစ္စည်းတွေကို အဆင်ပြေအောင် လုပ်လို့ရပေမယ့် ဖိနပ်သေးနေရင်တော့ လုပ်ရကိုင်ရတာမလွယ်တော့ ဘူး။

ကျုပ်က ချက်ချင်းပဲ လော်ရပ်ဆိုဘက်လှည့်ပြီး "ဒီဖိနပ်တွေက ငါ့ခြေထောက်နဲ့ သေးနေတယ်၊ ဒါပေမယ့် မင်းနဲ့တော့ တော်မှာသေချာတယ်။ အဲဒီတော့ ဖိနပ်ချင်း လဲကြရအောင်ကွာ"လို့ ပြောတော့ သူက လေချွန်လိုက်တယ်။ ပြီးတော့ ဘာပြောတယ်မှတ်လဲ။ "ကျွန်တော်ဟာ ခင်ဗျားပြောသလို အရူးတစ်ယောက် ဖြစ်ချင်လည်း ဖြစ်မှာပေါ့ဗျာ။ ဒါပေမဲ့ ခင်ဗျားထင်သလောက် အူတဲ့ အ,တဲ့ အရူးတစ်ယောက်တော့ မဟုတ်သေးဘူး ဆရာရေ့တဲ့။

"မင်းစကားက ဘာအဓိပ္ပာယ်လဲ"

"အဓိပ္ပာယ်ကတော့ အိပ်ရာဝင်ဖို့ အချိန်ကျနေပြီလို့ ဆိုလိုတာ ပေါ့ဗျာ"တဲ့။ ပြီးတော့ ဟိုကောင်လေးဆီက ရလာတဲ့ သူ့လက်က လက်ပတ်နာရီကို ငုံ့ကြည့်လိုက်ပြီး "ကျွန်တော့်နာရီကတော့ ဆယ့်တစ်နာရီ ခွဲပြီလို့ ပြောနေတယ်။ ခင်ဗျားနာရီကကော"

ကျုပ် ဘာမှပြန်မပြောဘူး။ ရှူးဖိနပ်တွေကို အိတ်ကပ်ထဲပြန်ထည့်ပြီး သူ့နောက်ကလိုက်လာခဲ့တယ်။ ကျုပ်တို့ ဓာတ်ရထားစီးပြီး ပြန်လာခဲ့ကြတယ်။ မျှော်လင့်ချက် မရှိလောက်အောင်ကို တုံးတဲ့ လော်ရာဆိုအကြောင်းကို မတွေးဘဲ မနေနိုင်ဘူး။ ဒီကောင့်ဆီက ဖိနပ်ကို ကျုပ်ဖိနပ်နဲ့ မရရအောင် ဘယ်လိုလဲယူရရင် ကောင်းမလဲဆိုတာကို တစ်လမ်းလုံး စိတ်ကူးလာတယ်။

ဓာတ်ရထားပေါ်က ဆင်းလာခဲ့ပြီးတဲ့နောက် ရပ်ကွက်ထဲဝင်လာတော့ ကျုပ်က ဒီကိစ္စကို ပြန်စတယ်။ "ရှူးဖိနပ်က ငါ့အတွက် သေရေးရှင်ရေးလောက်ကို အရေးကြီးနေတာကွ၊ ရှူးဖိနပ်မရှိဘဲနေဖို့ ငါ့အတွက်



မာတိကာသို့ ▶▶

လုံးဝမဖြစ်နိုင်ဘူးဆိုတာ မင်းသိလျက်သားနဲ့ကွာ။ အခုလို မလုပ်သင့်ပါဘူး။ ငါ့ကို မင်းသောက်မြင်ကပ်လို့ မလဲချင်တောင်မှ ဘုရားသခင်ရဲ့ မျက်နှာကို ထောက်ထားပြီး ကူညီသင့်ပါတယ်”လို့ ကျုပ်က လေအေးနဲ့ ချော့မော့ပြောတယ်။

ကျုပ်တို့ဟာ လူသွားလူလာမရှိတဲ့ လမ်းပေါ်ကို ရောက်လာတယ်။ လော်ရပ်ဆိုက လမ်းဘေးဓာတ်တိုင်တစ်ခုအောက်မှာ သွားရပ်ပြီး သူ့ခြေထောက်ကို မြှောက်ကြည့်လိုက်။ ချကြည့်လိုက်၊ ငုံ့ကြည့်လိုက် လုပ်နေတယ်။ မျက်နှာက ကျုပ်ကို ဒေါသမဖြစ်ဖြစ်အောင် လုပ်နေတယ်ဆိုတာ သိပ်သိသာတယ်။

“သိပ်ကိုကောင်းတဲ့ ရှူးဖိနပ်တွေပဲ။ လှလည်းလှတယ်။ ဒီဖိနပ်တွေကို မြင်တိုင်း ခင်ဗျား မနာလိုတိုရှည် ဖြစ်နေတယ်မဟုတ်လား။ စိတ်တော့ မဆိုးပါနဲ့ဗျာ။ ကျွန်တော် ဒီဖိနပ်တွေကို ပေးလိမ့်မယ်လို့ လုံးဝမထင်လိုက်ပါနဲ့။ ဟဲ...ဟဲ...ဟဲ၊ ဟိုး...ဟိုး...ဟိုး၊ ဟီး...ဟီး...ဟီး၊ ဒီဖိနပ်တွေကိုတော့ မပေးပါဘူးကွယ်၊ မပေးပါဘူးကွယ်၊ ခင်ဗျားအဖြစ်က ဆိုးပါတယ်။ အခုထက်ထိ စီးစရာဖိနပ် မရသေးပါလားကွယ်”

သူက သီချင်းဆိုသလို ရေရွတ်နေတာဗျ။ ကျုပ်ဟာ နှုတ်ခမ်းတွေကို ပြတ်လုမတတ်ကိုက်ပြီး သူ့ကိုကြည့်နေမိတယ်။ ပစ္စတိုထဲမှာသာ ကျည်ဆန်ရှိလို့ကတော့ အခုချက်ချင်းကို ပစ်သတ်မိမှာ သေချာတယ်။ ရှူးဖိနပ်အတွက်ကြောင့်သာ မဟုတ်ဘူး၊ ဒီကောင့်သောက်ခွက်ကို ကြည့်နေရတာ အော့နှလုံး နာလွန်းလို့ဗျ။

ဒီလိုနဲ့ပဲ ကျုပ်တို့အိပ်ရာရှိတဲ့ နေရာကို ရောက်လာတယ်။ ပြတင်း



မာတိကာသို့ ▶▶

ပေါက်ကို ခေါက်ပြီး အသံပေးလိုက်တော့ အစောင့်ဟာ ခါတိုင်းလိုပဲ ညည်းညည်းညူညူနဲ့ ထလာပြီး တံခါးဖွင့်ပေးတယ်။ ကျုပ်တို့အိပ်ရာက မြေအောက်ထပ်ထဲမှာဆိုတော့ လှေကားအတိုင်း ဆင်းလာခဲ့ရတယ်။ အဝင်နားက အိပ်စင်သုံးခုမှာက အစောင့်ရယ်၊ ကျုပ်တို့နဲ့ သက်တူရွယ်တူလောက်ရှိတဲ့ သူ့သားနှစ်ယောက်ရယ် အိပ်ကြတယ်။ သူတို့ရဲ့ ဟိုဘက်အစွန်ဆုံး ထောင့်ထဲမှာတော့ ကျုပ်တို့အိပ်ရာတွေရှိတယ်။

ကျုပ်တို့ဟာ ထုံးစံအတိုင်း အိပ်ခကို အစောင့်လက်ထဲ ထည့်ပေးလိုက်တော့ အစောင့်က မီးခလုတ်ကိုပိတ်ပြီး သူ့အိပ်ရာပေါ် ပြန်ရောက်သွားတယ်။ ကျုပ်တို့ဟာ အမှောင်ထဲမှာ စမ်းတဝါးဝါးနဲ့ ကိုယ့်အိပ်ရာဆီကိုယ် လျှောက်လာကြရတယ်။ အိပ်ရာပေါ်ရောက်လို့ စောင်ပါးလေးလည်း ခြုံပြီးရော ကျုပ်စိတ်ဟာ ရှူးဖိနပ်တွေအပေါ် ရောက်သွားပြန်တယ်။ နောက်ဆုံးမှာတော့ ·ကျုပ်ဟာ ဆုံးဖြတ်ချက်တစ်ခုကို ချလို့ရလာတယ်။

လော်ရာဆိုဟာ အဝတ်တွေမချွတ်ဘဲအိပ်တဲ့အကျင့်ရှိတယ်။ ဒါပေမဲ့ ဒီကောင်ဟာ ရှူးဖိနပ်ကိုတော့ချွတ်ပြီး အိပ်ရာခုတင်နှစ်ခုကြားမှာ ချထားလေ့ရှိတယ်။ အခုလို မှောင်မည်းနေချိန်မှာ အိပ်ရာကအသာကလေးထ၊ သူ့ ရှူးဖိနပ်တွေကို အသာကလေးယူပြီးစီး။ သူ့ဖိနပ်နေရာမှာ ကျုပ်ဖိနပ်ကို ချထားလိုက်။ ပြီးတော့ အိမ်သာဘက်ကို သေးသွားပေါက်သလိုလိုဘာလိုလိုလုပ်ပြီး လျှောက်သွား။

အိမ်သာက မြေအောက်ခန်းရဲ့ အဝင်အထွက် တံခါးပေါက်နားမှာရှိတာ။ အဲဒီတော့ ကျုပ်ရဲ့အစီအစဉ်ဟာ မဆိုးလှဘူးလို့ထင်တယ်။ အမှန်တော့ လော်ရာဆို လက်ချက်ကြောင့် ဟိုလူဟာ သေချင်ရင်

လုံးဝမဖြစ်နိုင်ဘူးဆိုတာ မင်းသိလျက်သားနဲ့ကွာ။ အခုလို မလုပ်သင့်ပါဘူး။ ငါ့ကို မင်းသောက်မြင်ကပ်လို့ မလဲချင်တောင်မှ ဘုရားသခင်ရဲ့ မျက်နှာကို ထောက်ထားပြီး ကူညီသင့်ပါတယ်”လို့ ကျုပ်က လေအေးနဲ့ ချော့မော့ပြောတယ်။

ကျုပ်တို့ဟာ လူသွားလူလာမရှိတဲ့ လမ်းပေါ်ကို ရောက်လာတယ်။ လော်ရပ်ဆိုက လမ်းဘေးဓာတ်တိုင်တစ်ခုအောက်မှာ သွားရပ်ပြီး သူ့ခြေထောက်ကို မြှောက်ကြည့်လိုက်။ ချကြည့်လိုက်၊ ငုံ့ကြည့်လိုက် လုပ်နေတယ်။ မျက်နှာက ကျုပ်ကို ဒေါသမဖြစ်ဖြစ်အောင် လုပ်နေတယ်ဆိုတာ သိပ်သိသာတယ်။

“သိပ်ကိုကောင်းတဲ့ ရှူးဖိနပ်တွေပဲ။ လှလည်းလှတယ်။ ဒီဖိနပ်တွေကို မြင်တိုင်း ခင်ဗျား မနာလိုတိုရှည် ဖြစ်နေတယ်မဟုတ်လား။ စိတ်တော့ မဆိုးပါနဲ့ဗျာ။ ကျွန်တော် ဒီဖိနပ်တွေကို ပေးလိမ့်မယ်လို့ လုံးဝမထင်လိုက်ပါနဲ့။ ဟဲ…ဟဲ…ဟဲ၊ ဟိုး…ဟိုး…ဟိုး၊ ဟီး…ဟီး…ဟီး၊ ဒီဖိနပ်တွေကိုတော့ မပေးပါဘူးကွယ်၊ မပေးပါဘူးကွယ်၊ ခင်ဗျားအဖြစ်က ဆိုးပါတယ်။ အခုထက်ထိ စီးစရာဖိနပ် မရသေးပါလားကွယ်”

သူက သီချင်းဆိုသလို ရေရွတ်နေတာဗျ။ ကျုပ်ဟာ နှုတ်ခမ်းတွေကို ပြတ်လုမတတ်ကိုက်ပြီး သူ့ကိုကြည့်နေမိတယ်။ ပစ္စတိုထဲမှာသာ ကျည်ဆန်ရှိလို့ကတော့ အခုချက်ချင်းကို ပစ်သတ်မိမှာ သေချာတယ်။ ရှူးဖိနပ်အတွက်ကြောင့်သာ မဟုတ်ဘူး၊ ဒီကောင့်သောက်ခွက်ကို ကြည့်နေရတာ အော့နှလုံး နာလွန်းလို့ဗျ။

ဒီလိုနဲ့ပဲ ကျုပ်တို့အိပ်ရာရှိတဲ့ နေရာကို ရောက်လာတယ်။ ပြတင်း

သေသွားနိုင်တယ်ဗျ။ အဲဒီတော့ ဒီကောင်နဲ့ဆက်ပေါင်းနေရင် ကျုပ်အတွက် အန္တရာယ်မကင်းဘူး။ အခုလို အခွင့်အခါသင့်တုန်းမှာ လစ်ထွက်သွားရင် တစ်ခါတည်း ရှင်းသွားနိုင်တယ်။

နောက်တစ်ချက်ကောင်းတာက လော်ရာဆိုဟာ ကျုပ်နာမည်ကို အပြည့်အစုံ မသိဘူးဗျ။ အဲဒီတော့ တကယ်လို့ ရဲက သူ့ကိုဖမ်းမိရင် ဒီအကောင် ကျုပ်နာမည်ကို အတိအကျ ပြောနိုင်မှာမဟုတ်ဘူး။ စကားပြောနေတာထက် လုပ်စရာရှိတာကို ချက်ချင်းထလုပ်လိုက်တာ အကောင်းဆုံး ဖြစ်မယ်လို့ထင်တယ်။

ကျုပ် အိပ်ရာပေါ်က ဆင်းလိုက်တယ်။ အသာကလေး လျှောက်သွားပြီး လော်ရာဆိုရဲ့ ရှူးဖိနပ်ကို ယူစီးလိုက်တယ်။ ကျုပ် ဖိနပ်ကြိုးတွေချည်နေတုန်းမှာပဲအလွန်ပြင်းထန်တဲ့ ရိုက်ချက်တစ်ချက်ဟာ ကျုပ်အပေါ်ကို ကျလာတယ်။ ကံကောင်းပေလို့သာပေါ့။ ကျုပ်က ခေါင်းကိုတိမ်းလိုက်တော့ ရိုက်ချက်က ကျုပ်ရဲ့နားရွက်နား ဝှီးခနဲအော်ပြီး ဖြတ်သွားတယ်။ ပြီးတော့ ပခုံးပေါ်ကိုကျလာတယ်။

တခြားလူမဟုတ်ဘူး။ လော်ရာဆိုပဲ။ မှောင်ထဲမှာ သူ့စပန်နာနဲ့ ကျုပ်ကို ရိုက်လိုက်တာကိုးဗျ။ ပခုံးက စူးခနဲ နာသွားတော့ ကျုပ်ဟာ ဘာကိုမှ မသိတော့ဘူး။ လော်ရာဆိုကိုတအားကုန် လက်သီးနဲ့ ပြန်ထိုးတယ်။ သူကလည်း ကျုပ်ရင်ဘတ်ကို ကုပ်ဆွဲထားပြီး နောက်ထပ်စပန်နာနဲ့ရိုက်ဖို့ အားထုတ်တယ်။ ကျုပ်တို့နှစ်ယောက်ဟာ ထွေးလုံးရစ်ပတ်ဖြစ်ပြီး ကြမ်းပေါ်ကို လဲကျသွားတယ်။

ကျုပ်တို့ သတ်ပုတ်နေတဲ့ အသံတွေကြောင့် အစောင့်နဲ့ သူ့သား

တယ်။ အဲဒီတုန်းမှာ အစောင့်ရဲ့သားတစ်ယောက်က ရဲကိုပြေးခေါ်တယ်။ ရဲက ကျုပ်ကိုမေးလိုက်၊ လော်ရာဆိုကို မေးလိုက်လုပ်ရာက နောက်ဆုံးမှာ ဘာတွေဖြစ်ခဲ့တယ်ဆိုတာ ပေါ်ကုန်တယ်။ ထုံးစံအတိုင်းပဲ ရဲက ကျုပ်တို့ နှစ်ယောက်စလုံးကို ဖမ်းတာပေါ့ဗျာ။

ကျုပ်တို့ကို ရဲစခန်းခေါ်သွားတယ်။ စခန်းရောက်တော့ သူတို့အနေနဲ့ တယ်လီဖုန်းတစ်ချက်လှည့်ရုံနဲ့ ကိစ္စက ပြတ်သွားပြီ။ ချက်ချင်းပဲ ဘော်ဟီးစ် ပန်းခြံဘက်မှာ ရိုက်နှက်လုယက်မှုနဲ့ ပုဒ်မတပ်ပြီး တရားစွဲတယ်။

ကျုပ်က ရိုက်တဲ့လူဟာ ကျုပ်မဟုတ်ဘူး။ လော်ရာဆိုရိုက်တာလို့ ပြောတယ်။ ဒီတစ်ကြိမ်မှာတော့ လော်ရာဆိုဟာ ဘာတစ်ခွန်းမှ မပြောဘူး ဗျ။ "အင်း၊ မင်းတို့နှစ်ယောက်ဟာ တော်တော့်ကိုတော်တဲ့ ကောင်တွေ ပါလား"လို့ တရားသူကြီးကပြောတယ်။ "တကယ့်ကို တော်ကြပါပေတယ် ကွာ။ အတင်းအဓမ္မ လုရုံတင်မကဘူး၊ လူကိုပါ အသေသတ်ဖို့ အားထုတ် ကြတာပဲ"တဲ့။

ဒါပေမဲ့ဗျာ၊ လော်ရာဆိုဆိုတဲ့ အရူးဟာ အတော်ကြီးကို တာဝန် မဲ့တဲ့ကောင်ပါလားဗျာ။ သူလုပ်ပုံကို ကျုပ်မပြောဘဲ မနေနိုင်လို့ ပြောရ ဦးမယ်။ တရားသူကြီးဆီက စကားကို ကြားပြီးတဲ့နောက် ခဏကလေး ကြာတော့ "မနက်ဖြန် ဘာနေ့လဲ"လို့ ဖျတ်ခနဲမေးတယ်။

မနက်ဖြန် သောကြာနေ့လို့ ဘေးနားက လူတစ်ယောက်က ဝင် ပြောတယ်။ အဲဒီတော့ သူက သူ့လက်ဝါးနှစ်ဖက်ကိုပွတ်ပြီး"ဟား ဟန် ကျတာပဲ"လို့ အော်ပြောတယ်။ "ရက်ဂျီနာကိုးလီ ထောင်ထဲမှာ သောကြာ နေ့ဆိုရင် ပဲစွပ်ပြုတ်ကျွေးတယ်၊ သိပ်ကို အရသာရှိတဲ့ စွပ်ပြုတ်ကွ"တဲ့။



မာတိကာသို့ ▶▶

အဲဒီစကားကြားခါမှပဲ ကျုပ် သူ့အကြောင်းကို ပိုပြီးသိလာရတယ်။ ဒီအကောင်ဟာ အရင်က ရက်ဂျီနာကိုးလီထောင်ထဲ ရောက်ခဲ့ဖူးတဲ့ကောင်ပဲ။ ကျုပ်မေးတုန်းကတော့ သူတစ်ခါမှ ထောင်မကျဖူးပါဘူးတဲ့။ အမျိုးမျိုး ကျိန်တွယ်ပြီး ပြောခဲ့တာဗျ သိလား။

ကျုပ် အမှတ်တမဲ့နဲ့ ကျုပ်ခြေထောက်ကို ငုံ့ကြည့်မိတယ်။ ကျုပ် စီးထားတာ လော်ရာဆိုရဲ့ ရှူးဖိနပ်တွေပဲဗျ။ အင်းပေါ့လေ၊ ဘာတွေပဲ ဖြစ်ဖြစ်ပေါ့။ နောက်ဆုံးမှာ ကျုပ်သိပ်ပြီး လိုချင်နေတဲ့ ဟာကိုတော့ ရလိုက်ပြီပေါ့။



တွေ နိုးလာပြီး မီးခလုတ်ကို ဖွင့်လိုက်ကြတယ်။ ကျုပ်က "လူသတ်ကောင်"လို့ အော်နေတယ်။ သူက "သူခိုး"လို့ ဟစ်နေတယ်။ ကျန်တဲ့လူတွေကလည်း ဘာတွေအော်နေမှန်း မသိဘူး။ အော်ဟစ်နေကြတယ်။ ကျုပ်တို့ကိုလည်း ဆွဲဖျဉ်ကြတယ်။

လော်ရာဆိုက အစောင့်ကို စပန်နာနဲ့ရိုက်ဖို့ အားထုတ်တယ်။ အစောင့်ကလည်း ဒေါသသိပ်ကြီးတဲ့လူဆိုတော့ သူ့ကိုရိုက်ဖို့ အားထုတ်တာလည်းသိရော လော်ရာဆိုကိုအနားက ကုလားထိုင်နဲ့ ခေါင်းကိုရိုက်ဖို့ ကြိုးစားတယ်။ လော်ရာဆိုက နောက်ကိုဆုတ်သွားပြီး အုတ်နံရံကိုကျောနဲ့ကပ်ပြီး ရပ်နေတယ်။ လက်ထဲက စပန်နာကိုလည်း ဝှေ့ယမ်းနေတယ်။ ပါးစပ်ကလည်း ပေါက်တတ်ကရတွေ အော်ပြောနေတယ်။

"အနားကိုလာရဲရင် လာခဲ့ကြစမ်း၊ အားလုံးကို သတ်ပစ်မယ်။ ငါ့ကို ဘာများထင်နေကြသလဲ၊ ငါဟာ ရောမမြို့က လူဆိုးကြီးကွ၊ အကုန်လုံး မသာပေါ်ကုန်မယ်ဟေ့"

သူ့ကိုကြည့်ရတာ အရူးတစ်ယောက်နဲ့ တူနေတယ်။ မျက်နှာကလည်း နီရဲနေတယ်။ မျက်လုံးကြီးတွေကလည်း ပြူးနေလိုက်ကြတာ ကျွတ်ထွက်ကျလာမလားလို့ ထင်ရတယ်။ အဲဒီအချိန်တုန်းက ကျုပ်ကိုင်တိုင်လည်း ဒေါသအရမ်းကြီးနေတော့ အော်မိအော်ရာတွေ အော်မိတယ်။ "သတိထားကြ၊ လွန်ခဲ့တဲ့ မိနစ်ပိုင်းလောက်ကပဲ ဒီကောင် လူတစ်ယောက်သတ်လာတယ်။ ဒီအကောင် လူသတ်သမား"

တိုတိုနဲ့လိုရင်း ပြောရရင်တော့ ကျုပ်တို့ဟာ လော်ရာဆိုကို ဝိုင်းပြီးဖမ်းချုပ်နေကြတယ်။ သူကလည်း တအားအော်ပြီး တအားရုန်းကန်နေ

## အပေါင်းအသင်း

'မာရီယာရီဆာ'ဆိုတဲ့ နာမည်ဟာ လူနှစ်ယောက်စာနာမည်နှစ်ခုကို တွဲပြီး မှည့်ထားတဲ့နာမည်ဗျ။ အဲဒီနာမည်ကို မှည့်ထားတဲ့ မိန်းမက ကိုယ်ခန္ဓာမှာရော ကိုယ်ကျင့်တရားမှာရော နှစ်မျိုးစီ ရှိနေတယ်။ သူ့ မျက်နှာက အနီနဲ့အဖြူ အရောင်နှစ်မျိုးရောနေတယ်။ သူ့မျက်နှာက ဝိုင်းဝိုင်းစက်စက်နဲ့ လပြည့်ဝန်းကြီးနဲ့ သိပ်တူတယ်။ သူ့ခန္ဓာကိုယ်အနေ အထားနဲ့ ယှဉ်ကြည့် လိုက်ရင် အချိုးအစားက လုံးဝမကျဘူး။ သူ့ခန္ဓာ ကိုယ်က ခပ်သေးသေးရယ်။ သူလိုင်ါလို အနေအထားဗျ။ အဲ...မျက်နှာကြီး သာ ကွက်ပြီး ကြီးနေတာဗျ။

သူ့မျက်နှာက ဂေါ်ဖီထုပ်ကြီးတစ်ထုပ်နဲ့ တူတာအမှန်ပဲ။ ခင်ဗျား တို့သူ့မျက်နှာကို မြင်လိုက်ရင် သူ့မျက်နှာဟာ မျက်နှာနှစ်ခုလုပ်လို့ရတဲ့



မာတိကာသို့ ▶▶

မျက်နှာပါလားလို့ တွေးမိမှာ သေချာတယ်။ အင်မတန်မှကြီးတဲ့ သူ့မျက်နှာကြီးဟာ အမြဲတမ်း အေးဆေးတည်ငြိမ်နေရုံသာမကဘူး။ အမြဲပြုံးနေတယ်။ သူ့အကျင့်စရိုက်နဲ့ အလွန်ဆန့်ကျင်တဲ့အနေအထားပေါ့ဗျာ။ ကျုပ်သိထားသလောက်ဆိုရင်တော့ သူ့ရဲ့ အကျင့်စရိုက်က သရဲမတစ်ကောင်ရဲ့ အကျင့်စရိုက်မျိုးဗျ။ အတော်ကြီးကို ကြောက်စရာကောင်းတယ်။ အဲဒါကြောင့်မို့ သူ့ပင်ကို အကျင့်စရိုက်ဟာလည်း နှစ်မျိုးနှစ်စားဖြစ်နေတယ်လို့ ဆိုရမယ်ထင်တယ်။

ကျုပ် သူ့ကို နည်းမျိုးစုံ အကုန်သုံးပြီး ပိုးခဲ့ပန်းခဲ့ဖူးတယ်ဗျ။ သိလား။ ပထမတော့ ဟန်ကျတော့မလိုလို ဘာလိုလိုပဲ။ ကျုပ်အပေါ်မှာ လေးစားသလိုလို အရေးတယူလုပ်သလိုလိုနဲ့ နောက်ပိုင်းကျတော့ ကျုပ်ကို ဖုတ်လေတဲ့ငါးပိ ရှိတယ်လို့တောင် မထင်တဲ့ အပေါက်မျိုးချိုးလာတယ်။ ကျုပ်အနေနဲ့ ဘယ်ခံချင်မလဲဗျာ...။ အဲဒီတော့ ရှေ့တစ်ဆင့် ထပ်တိုးပြီး ကြိုးစားမယ်လို့ ဆုံးဖြတ်လိုက်တယ်။

ဒီတစ်ခါတော့ ကျုပ်က အရင်တစ်ခါထက် ပိုပြီး ကြမ်းလိုက်တယ်။ ညမှောင်မှောင်လှေကားအတက်မှာ ကျုပ်က လမ်းခုလတ်က မှောင်ရိပ်ခိုပြီး အလစ်ဝင်အုပ်တဲ့ တိုက်နည်းကို သုံးခဲ့တယ်။ သူ လှေကားက တက်အလာမှာ ကျုပ်က အတင်းဝင်ဖက်ပြီး နမ်းတာ...ဗျ။ ကျုပ်ရခဲ့တဲ့ အမြတ်ကတော့ ပထမ သူ့ရဲ့ကန်လားကျောက်လားနဲ့ တွန်းထိုးရုန်းကန်တဲ့ ဒဏ်ခံရတယ်။ ဒုတိယကတော့ ကျုပ်ပါးကို ဖြန်းခနဲ တစ်ချက်အရိုက်ခံရတာပဲ။

အဲ...အဲဒီနောက်မှာတော့ ကျုပ်ဟာ နည်းသစ်တစ်ခု ထွင်လိုက်တယ်။

သူ့ကိုလုံးဝဂရုမစိုက်တော့တဲ့ ပုံမျိုး လုပ်ထားလိုက်တော့မယ်လို့ ဆုံးဖြတ်လိုက်တယ်။ ဆုံးဖြတ်ထားတဲ့အတိုင်းပဲ သူ့ကိုတွေ့ရင် ကျုပ်က လုံးဝဂရုမစိုက်တော့ဘူး။ လူချင်းဆုံမိရင် မျက်နှာကို လွှဲထားလိုက်တယ်။ ဝေးဝေးက ကွင်းသွားတဲ့အခါ ကွင်းသွားလိုက်တယ်။ ဒါပေမဲ့ အဲသလိုလုပ်မိခါမှ ပိုပြီးဆိုးလာသကိုးဗျ။ သူက ကျုပ်ကို တွေ့ရင် သက်ရှိလူတစ်ယောက်လို့တောင် အသိအမှတ်မပြုတော့သလို ဖြစ်သွားတယ်။

နောက်ဆုံးကျတော့ ကျုပ်ဟာ သူ့ကို အသနားခံတယ်။ တောင်းပန်တယ်။ တိုးလျှိုးတယ်။ မျက်လုံးထဲမှာ မျက်ရည်တွေအပြည့်နဲ့ ကျုပ်ကိုပြန်ချစ်ပါလို့ မေတ္တာရပ်ခံတယ်။ နည်းနည်းလေးမှ မတုံ့ပြန်ဘူးဗျာ။ အဲဒီတော့ ကျုပ်အနေနဲ့ စဉ်းစားမိတယ်။ သူကျုပ်အပေါ်မှာ လုံးဝ စိတ်မဝင်စားတော့ဘူးလား။ ဒါပေမဲ့ အဲသလိုတော့လည်း မဟုတ်ပြန်ဘူးဗျာ။ ကျုပ်က လုံးဝနောက်ဆုတ်တော့မယ်လို့ စိတ်ကူးလိုက်တဲ့အခါမျိုးကျရင် သူက စကားနဲ့တစ်မျိုး၊ အကြည့်နဲ့ တစ်နည်း၊ အမူအရာနဲ့တစ်ဖုံ၊ ကျုပ်ကို ရေလာမြောင်းပေး လုပ်ပြန်တယ်ဗျ။

နောင်အခါကျမှ သိလာရတဲ့အတိုင်း ဆိုရင် မိန်းမတစ်ယောက်အဖို့ သူ့ကို ပိုးနေပန်းနေ သဘောကျနေတဲ့ 'ဘဲ'တွေဟာ ဆွဲကြိုးတွေ လက်ကောက်တွေနဲ့ အတူတူပဲဗျ။ သူ မဝတ်မဆင်ဘဲ နေချင်တဲ့အခါနေမယ်၊ ဝတ်ချင်ဆင်ချင်တဲ့အခါ ဝတ်မယ်ဆင်မယ်ဆိုတဲ့ သဘောရှိတယ်။ အဲဒီတော့ သူ့အပြုအမူတွေနဲ့ပတ်သက်လို့ ကျုပ်အနေနဲ့ မစဉ်းစားလို့ မဖြစ်တော့ဘူး။ "ဒီကိစ္စနဲ့ပတ်သက်လို့ သူလုပ်နေပုံဟာ တစ်မျိုးပဲ။ နောက်ကွယ်မှာ တစ်ခုခုတော့ ရှိပုံရတယ်"လို့ တွေးမိလာတာပေါ့။



မာတိကာသို့ ▶▶

အဲဒီနောက် မကြာခင်မှာပဲ ဒီကိစ္စကို ကျုပ်သိလာရတယ်။ သူက ကျုပ်အပေါ်မှာတင် နန့်တန့်တန့် ပျံတန်တန် လုပ်ပြနေတာ မဟုတ်ပါဘူးဗျ။ ကျုပ်ရဲ့ အခင်ဆုံးသူငယ်ချင်းတစ်ယောက်ဖြစ်တဲ့ အက်တီလီယိုကိုလည်း လုပ်ပြနေတာကိုး။ ဒီအကြောင်း သိလိုက်ရတော့ ကျုပ်ဟာ အရမ်းဒေါသဖြစ်မိတယ်။ ဘာ့ကြောင့် ဒီလောက် ဒေါသဖြစ်ရတာလဲ တဲ့။ အကြောင်းတွေက အများကြီးပဲ။ ပထမအကြောင်းက သူဟာ ဒီအလုပ်ကို ကျုပ်ကို အသိမပေးဘဲ ကျုပ်ရှေ့မှာတင် ပြောင်ပြောင်တင်းတင်းလုပ်နေတာဗျ။ နောက်တစ်ကြောင်းက သူ့ကို အက်တီလီယိုနဲ့ မိတ်ဖွဲ့ပေးခဲ့တာ ကျုပ်ဗျ။

ဒါပေမဲ့ ကျုပ်က အပေါင်းအသင်းအပေါ်မှာ သစ္စာရှိတဲ့ကောင်ပါ။ အပေါင်းအသင်းနဲ့ မိတ်မပျက်ရေးကို ရှေ့တန်းတင်ပြီး ဦးစားပေးတဲ့ကောင်ပါ။ ကျုပ်ဟာ မာရီရာရီဆာကို မေတ္တာရှိနေတာ အမှန်ပါ။ ဒါပေမဲ့ သူနဲ့ အက်တီလီယိုတို့ ကြိုက်နေကြပြီလို့ သိရတဲ့အချိန်ကစပြီး သူဟာ ကျုပ်အတွက် မပြစ်မှားအပ်တဲ့ အရာတစ်ခု ဖြစ်သွားပြီ။ သူက တော့ ကျုပ်ကို ဆက်ပြီး မြှူဆွယ်တဲ့အလုပ် လုပ်ချင်နေတာ သေချာတယ်။ ဒါပေမဲ့ ကျုပ်က ကျုပ်ရဲ့သဘောထားကို သူ နားလည်အောင် တတ်နိုင်သမျှ နည်းလမ်းတွေနဲ့ ပြတယ်။ နောက်ဆုံးတစ်ရက်မှာ သူ့ကို ပြောင်ပြောင်တင်းတင်းပဲ ဖွင့်ပြောလိုက်တယ်။ "ဒီမယ် မာရီယာရီဆာ၊ နင်က မိန်းမဆိုတော့ အပေါင်းအသင်းသူငယ်ချင်းဘဝကို နားလည်မှာ မဟုတ်ဘူး။ အဲဒီတော့ ဒီလိုရှိတယ်ဟာ။ နင် အက်တီလီယိုနဲ့ ချိန်း...ချိန်းပြီး တွဲထွက်နေကြပြီဆိုကတည်းက ငါ့အဖို့ကတော့ နင်ဟာ မရှိတော့ဘူး။ နင့်ကိုလည်း ငါမမြင်တော့ဘူး။ နင့်အသံကိုလည်း ငါ မကြားတော့ဘူး။ အဲဒါပဲ..."လို့။

ကျုပ်က အဲသလို ပြောပြနေတဲ့အချိန်မှာတော့ သူ့ကြည့်ရတာ ကျုပ်ပြောတာမှန်တယ်လို့ အသိအမှတ်ပြုတဲ့ပုံ ပေါ်တယ်။ ဒါပေမဲ့ အဲဒီနောက်မှာတော့ သူဟာ ကျုပ်ကို ပြီတီတီ ရှိသဲ့သဲ့ လုပ်နေတုန်းပဲ ။ ပျံတန်တန် နန့်တန့်တန့်နဲ့ မြူသလို ဆွယ်သလို လုပ်နေတုန်းပဲ ။ အဲဒါကြောင့် ကျုပ်အနေနဲ့ သူ့ကို မတွေ့အောင် ရှောင်နေတော့မယ်လို့ ဆုံးဖြတ်လိုက်တယ်။ ဆုံးဖြတ်တဲ့အတိုင်းလည်း မပျက်မကွက် လိုက်နာပြီး နေလိုက်တယ်။

နောက်ပိုင်းမှာ သူတို့နှစ်ယောက်ဟာ လက်ထပ်ပြီး သူနာပြုဆရာမလုပ်နေတဲ့ သူ့ညီမဆီမှာ သွားနေကြတယ်လို့ ကျုပ်ကြားရတယ်။ ဟို... အက်တီလီယိုဆိုတဲ့ကောင်က ဆယ်ရက်မှာ ကိုးရက်က အလုပ်လက်မဲ့ဖြစ်နေလေ့ရှိတဲ့ကောင်။ ဒါပေမဲ့ အခုတော့ ကုန်စည်သယ်ယူပို့ဆောင်ရေးအလုပ်ဌာနတစ်ခုမှာ ကုန်တင်ကုန်ချအလုပ်သမားအလုပ်ကို ရသွားတယ်တဲ့။

မာရီယာရီဆာကတော့ အရင်တုန်းကလိုပဲ အဝတ်မီးပူတိုက်တဲ့အလုပ်ကို လုပ်တယ်။ ဒါပေမဲ့ အဲဒီအလုပ်က နေ့ခင်းမှာပဲ လုပ်ရတာ။ ဘာပဲဖြစ်ဖြစ်ပေါ့လေ။ အဲဒီသတင်းကြားရတော့ ကျုပ်မှာ သူတို့အတွက် စိတ်သက်သာရာ ရခဲ့တာအမှန်ပဲ ။ ကျုပ်အနေနဲ့ နားလည်ထားတာကတော့ သူတို့ဟာ သိပ်တော့ စီးပွားရေးမှာ အဆင်မပြေလှဘူး။ ဒါကြောင့်မို့ အိမ်ထောင်ရေးမှာလည်း သိပ်ပြီး အဆင်မပြေဘူး။ ဒါပေမဲ့ သစ္စာရှိတဲ့ သူငယ်ချင်းကောင်းတစ်ယောက်အနေနဲ့ ကျုပ်ကြောင့် သူတို့အိမ်ထောင်ရေးကို မပြိုကွဲစေချင်ဘူး။ ဒါကြောင့်မို့လည်း ကျုပ်ရှိနေသေးတယ်ဆိုတာကို

မသိအောင်ဘဲ ဓာတ်မြှုပ်ပြီးနေခဲ့တယ်။ သူငယ်ချင်းဟာ သူငယ်ချင်းပဲပေါ့။ သူငယ်ချင်းဘဝ ခင်မင်ရင်းနှီးတဲ့ အပေါင်းအသင်းဘဝဆိုတာ ရခဲဘိခြင်း မဟုတ်ပါလားဗျ။

ကျုပ်ဟာ ပိုက်ပြင်ပိုက်ဆက် အလုပ်သမားတစ်ယောက်ဗျ။ ပိုက်ပြင် ပိုက်ဆက်သမားတွေဟာ အမြဲတစေ တစ်အိမ်ဆင်းတစ်အိမ်တက် ဝင်ထွက် သွားလာနေရတဲ့ လူစားမျိုးတွေပါ။ တစ်ခါတလေ သွားရင်းလာရင်း နဲ့ သူတို့ လူစုဟာ သူတို့မဝင်ချင်မထွက်ချင်တဲ့နေရာတွေကိုလည်း ဝင်ထွက် ရတဲ့ သဘောက ရှိတတ်တယ်ဗျ။

အဲ...တစ်ရက်မှာပေါ့။ ကျုပ်ဟာ ပိုက်ပြင်ပိုက်ဆက် လက်နက်ကိရိယာ တန်ဆာပလာအိတ်ကို ပခုံးမှာလွယ်ပြီး ကျုပ်ရဲ့ ဖောက်သည်တစ်ယောက် ရဲ့ အိမ်ကို ထွက်လာခဲ့တယ်။ ဗိုလ်ယာရိပက်တာလမ်းပေါ်အတိုင်း လျှောက် သွားနေတုန်းမှာ 'အာနက်စတို...အာနက်စတို' လို့ ကျုပ်နာမည်ကို ခေါ်နေတဲ့ အသံ ကြားလိုက်ရတယ်။ ကျုပ်လှည့်ကြည့်လိုက်တော့ ဟာ...မာရီယာရိုဆာ ဗျ။ ခန္ဓာကိုယ်က သေးသွယ်သွယ်၊ မျက်နှာကြီးက ဝိုင်းဝိုင်း၊ ခါးက သေးသေး၊ တင်ကကြီးကြီးနဲ့။ ကျုပ်စိတ်ထဲမှာ ဟိုတစ်ချိန်က သူ့ကို မြင်တိုင်း ပေါ်လာလေ့ရှိတဲ့ ခံစားမှုအဟောင်းက ဝင်လာတယ်။ ဒါပေမဲ့ ကိုယ့်ကိုယ်ကို စိတ်ထဲက ကြိတ်ပြီး 'မင်းဟာ...သူငယ်ချင်းတစ်ယောက် နော်၊ သူ့လင်ဟာ မင်းရဲ့ အပေါင်းအသင်းတစ်ယောက်၊ သူငယ်ချင်း အချင်းချင်း သူငယ်ချင်းလို ပြုမူဆက်ဆံရမယ်" လို့ သတိပေးနေတယ်။

"အင်း...တို့နှစ်ယောက် ပြန်လည်ဆုံတွေ့ကြရပြန်ပြီပေါ့..." လို့ ကျုပ် က စာသံကဗျာသံပါပါနဲ့ ရေရွတ်လိုက်မိတယ်။

အရက်ကောင်းကင်စာအုပ်တိုက်

မာတိကာသို့ ▶▶

သူဟာ ဈေးဆွဲခြင်းကို လက်မှာချိတ်ထားတယ်။ တောင်းထဲ မှာတော့ ဟင်းသီးဟင်းရွက်တွေနဲ့ အထုပ်တွေ အပြည့်အမောက် ထည့်ထားတယ်။ သူက ကျုပ်ကို ပြုံးပြုံးလေး လုပ်ပြီး ကြည့်နေရာက "ရှင်ကြီးက ကျွန်မကို မမှတ်မိတော့ဘူးပေါ့လေ"လို့ ပြောတယ်။

"ဘာကြောင့် မမှတ်မိရမှာလဲဟယ်။ သိပ်ကို မှတ်မိတာပေါ့။ ငါ ပါးစပ်က တွေ့တွေ့ချင်း 'အင်း...တို့နှစ်ယောက် ပြန်လည်ဆုံတွေ့ကြရ ပြန်ပြီပေါ့လေ..."လို့ ထွက်လာတဲ့စကားကို နင်သတိမထားမိဘူးလား"

"ရှင် ကျွန်မနဲ့ အိမ်ကို ခဏတစ်ဖြုတ်လောက် လိုက်လာစေချင်တယ်" လို့ သူက ပြောတယ်။ "ဒီနေ့မနက်ခင်းပဲ မီးဖိုချောင်ထဲက ပိုက်တစ်ခု ဘာဖြစ်သွားတယ်မသိဘူး။ ပန်းကန်ဆေးရေတွေ ပိတ်ဆို့ကုန်တယ်။ ရှင် လိုက်ပြီး ကြည့်ပေးမယ်မဟုတ်လား"

ကျုပ်ကလည်း "အေးလေ... ပိုက်ပျက်နေတယ်ဆိုရင်တော့ ငါလိုက်ပြီး ကြည့်ပေးရမှာပေါ့"လို့ ပြန်ပြောလိုက်တယ်။ သူက ကျုပ်မျက်နှာကို မျက်လုံးထောင့်ကပ်ပြီး ကြည့်တယ်။ ဟိုတစ်ချိန် ကျုပ်ရဲ့ခေါင်းကို မူး နောက်နောက်ရီဝေဝေဖြစ်ပြီး ချာလပတ်လည်သွားစေခဲ့တဲ့ အကြည့်မျိုးပေါ့။ ပြီးတော့မှ သူက "ဒါဆိုရင် ကျွန်မရဲ့ ဈေးခြင်းတောင်းကိုတော့ ရှင်ဆွဲခဲ့ ရမယ်နော်"တဲ့။ ကျုပ်ဟာ ချက်ချင်းပဲ ထူ,တူတူ အ,တတ မြည်းတစ်ကောင် ဘဝကို ရောက်သွားတယ်။ တနင့်တပိုး လေးလှတဲ့ ကိရိယာအိတ်ကြီးကို ပခုံးတစ်ဖက်မှာ လွယ်ထားတယ်။ လက်တစ်ဖက်က ခဲပိုက်တစ်ချောင်း ကို ကိုင်၊ ကျန်တဲ့တစ်ဖက်က ဈေးခြင်းတောင်းကို ဆွဲလို့။ အဲ...အဲဒီပုံစံ နဲ့ ရှေ့က လျှောက်သွားနေတဲ့ သူ့နောက်က လိုက်သွားခဲ့တယ်။

လျှောက်ရတာကတော့ သိပ်မဝေးပါဘူး။ ဗီယာရီပက်တာလမ်းကို ဖြတ်လိုက်ရင် ရောက်တာပဲ။ အိမ်က သေးသေးကျဉ်းကျဉ်းကလေးဆိုတော့ တိရစ္ဆာန်တွေနေတဲ့ ဂူကလေးတစ်လုံးနဲ့ တူသလိုပဲ။ အိမ်ရှေ့တံခါးငယ်ငယ်ကလေးကို ဖွင့်ပြီး ဝင်သွားလို့ အထဲရောက်တော့ ညစ်ပတ်ပေရေနေတဲ့ လေှကား:တစ်ခု တွေ့ရတယ်။ လှေကားက ခပ်မှောင်မှောင်ခင်ဗျ။ အလင်းရောင်ဆိုလို့ မရှိသလောက်ပါပဲ။ အဲဒီကြားထဲမှာ စိုစိုစွတ်စွတ်နဲ့ အနံ့အသက်တွေကလည်း သိပ်မကောင်းဘူး။

နှစ်ယောက်သား လှေကားက တက်သွားလို့ တစ်ဝက်လောက် အရောက်မှာ သူကနောက်လှည့်ပြီး ကျုပ်ကို ပြုံးစနဲ့နဲ့ မျက်နှာထားနဲ့ မျက်စိထောင့်ကပ်ပြီး ကြည့်တယ်။ "ရှင်မှတ်မိသေးရဲ့လား... လှေကားထစ်ပေါ်မှာ ဝပ်ပြီး ချောင်းခဲ့တာတွေလေ။ ရှင်လုပ်ပုံကြောင့် ကျွန်မ တအားလန့်...လန့်သွားခဲ့တာကော သတိရသေးရဲ့လား။ အင်းပေါ့လေ... ရှင်ကတော့ အခုလောက်ဆိုမေ့ကုန်ပြီပေါ့"လို့ ပြောသဗျ။

ကျုပ်ကတော့ ခပ်မာမာ ခပ်ဆတ်ဆတ်လေသံနဲ့ "ငါတော့ ဘာကိုမှ သတိမရတော့ဘူး မာရီယာရိုဆာ...။ ငါသတိရနေတာဆိုလို့ တစ်ခုပဲရှိတော့တယ်။ အဲဒါဘာလဲဆိုတော့ ငါဟာ အက်တီလီယိုရဲ့ သူငယ်ချင်းဆိုတဲ့ အချက်တစ်ချက်တည်းပဲ။ 'သူငယ်ချင်း'ဆိုတဲ့ အသိဟာ အရာရာတိုင်းရဲ့ ရှေ့မှာရှိနေတယ်"လို့ ကျုပ်က ပြန်ပြောတယ်။ အဲဒီတော့ သူက... "နေစမ်းပါဦး၊ ရှင်ဟာ အက်တီလီယိုရဲ့ သူငယ်ချင်းမဟုတ်ဘူးလို့ ဘယ်အကောင်ဘယ်အကောင်မှက ပြောနေလို့လဲ"တဲ့။

အပေါ်ထပ်မှာ အခန်းငယ်ကလေးသုံးခန်းရှိတယ်။ ခေါင်မိုးနဲ့ ကပ်

နေတာပါပဲ။ အိမ်ဝင်းမျက်နှာစာဘက်မှာ ပြတင်းပေါက်တွေ ဖောက်ထားတယ်။ ဒီအခန်းတွေထဲမှာလည်း အလင်းရောင်ဝင်တဲ့အားက သိပ်နည်းတော့ မှောင်မည်းနေတာပါပဲ။ မီးဖိုချောင်ကတော့ တကယ့်ကျဉ်းကျဉ်းကလေးရယ်၊ ဖင်မလှည့်သာ ခေါင်းမလှည့်သာလို့ ပြောရမယ့် အခန်းမျိုးပါ။ အပြင်ဘက်ကို ထုတ်ထားတဲ့ အဆောင်သေးသေးကလေးက အိမ်သာဗျ။ မီးဖိုချောင်နဲ့ တစ်ဆက်တည်းပဲ။

မာရီယာရိုဆာဟာ ကုလားထိုင်တစ်လုံးပေါ်မှာ ခြေနှစ်ချောင်းကို ခပ်ကားကား ထားပြီး ထိုင်နေတယ်။ သူ့ရင်ခွင်ထဲမှာတော့ အခွံနွှာရမယ့် ပဲသီးတောင့်တွေ ပုံထားတယ်။ ကျုပ်ကတော့ ပခုံးက အိတ်ကြီးကို ကြမ်းပေါ်မှာ ချလိုက်ပြီး ပန်းကန်ဆေးခွက်ဘေးမှာ ဒူးထောက်ထိုင်လိုက်တယ်။ ဘယ်နေရာမှာ ဘာတွေ ဖြစ်နေလဲလို့ ကြည့်တယ်။ ပိုက်က ဆွေးပြီး ပြုတ်နေတာဆိုတော့ ချက်ချင်းပဲမြင်တယ်။ ပိုက်သစ်တစ်လုံး အစားထိုး လဲလိုက်ရင် အလုပ်က ပြီးသွားမှာပါ။ အဲဒီတော့ကျုပ်က သူ့ဘက်လှည့် ပြီး “မြင်တဲ့အတိုင်းပဲ ပိုက်သစ်တပ်ပေးရမှာ...။ အဲဒီအတွက် ငွေပေးစရာရှိရဲ့လား”လို့ မေးတယ်။

“ရှင် ပြော...ပြောနေတဲ့ ‘သူငယ်ချင်း’ဆိုတာ ဘယ်ရောက်သွားပြီလဲ’ တဲ့။ သူက မေးတယ်။

‘ဩော်...အင်း...အင်းပေါ့လေ...။ ဒါဆိုရင်တော့လည်း...’လို့ ကျုပ်က ရေရွတ်ပြီး သက်ပြင်းတစ်ချက် ချလိုက်တယ်။ “အခကြေးငွေ မယူဘဲ ငါ ပိုက်သစ်တစ်ခု လဲပေးခဲ့မယ်လေ...ဒါပေမဲ့ နင်က တစ်ခုတော့ပေး...။ ငါ့ကို အနမ်းလေးတစ်ချက်တော့ပေးပါ”

"ဒီလိုဆိုရင် စောစောက ရှင်ပြောခဲ့တဲ့ 'သူငယ်ချင်း'ဆိုတာ ဘယ်လိုဖြစ်သွားပြီလဲ"တဲ့။

ကျုပ်ဟာ နှုတ်ခမ်းကို ကိုက်ပြီး စဉ်းစားနေမိတယ်။ ဒါပေမဲ့ ဘာတစ်ခွန်းမှတော့ ပြန်မပြောပါဘူး။ အိတ်ထဲက ကိရိယာတန်ဆာပလာတွေကို ထုတ်တယ်။ ပိုက်ဆေးကို ဖြုတ်ပစ်လိုက်တယ်။ ဂဟေဆော်မီးခွက်ကို ထုတ်ပြီး ခါတ်ဆီနည်းနည်းထည့်တယ်။ အဲဒီအချိန်ထိ ကျုပ်ဟာ ရေငုံနှုတ်ပိတ်ပါ။ အဲဒီအခိုက်မှာပဲ သူ့ဆီက စကားပြောသံကြားလိုက်ရတယ်။ "ရှင်ဟာ အက်တီလီယိုရဲ့ သူငယ်ချင်းအစစ်တစ်ယောက်ဆိုတာ အမှန်ပဲလား"တဲ့။

ကျုပ်က သူ့ကို နောက်ပြန်လှည့်ကြည့်တယ်။ သူက မျက်လွှာကို ချပြီး ပြုံးနေတယ်။ သူ့အပြုံးက ချိုမြနေတာပဲ။ ကျုပ်ရင်ကို နုန်းချိချိဖြစ်စေတဲ့ အပြုံးပါ။ ကျုပ်က ချက်ချင်းပဲ 'တကယ့် သူငယ်ချင်းစစ်ပေါ့ဟာ" လို့ ပြန်ဖြေလိုက်တယ်။

"ဒီလိုဆိုရင်တော့ ရှင်နဲ့ ကျွန်မပြောစရာရှိတဲ့စကားတွေကို လွတ်လွတ်လပ်လပ်ပြောလို့ရမှာပေါ့"လို့ စကားစတယ်။ "ကျွန်မအနေနဲ့ ရှင်ဟာ အက်တီလီယိုရဲ့အကြောင်းတွေကို ကောင်းကောင်းကြီး သိတဲ့လူလို့ ယူဆတယ်။ အဲဒီတော့ သူနဲ့ပတ်သက်ပြီး အခု ပြောပြမယ့် ကျွန်မရဲ့စကား မှန်မမှန်ကို ရှင်က ပြောပြစေချင်တယ်"တဲ့။

ကျုပ်က သူပြောစရာရှိတာ မှန်သမျှ ပြောပြဖို့ ပြောလိုက်တယ်။ ချထားတဲ့ ဂဟေဆော်မီးခွက်ကိုလည်း မီးထွန်းလိုက်ပြီး မီးတောက်ကို ကျုပ်လိုချင် သလောက် ပြုပြင်ပေးနေတယ်။ သူကလည်း သူ့စကားကို

ဆက်တယ်။ ဥပမာဆိုပါတော့ ရှင့်သူငယ်ချင်းဟာ အခု သူ ရထားတဲ့အလုပ်နဲ့ သင့်တော်ရဲ့လား။ သူ ရထားတဲ့အလုပ်က ကုန်တင်ကုန်ချအလုပ်လေ”တဲ့။

“အခု လက်ရှိလုပ်နေတဲ့အလုပ်နဲ့ တော်မတော် သိချင်တယ်ဆိုပါတော့…ဟုတ်လား”

“အင်း…ဟုတ်တယ်၊ ကျွန်မကတော့ ဒီအလုပ်ကို အသက်မွေးဝမ်းကျောင်း ပြုနိုင်တဲ့ အလုပ်လို့ မထင်ဘူး။ ကျွန်မက သူ့ကို လူနာစောင့်တစ်ယောက် ဖြစ်လာအောင် လေ့ကျင့်ပေးဖို့ ကြိုးစားခဲ့တယ်။ ကျွန်မညီမ သူနာပြုဆရာမက သူ့ကို ပိုလစ်ကလစ်နီကိုမှာ အလုပ်ရအောင် ကူညီနိုင်တာဆိုတော့…”

သူက အဲသလို ပြောနေခိုက်မှာ ကျုပ်ဟာ ပိုက်ဟောင်းနေရာမှာ ပိုက်သစ်ကို တပ်နေတယ်။။ ပြီးတော့ ဂဟေဆော်မီးခွက်ကို လက်တစ်ဖက်နဲ့ ကိုင်ထားရင်းက ပြန်မေးတယ်။ အမှန်အတိုင်း ပြောရမလား၊ ဒါမှမဟုတ် အကြိုက်လိုက်ပြီး အဆင်ပြေအောင် ပြောရမှာလား”လို့။

“ကျွန်မကတော့ အမှန်အတိုင်းပဲ သိချင်တယ်”

“အင်း…ဒါဆိုရင်တော့ ငါက အက်တီလီယိုရဲ့ သူငယ်ချင်းတစ်ယောက်ဖြစ်နေပေမယ့် သူ့ရဲ့ အားနည်းချက်တွေကိုတော့ အရှိအတိုင်း ပြောရတော့မှာပဲ။ ပထမအားနည်းချက်က ဒီအကောင်ဟာ ပျင်းတယ်ဟ…”

“ပျင်းတယ်…ဟုတ်လား”

ကျုပ်ဟာ ခဲစလေးတစ်စ ယူပြီး ပိုက်မှာကပ်လိုက်တယ်။ ဂဟေဆော်မီးနဲ့ မှုတ်ပြီး ဂဟေဆော်လိုက်တယ်။ မီးဖိုဆီက တရှူးရှူးအသံဟာ မြည်

နေတယ်။ ကျုပ်ဟာ သူကြားနိုင်လောက်အောင် အသံကို မြှင့်ပြီး အော်ပြောနေရတယ်။

“ဟုတ်တယ်…ဒီကောင်က လူပျင်းပဲ၊ အဲဒီတော့ လူပျင်းတစ်ယောက်ရဲ့ ဒဏ်ကို ခံနိုင်အောင် လေ့ကျင့်ထားဖို့တော့ မင်းဘက်က လိုလိမ့်မယ်။ ငါကတော့ အလုပ်ကို ကြိုးစားပမ်းစား လုပ်တတ်တဲ့ကောင်။ သူက အဲသလို အစားထဲက မဟုတ်ဘူး။ သူက အိပ်ရာက ထရင်လည်း နောက်ကျမှ ထချင်တယ်။ ဘာကိုမှ မည်မည်ရရ မလုပ်ဘဲ ဟိုယောင်ယောင် သည်ယောင်ယောင် လုပ်နေချင်တယ်။ လက်ဖက်ရည်ဆိုင် သွားမယ်။ အကြာကြီး ထိုင်ပြီး သတင်းစာဖတ်မယ်၊ အားကစားသတင်းတွေကို တွေ့တဲ့လူနဲ့ ဆွေးနွေးမယ်၊ ဝေဖန်မယ်၊ အဲဒီတော့ အခု သူရထားတဲ့ အလုပ်က သူ့အဖို့တော့ ကိုက်တယ်။ လူနာစောင့်အလုပ်ကျတော့တာဝန်ယူ ရတဲ့အလုပ် မဟုတ်လား။ အဲဒါမျိုးကျတော့ သူနဲ့က လုံးဝမကိုက်ဘူး”

“ရှင်ပြောသလိုဆိုရင်တော့ အခု သူ့အလုပ်ရထားတယ်ဆိုတာတောင် ဟုတ်ပါ့မလား မသိဘူး”လို့ သူက ပြန်ပြောတယ်။ “သူက အလုပ်သွားမယ်ဆိုပြီး ထွက်ထွက်သွားနေပေမယ့် အခုအချိန်ထိ လုပ်ခငွေကို တစ်ပြားတစ်ချပ်တောင် မမြင်ဖူးသေးဘူး။ အခုဆိုရင် ကျွန်မအနေနဲ့ သူငါ့ကို လိမ်ပြောနေတာများလားလို့တောင် တွေးနေမိပြီ၊ ရှင်ကော ဘယ်လိုထင်လဲ”

“အင်း…ဒီအကောင်က လူလိမ်ကြီးတစ်ယောက်ပဲ။ လိမ်တာမှ တကယ့် ကို ပိပိရိရိ လိမ်တာ”

“ကျွန်မလည်း အဲသလိုပဲ ထင်နေတာ ကြာပြီ။ ဒါပေမဲ့ စဉ်းစားစရာ ရှိနေတာက သူ့အလုပ်ကို မသွားရင် ဘယ်ကို သွားနေတာလဲ။ ရှင်ပြော

သလို လက်ဖက်ရည်ဆိုင်၊ စားသောက်ဆိုင်တွေကို လျှောက်သွားနေတာလား၊ ဒါမှမဟုတ်လည်း တခြားသွားစရာနေရာ ရှိနေသလား။ အိမ်ကထွက်ရင်တော့ တကယ့်အရေးတကြီးပဲ။ အလုပ်လည်း သိပ်များနေတဲ့ပုံမျိုးပဲ"

သူဟာ စကားတပြောပြောနဲ့ပဲစင်ပေါ်ကဒယ်အိုးကို သွားယူပြီး သူသင်ထားတဲ့ ပဲသီးတွေကိုထည့်တယ်။ ကျုပ်က နောက်လှည့်ပြီးသူ့ကို တစ်ချက်လှည့်ကြည့်တယ်။ သူကတော့ အပြုံးမပျက် စကားကိုဆက်ပြောနေတယ်။ "ကျွန်မထင်နေတာဘာလဲသိလား၊ ဒီကိစ္စထဲမှာ မိန်းမတစ်ယောက် ပါနေပြီလို့ထင်တယ်။ ရှင်ကော ဘယ်လိုထင်သလဲ။ ရှင်က သူ့အကြောင်း သိတဲ့လူဆိုတော့ ကျွန်မထင်တာ ဘယ်လိုသဘောရသလဲ၊ မှန်မယ်လို့ ထင်သလား"

ကျုပ်ရဲ့ခန္ဓာကိုယ်အတွင်းထဲက အသံတစ်သံကတော့ ကျုပ်ကို သတိပေးနေတယ်။ "ဟေ့ အာနက်စတို သတိထားနော်၊ စဉ်းစားပြီးလုပ်၊ မင့်ရှေ့မှာ ထောင်ချောက်တစ်ခုကတော့ ရှိနေပြီ"တဲ့။ ဒါပေမယ့် သူ့ယောက်ျားအကြောင်း အခုလိုလေသံမျိုးနဲ့ မကောင်းပြောနေတာကို ကြားနေရတော့ ကျုပ်အတွက် မျှော်လင့်ချက်တွေရှိလာသလိုလို ဖြစ်လာတယ်။ အဲဒီတော့ ကျုပ်ပါးစပ်ကို ကျုပ်မထိန်းနိုင်တော့ဘူး။ သူမေးထားတဲ့ မေးခွန်းကိုဖြေမိတယ်။ "မင်းပြောတာ မှန်တယ်ဟ။ မိန်းမကိစ္စကတော့ ပါမှာပဲ။ ဒီကောင်က မိန်းမဆိုရင် ချောချော မချောချော၊ ကြီးချင်ကြီး ငယ်ချင်ငယ် ရွေးတာမဟုတ်ဘူး၊ အဲဒါကော နင်မသိဘူးလား"

ကျုပ်ဟာ ထိုင်ရာက ထရပ်လိုက်တယ်။ မာရီယာရိုဆာကလည်း



မာတိကာသို့

ထိုင်နေရာက ထလာတယ်။ သူ့ဂါဝန်မှာကပ်နေတဲ့ ပဲအခွံတွေကို ခါပစ်တယ်။ နောက်တော့ ပန်းကန်ဆေးတဲ့ ကြွေခွက်ဆီသွားပြီး သူ့လက်ထဲက ပဲသီးတွေထည့်ထားတဲ့ ဒယ်အိုးကို ရေဘုံဘိုင်အောက်မှာ ထိုးခံထားတယ်။ ပြီးတော့ ရေပိုက်ကို ဖွင့်လိုက်တယ်။ ကျုပ်က သူ့နောက်မှာ သွားရပ်တယ်။ ကျုပ်ရဲ့ လက်နှစ်ဖက်နဲ့ သူ့ခါးသေးသွယ်သွယ်ကို ဖက်လိုက်တယ်။

"ဟုတ်တယ် မာရီယာရိုဆာ၊ နင်ထင်တာတွေ မလွဲဘူး။ ဒီအကောင် အမ်မီလီယာဆီကို နေ့စဉ်သွားနေတယ်။ ညနေစောင်းရင် သူ အဲဒီကို ရောက်လာတာပဲ။ သူလာရင် အဝတ်လျှော်ဆိုင်ရဲ့ အပြင်ဘက်ကစောင့်တယ်။ အမ်မီလီယာထွက်လာရင် သူနဲ့အတူတူ အိမ်ကိုပြန်ကြတယ်။ ကဲ အခုဆိုရင် ဇာတ်လမ်းတစ်ခုလုံးကို နင်သိသွားပြီ။ နင်ဘယ်လိုလုပ်မလဲ"

မာရီမာရိုဆာက မျက်နှာကို မသိမသာကလေးလှည့်ပြီး ကျုပ်ကို ကြည့်တယ်။ အပြုံးလည်းမပျက်ဘူး။ ပြီးတော့ "ဒီမယ် အာနက်စတို၊ ရှင်ပြောတော့ ရှင်ဟာ သူ့ရဲ့သူငယ်ချင်းဆို၊ ကဲ ကဲ ကျွန်မကို လွှတ်လိုက်ပါ"လို့ ပြောတယ်။

ကျုပ်ပေးလိုက်တဲ့ အဖြေကတော့ သူ့တစ်ကိုယ်လုံးကို ကျုပ်လက်နှစ်ဖက်နဲ့ မိမိရရ ပွေ့မိဖက်မိအောင် အတင်းဖက်တာပဲ။ ဒါပေမယ့် သူက အတင်းအဓမ္မ အကြောက်အကန် ပြန်တွန်းပြီး ခက်ထန်တင်းမာတဲ့ လေသံနဲ့ "ကဲ၊ ရှင်အခု ပိုက်ပြင်ပြီးသွားပြီ မဟုတ်လား၊ မြန်မြန်ကြွရင်ကောင်း လိမ့်မယ်"လို့ပြောတယ်။ ကျုပ်ဟာ ကျုပ်နှုတ်ခမ်းကိုကိုက်ပြီး သူ့ကို ပြန်ပြောလိုက်တယ်။

"အေး၊ ဟုတ်တယ်၊ နင်ပြောသလိုမှန်တယ်။ ဒါပေမဲ့ နင်က

ငါ့ခေါင်းကို ချာလည်ချာလည်ဖြစ်သွားအောင် အမြဲလုပ်တယ်။ အမှန်တော့ ငါ့အနေနဲ့ အချိန်ရှိသမျှငါဟာ အက်တီလီယိုရဲ့ သူငယ်ချင်းပဲ။ မာရီယာ ရိုဆာဟာ ငါ့သူငယ်ချင်းရဲ့မယားပါလားလို့ အမြဲသတိရနေသင့်တယ်"

ဒီစကားတွေကို ပြောနေချိန်မှာ ကျုပ်စိတ်ဟာ အတော်ကလေး တည်ငြိမ်သွားတယ်။ ဒါကြောင့်မို့ ကျုပ်ဟာ ကိရိယာတန်ဆာပလာတွေ ကို အိတ်ထဲပြန်ထည့်ပြီး အိမ်ထဲကထွက်ဖို့ လုပ်ပါတယ်။ သူ့ကို နှုတ်ဆက် တော့မလို ဟန်ပြင်နေတုန်းမှာပဲ မီးဖိုခန်းတံခါးဟာ ဗြုန်းခနဲပွင့်သွားပြီး အက်တီလီယိုတစ်ယောက် ဘွားခနဲ ပေါ်လာတယ်။

သူက ကျုပ်ကိုတွေ့တော့ ဝမ်းသာသွားတယ်။ အားရပါးရ နှုတ် ဆက်တယ်။ "ဟော့ကောင်ကြီး အာနက်စတို၊ မင်းဘယ်တုန်းကရောက်တာ တုန်း" တဲ့။ ကျုပ်ကလည်း "မာရီယာရိုဆာက ပိုက်ပြင်ပေးဖို့ခေါ်လို့ ရောက်လာတာကွ။ အခု ပြင်ပြီးသွားပါပြီ။ ပိုက်သစ်တပ်ပေးခဲ့တယ်" လို့ ပြောပြလိုက်တယ်။ သူကလည်း "ကျေးဇူးပဲကွာ၊ သိပ်ကိုကျေးဇူးတင် တယ်" တဲ့။ အဲဒီတုန်းမှာပဲ မာရီယာရိုဆာက "အက်တီလီယို" လို့အသံပေး လိုက်တဲ့အတွက် ကျုပ်တို့နှစ်ယောက်စလုံး ပြိုင်တူလှည့်ကြည့်မိတယ်။

မာရီယာရိုဆာဟာ မီးဖိုဘေးမှာ ရပ်နေတယ်။ မျက်နှာကလည်း ပြုံးလို့။ လက်တစ်ဖက်ကိုတော့ မီးဖိုဘေး တစ်ဖက်ပေါ်မှာ တင်ထားတယ်။ သူက ရုတ်တရက် အသံကိုမြှင့်လိုက်ပြီး "ဒီမယ် အက်တီလီယို၊ အာနက် စတို ကပြောတယ်၊ ရှင်ဟာလူပျင်းတဲ့။ အလုပ်ကို လက်ကြောတင်းအောင် မလုပ်ချင်ဘူးတဲ့။ ပြီးတော့…"

သူ့စကားမဆုံးခင် ဟိုအကောင် အက်တီလီယိုက "မင်း အဲသလိုပဲ



မာတိကာသို့ ▶▶

ပြောသလား”လို့ ကျုပ်ကိုလှမ်းမေးတယ်။

“ပြီးတော့ ရှင်ဟာ လူလိမ်လူညာတစ်ယောက်လို့ သူကပြောတယ်။ ရှင်ကုန်တင်ကုန်ချ အလုပ်ရနေတယ်ဆိုတာကို ကျွန်မက ဟုတ်ချင်မှ ဟုတ်မှာလို့ သံသယဝင်နေတယ် မဟုတ်လား။ အဲသလို သံသယဖြစ်နေတာလည်း မှန်တယ်တဲ့”

“မင်း အဲသလိုပဲပြောသလား”လို့ ဟိုအကောင်က ကြားဖြတ်မေးတယ်။ မာရီယာရိုဆာကလည်း သူ့စကားကို ဆက်တယ်။ “ပြီးတော့ သူကပြောတယ်။ ရှင်ဟာ အမ်မီလီယာဆီကို နေ့စဉ်သွားနေတယ်တဲ့။ ရှင်ဟာ အင်မီလီယာနဲ့ ရှုပ်နေတာအမှန်ပဲတဲ့။ အဲဒီတော့ ရှင်လုပ်နေပုံတွေ ကောင်း ရဲ့လား။ ကျွန်မက တစ်နေကုန်တစ်နေခန်း တစ်အိမ်တက်ဆင်းသွားပြီး အဝတ်တွေ မီးပူတိုက်ပေးနေရတဲ့အချိန်မှာ ရှင်က အင်မီလီယာဆိုတဲ့ ကောင်မနဲ့ အလေလိုက်ပြီး အပျော်ကြူးနေတယ်။ ပြီးတော့ ကျွန်မကျတော့ အလုပ်ထွက်လုပ်သလေး ဘာလေးနဲ့ လိမ်ညာထားတယ်။ ရှင်လုပ်ပုံဟာ အတော်ကို ယုတ်မာတာပဲ။ အခု ကျွန်မပြောနေတာတွေကို ရှင်ငြင်းရဲသလား။ ဒီမှာ မြင်လား။ ဟောဒီ အက်နက်စတိုဟာ ရှင့်သူငယ်ချင်း။ ရှင့်အကြောင်း ကောင်းကောင်းသိနေတဲ့လူ။ သူက အကုန်လုံး ပြန်ပြောပြလို့ ကျွန်မသိထားပြီးပြီ”တဲ့။

မာရီယာရိုဆာရဲ့ အသံကတော့ အေးအေးဆေးဆေးပဲဗျ သိလား။ ဒါပေမယ့် ကျုပ်မှာက ဒုက္ခ။ တကယ့်ချောက်ပေါက်နဲ့ တိုးနေပြီလေဗျာ။ ကျုပ်အနေနဲ့ အရူးမတစ်ယောက်အပေါ်မှာ ယုံကြည်ပြီး စကားတွေအကုန် ပြောခဲ့မိပြီ။ ကျွံသွားတဲ့စကားကို ကျုပ် ဘယ်လိုလုပ်ပြီး နုတ်လို့ရတော့

မှာလဲ။

သူ့စကားလည်းဆုံးရော ပါ့အကောင် အက်တီလီယိုဟာ မျက်စိမျက်နှာ အပျက်ပျက်နဲ့ ကျုပ်ဆီကိုကပ်လာတယ်။ "မင်း အဲသလိုပဲပြောသလား"လို့လည်း မေးတယ်။ အဲဒီတုန်းမှာပဲ မာရီယာရိဆာဟာ မီးဖိုပေါ်တင်ထားတဲ့ သံချောင်းကြီးကို ဆတ်ခနဲ ကောက်ပြီး အက်တီလီယိုရဲ့ခေါင်းကို တအားလွှဲရိုက်လိုက်တယ်။

ရိုက်ချက်ကလည်းပြင်း၊ ချိန်သားကလည်းကောင်းတော့ ဟို အကောင်အက်တီလီယိုအနေနဲ့ ခေါင်းအငုံ့သာမမြန်ရင် ပွဲချင်းပြီးအသက်ထွက်မှာသေချာတယ်။ အဲဒီနောက်တော့ ဘာတွေဖြစ်ကုန်တယ်ဆိုတာ ကျုပ်လည်းကောင်းကောင်းမသိတော့ဘူး။ မာရီယာရိဆာဟာ မီးဖိုကြီးပေါ်မှာ တင်ထားတဲ့ပစ္စည်းတွေ တစ်ခုပြီးတစ်ခုကောက်ယူပြီး အက်တီလီယိုကို ပေါက်တော့တာပဲ။ ပစ္စည်းတွေက လေးလံတဲ့ပစ္စည်းတွေဗျ။ ထိလိုက် မှန်လိုက်ရင်လည်းအန္တရာယ်က တယ်ပြီးမသေးလှဘူး။ သူပစ်နေတဲ့ ပစ္စည်းတွေထဲမှာ ဓားတွေလည်းပါတယ်။ မုန့်ကြိတ်တဲ့ တုံးတွေလည်းပါတယ်။ အိုးတွေကလည်းမျိုးစုံပဲ။ ဒယ်အိုးတွေတောင် ပါသေးတယ်။

အက်တီလီယိုဟာ ပထမ နှစ်ခါသုံးခါလောက်တော့ ရှောင်နိုင်တိမ်းနိုင်ဖို့ အားထုတ်နေသေးတယ်။ ဒါပေမဲ့ ရှောင်လို့မလွယ်မှန်းလည်းသိရော တံခါးကိုဖွင့်ပြီး ထွက်ပြေးပါလေရော။ ကျုပ်ကော ဘာကောင်မို့ရင်ဆိုင်ရဲမှာလဲဗျာ။ လက်ထဲက နှစ်ကိုက်သုံးကိုက်လောက်ရှိတဲ့ ပိုက်လုံးကိုပစ်ချထားခဲ့ပြီး လှေကားက ဒရောသောပါး ဆင်းပြေးလာခဲ့တယ်။ အပြင်ရောက်တော့ သူကရှေ့က၊ ကျုပ်ကနောက်က။ ဆက်ပြေးနေကြတုန်းပဲ၊

ပြေးနေရင်းကပဲ အက်တီလီယိုဟာ ကျုပ်ကို ကြိမ်းမောင်းသွားနေတယ်။ "မင်း ငါ့အိမ်ကို ဘယ်တော့မှ မလာနဲ့၊ မင်းမျက်နှာကို ငါ မကြည့်ချင်ဘူး။ မင်းကို ဒီအိမ်မှာ နောက်တစ်ခါတွေ့ရင် ငါသတ်မယ် ဟော့၊ သိလား"တဲ့။

ကျုပ်အဖို့တော့ ဘာကိုမှသိပ်ပြီး ဂရုမစိုက်နိုင်ဘူး။ မြို့လယ်တံတားကိုဖြတ်ပြီး ပီယာဇာ ဒယ်လာ ကစ်ဘာတာ ပန်းခြံထဲရောက်လို့ ခုံတန်းတစ်လုံးပေါ် ထိုင်မိတော့မှပဲ ဘေးကင်းပြီလို့ထင်မိတယ်။ ကျုပ်ဟာ ခုံတန်းပေါ်ထိုင်ပြီး အမောဖြေရင်းနဲ့ စဉ်းစားမိတယ်။ ကျုပ် ဘာ့ကြောင့် ဒီစကားတွေကို ပြောမိတာလဲ။ ရှင်းပါတယ်။ အက်တီလီယိုနဲ့ ကျုပ်နဲ့ဟာ သိပ်ခင်ခဲ့တဲ့ သူငယ်ချင်းဆိုတော့ သူ့အကြောင်းကို ကျုပ်က ကောင်းကောင်းကြီး သိနေတာကိုးဗျ။ အဲဒါကြောင့်လည်း ပြောမိခဲ့တာပါ။ အမှန်တော့ အက်တီလီယိုရဲ့ အကျင့်စရိုက်ဟာ ကျုပ်ပြောခဲ့တဲ့ အတိုင်းပဲ၊ မလွဲပါဘူး။

ဒါပေမဲ့ဗျာ။

ကျုပ်ဟာ ကိုယ့်ဘာသာကိုယ်ကျိတ်ပြီး ဒီနေ့ဒီရက် ဒီအချိန်ကစပြီး ငါဘယ်အကောင်နဲ့မှ အပေါင်းအသင်းမလုပ်တော့ဘူးလို့ ကျိန်လိုက်တယ်ဗျာ။



## မျက်မှန်

နက်စ်ပိုလာဟာ မိန်းမဝတ်အင်္ကျီတွေချုပ်တဲ့ စက်ချုပ်သမကြီးပါ။ အရပ်က ပုအိုင့်အိုင့်ဖြစ်နေရတဲ့အထဲ မျက်နှာက အဝါရောင်နဲ့ အမည်း ရောင်ရောနေတော့ လူတွေကသူ့ကို နက်စ်ပိုလာလို့ ခေါ်လာကြတယ်။ 'နက်စ်ပိုလာ'ဆိုတဲ့ စကားလုံးရဲ့ အနက်အဓိပ္ပာယ်က 'ပန်းသီးရိုင်း'တဲ့။ သူ့မျက်နှာက မှည့်ဝင်းနေတဲ့ ပန်းသီးရိုင်းတစ်လုံးနဲ့ တူတာကိုး။ သူ့မျက်လုံးနဲ့ မျက်ခုံးတွေက အနက်ရောင်ဖြစ်ပေမယ့် သူ့ပါးနှစ်ဖက်၊ သူ့နဖူးနဲ့ သူ့နှာခေါင်းတွေကျတော့ အဝါရောင်ဖြစ်နေတယ်။

နက်စ်ပိုလာ ဝတ်စားဆင်ယင်ပုံက သိပ်ကိုဖြစ်ကတတ်ဆန်းနိုင်တော့ လမ်းပေါ်မှာ ကလေးတွေ တရွတ်သီထိုးဆွဲ ဆွဲလာလေ့ရှိတဲ့ စုတ်စုတ်ပြတ် ပြတ် အရုပ်တစ်ရုပ်လိုပဲ တူနေတယ်။ အင်္ကျီဆိုရင် ကျပ်သပ်ပြီး သူ့



မာတိကာသို့ ▸▸

ကိုယ်လုံးကို ပတ်ထုပ်ထားသလို ဖြစ်နေတယ်။ စကတ်ကလည်း သိပ်တိုလွန်းအားကြီးတော့ သူ့ရဲ့ခြေသလုံး တုတ်တုတ်ကြီးတွေကို မြင်နေရတယ်။

နက်စ်ပိုလာဟာ အိမ်မှာတင် ဆိုင်ဖွင့်ပြီး အလုပ်လုပ်တဲ့ မိန်းမကြီးပါ။ အေရန်စီယိုလမ်းထဲက သူ့အိမ်ရဲ့ ဒုတိယထပ်ဟာ သူ့အလုပ်ခန်းပဲ။ သူ့အိမ်မှာ အခန်းသုံးခန်းရှိတယ်။ နှစ်ယောက်အိပ် ခုတင်ကြီး ချထားတဲ့ အိပ်ခန်းကတစ်ခန်း။ ပြီးတော့ ဗီရိုတွေ၊ စားပွဲတွေ၊ ကုလားထိုင်တွေနဲ့ ပစ္စည်းမျိုးစုံ တိုလီမုတ်စတွေ ချခင်းထားတဲ့ အခန်းက တစ်ခန်း။ နောက်တစ်ခန်းကတော့ သေးသေးကျဉ်းကျဉ်း အိပ်ခန်းလေးတစ်ခန်းပေါ့။ အဲဒီအခန်းကတော့ သူ့သား နာဝဂလီရဲ့ အိပ်ခန်းပေါ့။ အဲဒီအခန်း အိမ်ရဲ့မျက်နှာစာဘက်မှာဆိုတော့ အိမ်ရှေ့ဆင်ဝင်နဲ့ ဝင်းခြံကို မြင်နေရတယ်။ သူ့အခန်းလေးက ထင်းရှူးသေတ္တာတစ်လုံး ချထားသလိုဖြစ်နေတဲ့ အိမ်သာနဲ့ မီးဖိုခန်းသေးသေးကလေးကြားမှာ ရှိနေတာ။

နက်စ်ပိုလာ အလုပ်လုပ်ရင် သူ့အိပ်ခန်းထဲမှာပဲ လုပ်တယ်။ လက်တင် ကြိမ်ကုလားထိုင်တစ်လုံးပေါ်မှာထိုင်ပြီး လုပ်တာဆိုတော့ ရှေ့တည့်တည့် ပြတင်းပေါက်ခန်းဆီးက သူ့ကိုကွယ်နေတယ်။ အိမ်ထဲဝင်လာတဲ့လူဟာ သူ့ကို ရုတ်တရက် မမြင်နိုင်ဘူး။ ငှက်ရုပ်ကလေးတွေနဲ့ ပန်းခြင်းပုံကလေးတွေပါတဲ့ ခန်းဆီးကို အမြဲချထားတယ်။ အခန်းထဲမှာ အလုပ်စားပွဲတစ်လုံး ချထားတယ်။ ငှက်လှောင်ချိုင့်လေးတစ်လုံးလည်း ချိတ်ထားတယ်။

အက်ိုစကို တိုင်းတော့ထွာတော့မယ်၊ ညှပ်တော့ကိုက်တော့မယ်ဆိုရင်

အစကို အိပ်ရာခုတင်ပေါ် ဖြန့်ခင်းပြီး ခုတင်ကို ပတ်ချာလှည့်ပြီး လုပ်လေ့ရှိတယ်။ အင်္ဂလိပ်သူရဲ့ကိုယ်တိုင်းကို ယူမယ်ဆိုရင်တော့ အိပ်ခန်းနဲ့ကပ်လျက် အခန်းလေးထဲမှာလုပ်တယ်။ မှန်ရှေ့မှာရပ်နေတဲ့ အင်္ဂလိပ်သူကို နက်စ်ပိုလာက သူ့ပါးစပ်နဲ့လက်ချုပ်အပ်ကို ကိုက်ထားပြီး ဘေးက လှည့်ပတ်ကြည့်ပြီးလုပ်တယ်။ စကားကိုလည်း တရင်းတနှီးနဲ့ သိမ်သိမ်မွေ့မွေ့ ပြောနေတတ်တယ်။

အင်္ဂလာအပ်သူရဲ့ အသားအရေ၊ ဆံပင်၊ မျက်လုံးနဲ့ ကိုယ်လုံးကိုယ်ပေါက်လှပတဲ့အကြောင်းကို လိုက်လိုက်လှဲလှဲ ပြောပြနေတတ်တယ်။ တကယ်လို့များ အင်္ဂလိပ်တဲ့ အမျိုးသမီးက သိပ်ကိုလှနေရင် သူ့သားကိုပါ လှမ်းခေါ်ပြီး ပြတတ်တယ်။ “နာတာလီရေ၊ ဒီမှာလာကြည့်စမ်း၊ မိုးကောင်းကင်ဆီက အလှနတ်မိမယ် မက်ဒိုနာတစ်ယောက် တို့ကမ္ဘာမြေကြီးပေါ်ကို ဆင်းလာတယ်”လို့လည်း ပြောတတ်တယ်။

ဘာပဲဖြစ်ဖြစ်ပေါ့လေ၊ နက်စ်ပိုလာပြောပုံက တကယ့်ရိုးရိုးသားသား ပြောမျိုးဆိုတော့ အပြောခံရသူက သဘောမကျဘဲ နေမလားဗျာ။ သူ သဘောကောင်းမှန်းသိတော့ သူ့ဆီအင်္ဂလာအပ်တဲ့ ဖောက်သည်ကလည်း များတာပေါ့။ သူနဲ့ တစ်တိုက်တည်းမှာနေကြတဲ့ မိန်းကလေးတွေနဲ့ အနီးအနားရပ်ကွက်ထဲက မိန်းကလေးတွေဟာ သူ့ဆိုင်ကလွဲပြီး ဘယ်ကိုမှ မသွားကြတော့ဘူး။

ကျုပ်အနေနဲ့ အဲဒီအကြောင်းတွေကို ခရေစေ့တွင်းကျသိနေတာ တခြားကြောင့်မဟုတ်ဘူး။ နာတာလီနဲ့ကျုပ်နဲ့ သူငယ်ချင်းဘဝတုန်းက သူတို့အိမ်ကို ပုံမှန်ရောက်ရောက်သွားလို့ပါ။ အဲဒီအချိန်က နာတာလီဟာ

အလုပ်ရှာနေတုန်းပေါ့။ နောက်ဆုံးမှာ သူဟာ ကျုပ်စက်ပြင်လုပ်နေတဲ့ ကြက်ပေါင်စေးချက်အလုပ်ရုံမှာ အလုပ်ရသွားခဲ့တယ်။

ဒါပေမဲ့ နှစ်လကြာတော့ ဒီအလုပ်ဟာ သူ့အတွက် တိုးတက်အောင်မြင်မှုရှိမှာမဟုတ်ဘူးလို့ပြောပြီး အလုပ်ကထွက်သွားတယ်။ သူပြောတဲ့ အောင်မြင်မှုဆိုတဲ့စကားနဲ့ပတ်သက်လို့ စဉ်းစားစရာတော့ရှိတယ်။ ဒီအလုပ်က ထမင်းစားရုံလောက်ကလွဲပြီး ကြီးကြီးကျယ်ကျယ်ဖြစ်ထွန်းနိုင်တဲ့အလုပ်မှ မဟုတ်တာ။ ဒါကိုသူလည်း သိလောက်ပါလျက်နဲ့ ဒီစကားပြောတော့ ကျုပ်အဖို့ အထူးအဆန်းဖြစ်နေတာ အမှန်ပဲ။ အဲဒီနောက်မှာ ကျုပ်နဲ့သူနဲ့ မကြာခဏ ဆုံမိကြပါသေးတယ်။ ဒါပေမဲ့ အမှန်အတိုင်း ဝန်ခံရမယ်ဆိုရင် သူ့ပုံပန်းက ဆက်ပြီးပေါင်းလို့သင်းလို့ကောင်းတဲ့ အနေအထားမဟုတ်တော့ဘူးဗျ။

နာတာလီဟာ ခန္ဓာကိုယ်က ခပ်တုတ်တုတ် ခပ်ထွားထွား။ မျက်နှာက ဖြူရော်ရော် ဖျော့တော့တော့နဲ့။ အေးစက်စက် မျက်နှာထားရှိတယ်။ မျက်မှန်ထူထူ တပ်ထားရတဲ့အထဲမှာ သူ့မျက်နှာက တည်လွန်းတော့ 'ပါမောက္ခကြီး'လို့ ဘေးလူတွေက နောက်ပြောင်ပြီး ခေါ်ကြတယ်။ အမှန်တော့ နာတာလီဟာ လေးတန်းတောင် အောင်ခဲ့တဲ့ကောင် မဟုတ်ဘူး။ ဒါပေမဲ့ သူ့မျက်နှာထားက တည်လွန်းတော့ လူတိုင်းက ယုံကြည်ကြတာတော့ အမှန်ပဲ။

ကျုပ်တို့အလုပ်ရုံကို သူလာမလုပ်ခင်က သူအလုပ်တွေ တော်တော်များများ လုပ်ခဲ့ဖူးတယ်။ သာမန် သူလိုငါလို အလုပ်သမားမျိုးတင်မကဘူး၊ စာရေးလိုအလုပ်မျိုးလည်း လုပ်ခဲ့ဖူးတယ်။ စာပို့စာရေး၊ အစောင့်၊

ဂိုထောင်မှူး၊ မိတ္တူကူးစာရေး စတဲ့အလုပ်တွေဟာ သူလုပ်ဖူးခဲ့တဲ့ အလုပ်တွေပေါ့။ လမင်းကြီးလို ဝိုင်းစက်စက်မျက်နှာမှာ မျက်မှန်ထူထူကြီး တပ်ထားပြီး တည်ငြိမ်အေးဆေးတဲ့ မျက်နှာထားကြောင့် သူ့အပေါ် ယုံကြည်ပြီး ပေးခဲ့တဲ့အလုပ်တွေလို့ ထင်ရတာပါပဲ။

ဒါပေမဲ့ ဒီကိစ္စမှာ စဉ်းစားစရာတစ်ခုက ရှိနေတယ်။ နာတာလီဟာ အဲဒီအလုပ်တွေမှာလည်း တာရှည်မခံခဲ့ဘူး။ ဘာ့ကြောင့်လဲဆိုတော့ သူ့ဘက်ကလိမ်တာညာတာတို့၊ မှားတာတို့၊ ခိုးတာဝှက်တာတို့ ဆိုတဲ့ မရိုးသားမှုတွေ ရှိခဲ့ပုံပေါ်တယ်ဗျ။ ကျုပ် သိရကြားရသလောက် ပြောပြရမယ်ဆိုရင်တော့ အဖြစ်တွေက ဒီလို...

ပထမတော့ အလုပ်ရှင်က သူ့ကိုသိပ်ယုံကြည် စိတ်ချတယ်။ သူ့ကို သော့တွေ အကုန်အပ်တာပဲ။ နောက်ပိုင်းမှာတော့ ဘာတွေဘယ်လို ဖြစ်ကုန်တယ်ဆိုတာ ဘယ်သူမှ ဂဃနဏ မသိတော့ဘူး။ အလုပ်ရှင်က သူ့ကို အလုပ်ထုတ်ပစ်လိုက်ပြီး "ကဲ၊ မင်းသွားတော့၊ မင်းမျက်နှာကို ငါနောက်ထပ် မမြင်ပါရစေနဲ့တော့၊ ဒီကိစ္စမှာ ရဲကိုမတိုင်တာဘဲ မင်းက ကျေးဇူးတင်ရမှာ"လို့ ပြောလိုက်တာချည်းပဲတဲ့။

ဒါပေမဲ့ အဲဒီသတင်းတွေဟာ သူတို့အိမ်ထဲကတော့ လုံးဝမထွက်လာဘူး။ သူ့အမေ နက်စ်ပိုလာကလည်း သူ့သားနဲ့ပတ်သက်လို့ သက်ပြင်းချရုံကလွဲပြီး ဆူဆူပူပူလည်း လုပ်ဟန်မတူပါဘူး။ နာတာလီကလည်း သူ့ကို ဘယ်သူက ဘာတွေပဲပြောပြော သိပ်ပြီးဂရုစိုက်ပုံ မပေါ်ဘူး။ တစ်ခုတော့ရှိတယ်။ သူတို့သားအမိနှစ်ယောက်တည်း ကျရင်တော့ နက်စ်ပိုလာက ငိုယိုပြီး သူ့သားကို ဆူဆူပူပူလုပ်ချင်လည်း လုပ်ပေမပေါ့။

ဒါပေမဲ့ ခက်တာက ဒီအကောင်ဟာ အလုပ်သစ်တစ်ခု ရပြီးတိုင်း မကြာခင်မှာပဲ အရင်ပုံစံအတိုင်း ဖြစ်တာပဲ။

နာတာလီကိုကြည့်လိုက်ရင် သိပ်ပြီး သန်မာတောင့်တင်းမှာ မဟုတ်ဘူးလို့ ထင်ရပေမယ့် တကယ်တမ်းကျတော့ အလွန်ကိုသန်တဲ့ကောင်ဗျ။ သူသန်ပုံက နွားသိုးတစ်ကောင်လိုသန်တာ။ ကျုပ်နဲ့အတူတူ အလုပ်လာလုပ်နေတုန်းက တစ်ရက်မှာ အငယ်စားကားတစ်စီးကို သူတစ်ယောက်တည်း မ,လိုက်တာ တွေ့ဖူးတယ်။ အဲဒီတော့မှ ဒီကောင်ဟာ တော်တော့်ကို သန်တဲ့ကောင်ပါလားလို့ သိရတာ။

တကယ်တော့ ဒီကောင်ဟာ အပေါ်ယံရှေ့မှုန်ကြဲ၊ အထဲက နောက်ချေးခံ ကောင်စားမျိုးလို့ ဆိုရမှာပဲ။ သူ ဘယ်လိုလူစားဆိုတာကို အတိအကျသိတဲ့လူက သူ့အမေတစ်ယောက်ပဲရှိတယ်။ ပထမတော့ သူ့အမေလည်း သိပုံမပေါ်ပါဘူး။ လွန်ခဲ့တဲ့ နှစ်အနည်းငယ်လောက်က ကြုံခဲ့ရတဲ့အဖြစ်ကြောင့်သာ သူ့အမေကလည်း သူ့သား နာတာလီကို မျက်စိဒေါက်ထောက်ပြီး ကြည့်လာခဲ့တာဗျ။

အဲဒီတုန်းက မြောက်ဘက်ဒေသမှာစစ်ကမပြီးသေးဘူး။ နာတာလီဟာ သူ့အမေနဲ့ သူ့အမေရဲ့သူငယ်ချင်း မိန်းမကြီးတွေကို နားဝင်အောင် သိမ်းသွင်းခဲ့တယ်။ သူ့ကိုအားလုံးက စုပြီးငွေထုတ်ပေးဖို့ပေါ့။ ငွေရရင် သူ နေပယ်လ်မြို့အထိသွားပြီး မိန်းမစီးဖိနပ်တွေ သွားဝယ်မယ်။ ရောမမြို့ပေါ်မှာ ဖိနပ်တွေ ရှားနေချိန်မို့ အမြတ်ရမှာမလွဲဘူး၊ တစ်ချီတည်းနဲ့ ချမ်းသာသွားနိုင်တယ် စသည်ဖြင့် ကျလောက်အောင်ပြောတော့ အားလုံးက ယုံကြတာပေါ့။ ဒါနဲ့ပဲ သူ့အမေက သူစုဆောင်းထားသမျှငွေတွေကို



မာတိကာသို့ ▶▶

ထုတ်ပေးလိုက်တယ်။ သူ့အမေရဲ့ သူငယ်ချင်းတွေကလည်း အဲသလိုပဲ ယုံကြည်စိတ်ချစွာနဲ့ ပံ့အောပေးလိုက်ကြတယ်။

နာတာလီဟာ ငွေတွေကိုပိုက်ပြီး နေပယ်လ်မြို့ကို ကားနဲ့ထွက်သွားတယ်။ ဒါပေမဲ့ သူပြန်လာတော့ ဖိနပ်ဆိုလို့ တစ်ရံမှ ပါမလာဘူး။ ဖိနပ်ပါဖို့မပြောနဲ့၊ သူ့ကိုယ်ပေါ်မှာ အသွားတုန်းကဝတ်သွားတဲ့ ဂျက်ကက်အင်္ကျီတောင်မှ ပြန်ပါမလာဘူး။ သူ့အပြောကတော့ သူဟာ ဖော်မိယာအထိ ရောက်အောင်သွားခဲ့တယ်တဲ့။ လမ်းမှာ ဓားပြတွေနဲ့တွေ့လို့ သူ့မှာပါသွားတဲ့ ငွေတွေအကုန် အလုခံလိုက်ရတယ်တဲ့။

ဒါပေမဲ့ မကြာခင်မှာပဲ အဖြစ်မှန်ကို သိလာကြရတယ်။ သူ အသွားတုန်းကစီးသွားတဲ့ ကားဒရိုင်ဘာ ပြန်ရောက်လာတော့ အမှန်အတိုင်း သိကြရတာပေါ့။ နာတာလီဟာ နေပယ်လ်မြို့ပေါ်က လောင်းကစားသမားတွေနဲ့ လောင်းကစားလိုက်တာ ပါလာသမျှ ပြောင်တာပဲတဲ့။ သူ့အမေခမျာ သူ့အပေါ် ယုံကြည်စိတ်ချပြီး ငွေထုတ်ပေးလိုက်တဲ့ သူငယ်ချင်းမတွေအတွက် စိတ်ထိခိုက်လွန်းလို့ နေမကောင်း ဖြစ်ခဲ့ရတယ်။ ဒီငွေတွေကို ပြန်ဆပ်မယ်လို့လည်း ဆုံးဖြတ်လိုက်တယ်။ တကယ့်ကိုလည်း ဆပ်ရှာပါတယ်။ နှစ်ပေါင်း အတော်ကြာမှ ကြေသွားတယ်။ သူ့သား နာတာလီကတော့ ဘာမှမဖြစ်သလိုပဲ။ ဒါပေမဲ့ သူ့အမေကတော့ အဲဒီအချိန်ကစပြီး သူ့အပေါ်မှာ လုံးဝမယုံကြည်တော့ဘူး။

အဲဒီနောက်မှာတော့ နာတာလီဟာ လောင်းကစားသမားတစ်ယောက် ဖြစ်လာတယ်။ သူက ဘာပြောသလဲဆိုတော့ ဆင်းရဲသားတစ်ယောက်ဟာ ရိုးရိုးသားသား လုပ်ကိုင်စားသောက်လို့ကတော့ ဘယ်တော့မှ



မာတိကာသို့ ▶▶

မကြီးပွားနိုင်ဘူးတဲ့။ ဒါ့ကြောင့် သူကတော့ ကံကိုယုံပြီးလုပ်ရတဲ့ လောင်းကစားအလုပ်နဲ့ ဆင်းရဲသားဘဝကလွတ်မြောက်အောင် လုပ်ရမှာပဲတဲ့။ ပြီးတော့လည်း ဘဝနဲ့ပတ်သက်လို့ သူ့ကိုယ်ပိုင်အမြင်တွေနဲ့သူ သူကောင်းမယ်ထင်တာတွေ လျှောက်လုပ်လာတယ်။

ကျုပ်စောစောတုန်းက ပြောခဲ့သလိုပဲ သူကျုပ်အလုပ်လုပ်နေတဲ့ အလုပ်ရုံကထွက်သွားပြီးတဲ့နောက် သူ့ကိုကျုပ် မျက်ခြည်မပြတ် စောင့်ကြည့်ခဲ့မိတယ်။ မျက်နှာထားက ခပ်တည်တည်နဲ့ ကျောင်းဆရာကြီးပုံပေါက်နေတဲ့သူခိုးဆိုတော့ ကျုပ်အဖို့ စိတ်ဝင်စားစရာ ဖြစ်နေတယ်။ အသက်မကြီးသေးပေမယ့် လူကြီးဂိုက်ဖမ်းနေတဲ့ လူလိမ်ဆိုတော့ ကျုပ်အဖို့ လေ့လာချင်စရာတစ်ခု ဖြစ်နေတယ်။

နာတာလီ အမြဲပြောလေ့ရှိတဲ့ စကားရှိတယ်။ ဘဝမှာ အရာရာတိုင်းဟာ ကံအပေါ်မှာ မှီနေတယ်တဲ့။ ကံဆိုတာကလည်း အမိအရဆီးဖမ်းဖို့ စောင့်နေတဲ့လူဆီကို လာလေ့ရှိတယ်တဲ့။ ကံဆိုတာမျိုးက အချိန်အခါနဲ့လာတာမို့ ရောက်လာခိုက်မှာ ဆုပ်ကိုင်မိဖို့ အသင့်ပြင်ထားရမယ်တဲ့။ ရောက်လာရင်လည်း လက်သွက်ဖို့ သိပ်လိုတယ်တဲ့။ အဲအချိန်တန်လာပြီဆိုရင်တော့ အမိအရသာ ဆွဲပေတော့တဲ့။

အဲဒီစကားတွေကိုပြောတဲ့အခါမှာ သူ့မျက်နှာထားဟာ ယုံကြည်မှုအပြည့်နဲ့ဗျ။ သမ္မာကျမ်းစာထဲက စာပိုဒ်တွေကို ရွတ်နေသလို ရွတ်နေတာမျိုးပဲ။ ဆင်းရဲနေတဲ့ သူ့အဖြစ်ကိုတောင် သတိပြုမိတဲ့လက္ခဏာ မရှိဘူး။ တကယ့် ဆရာကြီးတစ်ယောက်ရဲ့ မျက်နှာထားမျိုး၊ လေသံမျိုးနဲ့ပြောတာ။ ကျုပ်အနေနဲ့ကတော့ သူ့ကိုယ်သူ ငါဘာကောင်လဲဆိုတာကောင်မှ မသိတဲ့

ကောင်မို့ ဘဝင်မကျချင်ဘူးပေါ့ဗျာ။

တစ်ကြိမ်မှာတော့ ကျုပ်က သူ့ကိုမေးတယ်။ "မင်းက ဒီစကားတွေ ချည်းထပ်တလဲလဲပြောနေတယ်၊ မင်းက မင်းအကြောင်းကော စဉ်းစားမိရဲ့လား။ မင်းကကော ဘာကောင်လဲ"လို့။ သူကတော့ မျက်နှာတောင် မပျက်ဘူး၊ ခပ်တည်တည် ခပ်ခန့်ခန့်ပဲ။ "ကျုပ်ဘာကောင်ဖြစ်တော့ကော ဘာဖြစ်လဲ၊ ရောမမြို့ကြီးကို တစ်ရက်တည်းနဲ့ တည်ဆောက်လို့ ပြီးခဲ့တာ မဟုတ်ပါဘူး ငါ့လူရာ"လို့ ပြန်ပြောတယ်ဗျ သိလား။

ဒီအတောအတွင်းမှာတော့ နာတာလီဟာ ရောမမြို့ကြီး တည်ဆောက်ပြီးအောင် စောင့်ကြည့်နေတယ်။ စောင့်ကြည့်နေခိုက်မှာတော့ သူဟာ ကံနောက်ကိုလိုက်ရင်း ရောက်လေရာနေရာမှာ ဖဲပဲကစားနေတာပဲ။ သူ အများဆုံးကစားတဲ့ နေရာကတော့ သူ့အိမ်နဲ့ မလှမ်းမကမ်းက ဆိုင်မှာဗျ။ ညပိုင်း ဆိုင်ပိတ်ချိန်ဆိုရင် သူဟာ ဆိုင်နောက်အခန်းထဲမှာ ဖဲကစားနေပြီ။ သူနဲ့ကစားတဲ့လူတွေက ဆိုင်ရှင်ရယ်၊ ကောင်တာစာရေးရယ်၊ စားပွဲထိုးရယ်၊ ပြီးတော့ တခြားလူတစ်ယောက်ရယ်။

သူနိုင်သလား၊ ရှုံးသလား။ ဒီမေးခွန်းကို ဖြေဖို့ကတော့ လွယ်ပါတယ်။ တစ်ခါတလေကျတော့လည်း နိုင်မှာပေါ့။ ရှုံးတဲ့အခါလည်း ရှုံးမှာပေါ့။ အရေးကြီးတဲ့အချက်က သူအခုလို ညစဉ်ညတိုင်းဖဲကစားဖို့ ငွေတွေ ဘယ်ကရနေသလဲ။ အဲဒီမေးခွန်းပဲ။ ဘာပဲဖြစ်ဖြစ်ပေါ့လေ၊ နောက်ဆုံးမှာတော့ သူဟာ အရှုံးနဲ့ပဲ ရင်ဆိုင်ရတာပါပဲ။ ဘာ့ကြောင့်လဲ။ သူက ဆင်းရဲသား၊ စက်ချုပ်သမရဲ့သား၊ မြေအိုးနဲ့သံအိုး တိုက်မိရင် မြေအိုးပဲကွဲမှာပေါ့ဗျာ။



မာတိကာသို့ ▶▶

သူရှုံးပြီဆိုတော့လည်း သူဘာလုပ်မလဲ။ အလစ်သုတ်မယ်၊ တိုမယ်၊ လိမ်မယ်၊ ညာမယ်ပေါ့။ ရလာရင် ပစ္စည်းတွေပြေးရောင်းလိုက်၊ ဖဲပြန်ရိုက် လိုက်ပေါ့။ သူအခုလို လုပ်နေတာကို ကောင်းကောင်းကြီးသိနေတဲ့ သူ့အမေဟာ တခြားအမေတွေလို သိပ်ပြီး ဆူဆူပူပူ မလုပ်ရှာပါဘူး။ အဘွားကြီးရဲ့ ဆုံးမစကားက တိုတိုနဲ့ ရိုးရိုးရှင်းရှင်းကလေးပါ။ "နင် ဖဲမရိုက်နဲ့တော့၊ ဒုက္ခရောက်လိမ့်မယ်"တဲ့။

သူ့ခမျာမှာလည်း အမေကိုးဗျ။ သူ့သားဟာ လူလိမ်၊ လူရှုပ်၊ သူခိုး၊ တေလေ ဆိုတာ သူသိတယ်လေ။ ဒါပေမဲ့ သူ့သားဖြစ်နေတော့ ခက်တယ်။ "ငါ့သားလေး တစ်နေ့ကျရင် ပြင်လာမှာပါ"ဆိုတဲ့ မျှော်လင့်ချက်နဲ့ စောင့်ကြည့်နေရုံကလွဲပြီး တခြားဘာမှ မတတ်နိုင်ရှာဘူးပေါ့။

တစ်နေ့မှာတော့ နာတာလီဟာ ညနေမိုးချုပ်စအချိန်မှာ အိမ်ကို ရောက်လာပြီး သူ့အမေကို ပြောတယ်။ သူအလုပ်တစ်ခုလိုက်ရှာနေ တယ်တဲ့။ သူ့မျက်နှာမှာတော့ မျက်မှန်ပါမလာဘူး။ သူစားသောက်ဆိုင် တစ်ဆိုင်မှာ မျက်မှန်ချွတ်ပြီး သတင်းစာဖတ်နေရာက မေ့ကျန်ခဲ့တယ် လို့ပြောတယ်။ သူ့မှာက မျက်စိနဲ့ အာရုံစူးစိုက်ပြီး လုပ်ရမယ့်အလုပ် ရှိလာရင် မျက်မှန်ကိုချွတ်ချထားတတ်တဲ့ အကျင့်ရှိတယ်။ မျက်မှန်ကို မတော်တဆ ခိုက်မိပြီး ကွဲသွားမှာကြောက်တာလည်း တစ်ကြောင်း၊ သူ့မျက်စိက အဝေးသာမှုံတာ၊ အနီးကပ်ကျတော့ မျက်မှန်တပ်ထားရင် မမြင်ရတာလည်းတစ်ကြောင်း အဲဒီအကြောင်းတွေကြောင့် ချွတ် ချွတ် ထားတာ။

သူ့အမေက ထုံးစံအတိုင်း အသင့်ချက်ပြုတ်ထားပြီးဖြစ်တဲ့ ညစာကို



မာတိကာသို့ ▶▶

အိပ်ခန်းထဲက အလုပ်စားပွဲပေါ်မှာ ပြင်ဆင်ပြီးကျွေးတယ်။ သူကလည်း ချကျွေးထားသမျှကို အငမ်းမရစားတယ်။ အမှန်တော့ ဒီအကောင်ဟာ အတော့်ကို ဆာနေတယ်မဟုတ်လား။ နက်စ်ပိုလာကတောင်မှ သူ့သား ဒီလောက်စားတာမျိုး အရင်က မကြုံဖူးဘူးလို့တောင် ပြောလိုက်သေးတယ်။

ညစာစားအပြီးမှာ နာတာလီဟာ စီးကရက်တစ်လိပ် မီးညှိပြီး ဇိမ်နဲ့ သောက်လိုက်သေးတယ်။ ပြီးတော့ နှစ်ယောက်အိပ်ခုတင်ပေါ်မှာ တစ်နာရီလောက် အိပ်တယ်။ အိပ်ရာက နိုးတော့ သူ့အမေဆီက ငွေနည်းနည်းတောင်းပြီး အနားကရုပ်ရှင်ရုံမှာ ရုပ်ရှင်သွားကြည့်တယ်။ ကျုပ်ကိုယ်တိုင်လည်း ရုပ်ရှင်ရုံထဲမှာရှိနေတော့ ရှေ့ဆုံးခုံတန်းမှာ ထိုင်နေတဲ့ သူ့ကို ကျုပ်မြင်လိုက်ရတယ်။ ရုပ်ရှင်ကားက အမေရိကန် ဟာသကား တစ်ကားပါ။ သူဟာ ရုပ်ရှင်ကြည့်ပြီး အော်အော်ရယ်နေတာ မြင်ရတယ်။ သူ့မျက်နှာမှာ မျက်မှန်တော့ တပ်မထားဘူး။

တိုတိုပြောရမယ်ဆိုရင်တော့ သူလည်း ရုပ်ရှင်ရုံထဲက ထွက်လာရော ရဲက ဖမ်းတာပဲ။ ရဲတွေက သူ့အိမ်ကို အရင်ဆုံးရောက်သွားကြတာ။ ရုပ်ရှင်သွားတယ်လို့သိမှ လိုက်လာပြီးဖမ်းတာ။ ရဲကသူ့ကို ချက်ချင်းပဲ ရဲစခန်းခေါ်သွားပြီး ချုပ်ထားလိုက်ကြတယ်။ နောက်တစ်နေ့မနက်ထုတ် သတင်းစာတွေထဲမှာတော့ သူ့သတင်းတွေ ပါလာတယ်။

နာတာလီဟာ အိမ်လခသွားပေးရင်းနဲ့ အိမ်ရှင်အဘွားကြီးရဲ့ ခေါင်းကို တူတစ်ချောင်းနဲ့ ထုသတ်ခဲ့တာကိုး။ တကယ်လို့သူဟာ အတိအကျသမား မဟုတ်ခဲ့ရင်တော့ ရဲတွေကသူ့ကို တရားခံမှန်းသိဖို့ မလွယ်ဘူး။ ဒါပေမဲ့ နာတာလီက အဘွားကြီးကို တူနဲ့မထုခင်မှာ သေချာအောင်ဆိုပြီး အတိ



မာတိကာသို့ ▶▶

အကျသွားလုပ်တာကိုး ဗျ။ ပထမဆုံးသူဟာ မျက်မှန်ကိုချွတ်ပြီး ပြတင်းပေါက်ဘောင်ပေါ်မှာ တင်ထားလိုက်တယ်။ နောက်ဆုံး ကိစ္စပြီးသွားလို့ အိမ်ထဲက ပြန်ထွက်တော့ မျက်မှန်ကိုယူလာဖို့ သတိမရတော့ဘူး။ အဲ အဲဒီမျက်မှန်ကို ရဲကတွေ့သွားတော့...။ အဖြစ်က အဲဒါပဲ။

သူ့အမေခမျာတော့ သနားစရာကောင်းပါတယ်။ အဲဒီနေ့မနက်ထုတ် သတင်းစာတွေမှာပါလာတဲ့ သတင်းကိုဖတ်ပြီး သူ့သားအတွက် ကိုယ်စိတ်နှစ်ပါး ဆင်းရဲရတာပေါ့။ ပထမနေ့ကဆိုရင် အတော်ကလေး ခံစားရမှာပဲ။ ဘယ်လောက်အထိ ခံစားရသလဲဆိုတာတော့ ကျုပ်လည်း အသေအချာ မသိဘူး။

နောက်ပိုင်းကျမှ သိကြားလာရတဲ့အတိုင်းဆိုရင် သူ့အမေ နက်စ်ပိုလာဟာ သူ့သားအတွက် မက်ဒိုနာသခင်မဆီမှာ အမြဲတစေ ဆုတောင်းနေတယ်တဲ့။ ဘာပြုလို့လဲဆိုတော့ နက်စ်ပိုလာဟာ ဘာသာရေး ကိုင်းရှိုင်းတဲ့ မိန်းမကြီးတစ်ယောက် မဟုတ်လား။ မက်ဒိုနာသခင်မကလည်း ဘဝကို သတ္တိရှိရှိနဲ့ ရင်ဆိုင်သွားနိုင်အောင် စောင့်ရှောက်ပေးခဲ့မှာပဲလို့ ယူဆနိုင်စရာရှိပါတယ်။

အမှုဖြစ်ပွားခဲ့ပြီးတဲ့နောက် အချိန်အတော်ကြာလာတော့ နက်စ်ပိုလာဟာ ထောင်ကိုသွားသွားပြီး ထောင်ဝင်စာတွေ့တယ်။ သူ့သားဟာ ထောင်ထဲမှာ ကောင်းကောင်းမွန်မွန် နေထိုင်တဲ့အတွက် ထောင်အာဏာပိုင်တွေရဲ့ယုံကြည်မှုကို ရရှိခဲ့တယ်။ ဒါ့ကြောင့်မို့ သူ့ကို ထောင်ဆေးရုံမှာ အလုပ်တာဝန်ချပေးထားတယ်လို့ သိကြရတယ်။

## ရှုဇကာ

မနက်ခင်း လမ်းလျှောက်သွားတဲ့အခါ အဲဒီလမ်းဘက်က ပိုလီကလင် နီကို ဆေးရုံကြီးရှေ့ကို အမှတ်မထင်ရောက်သွားတယ်ဆိုပါတော့။ အဲဒီအခါ ကျရင် စာအိတ်တစ်လုံးပေါ်မှာ တံဆိပ်ခေါင်းတွေအများကြီး စုပြုံကပ်ထား သလို ကြော်ငြာစာရွက်အမျိုးမျိုးတွေ စုပြုံကပ်ထားတဲ့ ဆေးရုံနံရံကြီးကို တွေ့ရလိမ့်မယ်။ သတိထားပြီး ကြည့်လိုက်ရင် ဆေးရုံနံရံကြီးမှာ ထွင်းထားတဲ့ ကလိုဏ်လေးတစ်ခုရှိတယ်။ အဲဒီ ကလိုဏ်လေးထဲမှာ သပ်သပ်ရပ်ရပ်နဲ့ လှလှပပခင်းကျင်းထားတဲ့ ပန်းဆိုင်တစ်ဆိုင်ရှိတယ်။ ဆိုင်ထဲမှာ ပန်းလှလှ တွေ ထိုးထားတဲ့ ပန်းအိုးတွေ၊ ကျကျနန ကြိုးနဲ့စည်းပြီး ထည့်ထားတဲ့ ပန်းခြင်းတွေနဲ့ ပန်းခွေတွေဟာ အများကြီးပဲ။

အရှုဏ်ကောင်းကင်စာအုပ်တိုက်

မာတိကာသို့ ▶▶

မမာမကျန်းဖြစ်လို့ ဆေးရုံတက်နေကြရတဲ့ ဆင်းရဲသားတွေရဲ့ ဆွေမျိုးသားချင်းတွေနဲ့ အပေါင်းအသင်းတွေဟာ သူတို့လူနာတွေကို လက်ဆောင်ပေးဖို့ အဲဒီဆိုင်မှာ ဝင်ပြီး ပန်းတွေ ဝယ်ကြတယ်။ တကယ်တော့ ဒီဆိုင်မှာ ပန်းဝင်ဝယ်တဲ့ လူတွေဟာ သူတို့သာ မဟုတ်ပါဘူး။ တစ်ရပ်ကွက်လုံးကလည်း ဒီဆိုင်ကိုပဲ အမှီပြုကြရတာပါ။

ဆိုင်ရှင်ပန်းသည်မကြီးကတော့ ကိုယ်လုံးကိုယ်ထည် တုတ်တုတ်ခိုင်ခိုင်၊ အရပ်ထောင်ထောင်မောင်းမောင်းနဲ့ အသားဖြူဖြူဖျော့။ သူ့မှာသူ့ကို ကူညီလုပ်ကိုင်ပေးနေတဲ့ သားတစ်ယောက်ရှိတယ်။ သူ့သားက သူနဲ့ အတော့်ကို တူတာပဲ။ သူ့နာမည်က 'ကာလို'တဲ့။ အသက်က ဆယ့်ကိုးနှစ်ပဲ ရှိသေးတယ်။ ဒါပေမဲ့ သူ့ကိုယ်အလေးချိန်က ဆယ့်ငါးစတုံ ကျော်နေပြီ။

သူ့ကို သတိထားပြီး စေ့စေ့စပ်စပ်ကြည့်မယ်ဆိုရင် လူပုံက တစ်မျိုးပဲ။ မဲ့ခြောက်တွေ ဖုံးနေတဲ့ သူ့မျက်နှာဟာ ဝဝပြဲပြဲဖျော့။ မျက်စိက သိပ်မွဲတော့ ပါဝါထူထူမျက်မှန်ကြီး တပ်ထားရတယ်။ သူ့ရဲ့ နီရဲရဲ ဆံပင်ကို တိုတိုကလေး ဖြတ်ထားတယ်။ သူ့ရင်ဘတ်က သူအသက်ရှူလိုက်တိုင်း ပိန်လိုက်ဖောင်းလိုက်နဲ့ မိန်းမတစ်ယောက်ရဲ့ ရင်ဘတ်နဲ့ အတော်တူတာပဲ။ ခြေထောက်တွေကလည်း ပုအိုင့်အိုင့်ခွင်တင်တင်နဲ့။

သူ့ရဲ့ဝတ်စားဆင်ယင်မှုကတော့ အမြဲတမ်း အမေရိကန်စတိုင်ပဲ။ အပေါ်ပိုင်းမှာ ဂျင်းဂျက်ကက်၊ အောက်ပိုင်းမှာ ဂျင်းဘောင်းဘီဖင်ကျပ်နဲ့။ ဂျက်ကက်အင်္ကျီဟာ သူ့ကိုယ်လုံးကို ပတ်ထုပ်ပြီး ညှစ်ထားသလိုပဲ။ ဘောင်းဘီကျတော့ သူရှေ့ကို ကုန်းလိုက်တိုင်း ဘောင်းဘီဖင်နှစ်ခြမ်းဟာ



မာတိကာသို့

ဖြန်းဖြန်းကွဲသွားလိမ့်မယ်လို့ ထင်ရတယ်။

ကာလိုနဲ့ ကျွန်တော်ဟာ သူငယ်ချင်းတွေပါ။ ဒါပေမဲ့ အခုတော့ မဟုတ်တော့ပါဘူး။ အဲဒီအတွက်လည်း ကျွန်တော် စိတ်မကောင်းပါဘူး။ သူနဲ့ကျွန်တော် မိတ်ပျက်သွားရတာကလည်း တခြားကြောင့် မဟုတ်ပါဘူး။ သူ့ရဲ့ ထူးခြားတဲ့ ခန္ဓာကိုယ်တည်ဆောက်မှုကြောင့်ပါ။ တကယ်လို့ များပေါ့လေ။ ခင်ဗျားတို့ ကျွန်တော်တို့မှာ စိတ်ညစ်စရာ၊ စိတ်ရှုပ်စရာတွေ ရှိနေရင် ကာလိုအစား စားတာကိုသာ ထိုင်ကြည့်လိုက်။

အားပါး...။ အစားအတော်စားနိုင်တဲ့ ကောင်ပါလားဗျာ။ သူ့ခံတွင်းကောင်းလိုက်ပုံကများကဖြင့် အံ့မခန်းပါပဲ။ သူ့လောက်စားနိုင်တဲ့ ကောင်မျိုး တစ်ယောက်မှ မတွေ့ဖူးပါဘူး။ စပါဂက်တီခေါက်ဆွဲကြော်တ ပေါင်ကျော်ကျော်ကို ပေါင်မုန့်တစ်လုံးနဲ့ ထိုင်စားလိုက်တာ ချောင်ချောင်ကလေးပဲ။ ခေါက်ဆွဲလည်း ကုန်ရော သူ့အမေကို လှမ်းပြောတယ်။ “အမေ ဘာရှိသေးလဲ။ ကျုပ်မဝသေးဘူးဗျ။ တစ်ခုခုတော့ ပေးဦး”တဲ့။

တစ်ခါတလေကျရင် သူငယ်ချင်းတွေက ခေါ်သွားပြီး အပြင်စားသောက်ဆိုင်တစ်ဆိုင်မှာ အစားကျွေးကြတယ်။ သူမတန်တဆ စားသောက်နေတာကို ထိုင်ကြည့်ချင်လို့ ကျွေးကြတာပါ။ သူ့ကို စားပါသောက်ပါလို့ ဝိုင်းပြီး တိုက်တွန်းနေစရာမလိုပါဘူး။ သူ့ရှေ့ချပေးသမျှကို ကုန်အောင်ဝါးကာပဲ။ ကျွန်တော်မှတ်မိသေးတယ်။ တစ်ညမှာ သူ့ကို စတယ်လက်တာ စားသောက်ဆိုင် ခေါ်သွားပြီး ကျွေးကြမွေးကြတယ်။ သူဟာ သူ့ရှေ့ပန်းကန်ထဲက သိုးပေါင်တစ်ပေါင်လုံးကို မနားတမ်းဝါးပစ်လိုက်တာ ခဏကလေးနဲ့ပြောင်သွားတာပဲ။ ပန်းကန်ထဲမှာ အရိုးကလွဲပြီး အသားဆိုလို့တစ်စမှ

မကျန်တော့ဘူး။

ဒီလိုအစားမျိုးကို သူ့အိမ်မှာ စားမှ မစားရပဲ။ သူ့အမေက နည်းနည်း ကပ်စေးနည်းတယ်။ ပန်းရောင်းလို့ ရတဲ့အမြတ်ငွေဆိုတာကလည်း များများ စားစားမှ မရှိတာ။ ဒါကြောင့်မို့ ချွေတာပြီး စားရသောက်ရတဲ့ သဘော ရှိတယ်။ အဲဒါကြောင့်မို့လည်း သူကိုယ်တိုင်ကလည်း အပြင်ခေါ်ပြီး ကျွေးမယ့်လူကို မျှော်တယ်။ တစ်ခါတလေကျရင် "ဒီည မင်းငါ့ကို အပြင်ဆိုင်မှာ ကျွေးမလား၊ မင်းကျွေးသလောက် ငါစားပြမယ်။ လောင်း ကြေးစားကြေးလုပ်မယ်ဆိုရင်လည်း လုပ်လေကွာ" လို့ သူက ပြောတတ် တယ်။

တနင်္ဂနွေတစ်ရက်မှာ ကာလိုက ကျွန်တော့်ကို ပြောတယ်။ သူနဲ့ စေ့စပ်ထားတဲ့ ဖော်စတီနာတို့အိမ်က ကျွန်တော်တို့နှစ်ယောက်စလုံးကို ညစာလာစားဖို့ ဖိတ်ထားတယ်။ ကျွန်တော် တော်တော်အံ့အားသင့်သွား တယ်။ ဘာပြုလို့လဲဆိုတော့ ကျွန်တော်နဲ့ ဖော်စတီနာမိသားစုဟာ သိပ်ပြီးမခင်ဘူးဗျ။ အဲဒီတော့ ကျွန်တော့်ကို ဘာ့ကြောင့် ဖိတ်တယ်ဆိုတာ စဉ်းစားလို့ မရဘူး။ ဒါပေမဲ့ ကော်ဆိုဒီအီတာလီယာလမ်းထဲမှာ ချိန်းထား တဲ့အတိုင်း ကျွန်တော်တို့ချင်း ဆုံမိကြတော့ ဘာ့ကြောင့် ဖိတ်သလဲဆို တာ ကျွန်တော် သဘောပေါက်လာတယ်။

ကာလိုဟာ လက်နှစ်ဖက်ကို ဂျက်ကက်အင်္ကျီအိတ်ကပ်တွေထဲမှာ နှိုက်ပြီး စိတ်ညစ်သလို ဖြစ်နေတာ တွေ့ရတယ်။ သိပ်ပြီး တက်တက် ကြွကြွလည်း မရှိဘူး။ သက်ပြင်းတွေလည်း ခဏခဏချတယ်။ ကျွန်တော် တို့နှစ်ယောက် ဖော်စတီနာတို့အိမ်ဘက် ဆက်လျှောက်လာတော့ ကျွန်တော်

က သူ့ကို"မင်းဘာဖြစ်နေတာလဲ"လို့ မေးတယ်။ သူက သက်ပြင်းတစ်ချက် ချတယ်။ ကျွန်တော်က ထပ်မေးတော့လည်း နောက်တစ်ကြိမ်သက်ပြင်း တစ်ချက်ချပြန်တယ်။ အဲဒီတော့ ကျွန်တော်က "ဒီမယ် ကာလို ငါပြော တာ နားထောင်ကွာ။ မင်းငါမေးတာကို မပြောချင်နေပါ။ ဒါပေမဲ့ နောက်ထပ် သက်ပြင်းတော့ မချပါနဲ့။ မင်းဟာ ဖျံတစ်ကောင်နဲ့ တူတူ လာတယ်"လို့ ပြောတယ်။

"ဘာပြုလို့လဲ၊ဖျံတွေကသက်ပြင်းချသလား"

"မချပါဘူး။ ဒါပေမဲ့ တကယ်လို့ သူတို့သက်ပြင်းချရင် မင်းနဲ့ တူ မှာပဲ"

သူက နောက်တစ်ကြိမ်သက်ပြင်းချပြန်တယ်။ ပြီးတော့ "သူတို့က မင်းကိုပါဖိတ်အောင် ငါပြောထားတာ။ အဲဒါမှာလည်း မင်းက ငါ့ကို ကူညီနိုင်မှာကွ၊ မင်းငါ့ကို ကူညီမယ်မဟုတ်လား"

ကျွန်တော်ကလည်း ကူညီမယ်လို့ ကတိပေးလိုက်ပါတယ်။ အဲဒီအခါ မှာ သူက သက်ပြင်းထပ်ချပြန်တယ်။ ပြီးတော့ ကျွန်တော့်ကို ပြောတယ်။ "ဖော်စတီနာက ငါ့ကို အကပ်မခံတော့ဘူးကွ"တဲ့။

အမှန်အတိုင်းဝန်ခံရရင် သူ့စကားကြားကြားချင်း ပထမဆုံးဝင်လာ တဲ့ ခံစားမှုကတော့ ဝမ်းသာမှုပါပဲ။ ကျွန်တော်ဟာ 'ဖော်စတီနာကို သဘောကျနေတာ ကြာပါပြီ။ ဒါပေမဲ့ သူက ကာလိုနဲ့ ဖြစ်နေတယ်ဆိုတော့ ကျွန်တော့်အဖို့ ခက်နေတာပေါ့။ ကာလို့အပေါ်မှာ ဘာများသဘောကျစရာ ရှိလို့တုံးတောင်မှ တွေးမိခဲ့ပါသေးတယ်။

ဒါပေမဲ့ဗျာ။ ကျွန်တော်ဟာ သူငယ်ချင်းကောင်းတစ်ယောက်ပါ။ သူတို့နှစ်ယောက်ကြားမှာ ကျွန်တော်ဝင်မရှုပ်ခဲ့ပါဘူး။ ဖော်စတီနာနဲ့ တွေ့တဲ့အခါ ကျွန်တော်သူ့ကို သဘောကျနေကြောင်း သိအောင် အမူအရာနဲ့တောင် မပြခဲ့ပါဘူး။ အခုလည်း ကာလိုရဲ့စကားကြားတော့ စိတ်ထဲက ဝမ်းသာနေပေမယ့် "အေးကွာ ငါလည်း စိတ်မကောင်းပါဘူး။ ငါက မင်းကို ဘယ်လိုလုပ်ပြီး ကူညီနိုင်မှာလဲ" လို့ ကျွန်တော်က ပြန်ပြောတယ်။

"မင်းကူညီနိုင်တာ အများကြီး ရှိပါတယ်ကွာ။ ဖော်စတီနာက ငါ့ကို လုံးဝလူရာမသွင်းတော့ဘူးကွ။ ဒါပေမဲ့ သူက မင်းကိုတော့ နည်းနည်းကြောက်တယ်။ မင်းက စကားပြောလည်းကောင်းတယ်မဟုတ်လား။ အမှန်အတိုင်း ပြောရရင် သူက ငါ့ကို မတွေ့ချင်မမြင်ချင်တော့ဘူးကွ။ ဒါပေမဲ့ ငါက သူ့ကို ဘာ့ကြောင့် အခုလို လုပ်ရသလဲဆိုတာ ရှင်းနိုင်းတယ်။ ကနေ့ သူတို့အိမ်ကို ညစာစားဖို့ ဖိတ်တာဟာ အဲဒီကိစ္စပဲ။ မင်းက သူ့ကို ပြောပြပါ။ ငါသူ့အပေါ်မှာ အလွန်စွဲလမ်းနေတဲ့အကြောင်းနဲ့ ငါ့ကို မစွန့်ခွာသင့်ကြောင်း စသည်ဖြင့်ပေါ့ကွာ"

ကျွန်တော်က မိန်းမတွေဟာ အကျိုးနဲ့အကြောင်းနဲ့ ရှင်းပြလို့ မရနိုင်တဲ့အကြောင်း သူ့ကို ရှင်းပြတယ်။ ဒါပေမဲ့ သူက ဇွတ်အတင်းပြောနေတော့ နောက်ဆုံးမှာ ကျွန်တော်က သဘောတူလိုက်တယ်။ အဲဒီအချိန်မှာ ကျွန်တော်တို့ဟာ ဖော်စတီနာတို့အိမ်ကို ရောက်သွားပြီ။ နှစ်ယောက်သား စကားထပ်မပြောကြတော့ဘဲ လှေကားအတိုင်း တက်သွားပြီး အိမ်ရှေ့တံခါးကို ခေါက်လိုက်တယ်။ အရပ်ပုပု ပိန်ချောင်ချောင် ဆံပင်ဖြူဖြူနဲ့ အဘွားကြီး တံခါးလာဖွင့်ပေးတယ်။ ဖော်စတီနာရဲ့ အမေပေါ့။

"ဩော်...မင်းတို့ရောက်လာကြပြီကိုး"လို့ ကျွန်တော်တို့ကို နှုတ်ဆက်တယ်။ ကျွန်တော်ကို့ဟာ စားသောက်ခန်းထဲကို ရောက်သွားကြတယ်။ အမှန်တော့ ဒီအခန်းက ဖော်စတီနာရဲ့ အဖေ စက်ချုပ်တဲ့ အခန်းပါ။ သူ့အဖေက စက်ချုပ်သမားမဟုတ်လား။ အခုကျတော့လည်း စားသောက်ခန်း ဖြစ်နေတယ်။ အခန်းထဲမှာ စားပွဲတစ်လုံးချထားတယ်။ လူရှစ်ယောက်ထိုင်စားနိုင်အောင် ပြင်ဆင်ထားတယ်။

နောက်ဖေးခန်းဆီက ထွက်လာနေတဲ့ ဖော်စတီနာ့အမေရဲ့ ဒေါသတကြီး ပြောဆိုနေတဲ့ စကားသံရယ်၊ သူ့ကို ပြန်ရှင်းပြနေတဲ့အသံရယ်၊ အသံအားလုံးကို မသဲမကွဲကြားနေရတယ်။ အဲဒီနောက်တော့ တံခါးပွင့်သွားပြီး အခန်းထဲကို ဖော်စတီနာ ဖြုန်းခနဲဝင်လာတယ်။ သူဟာ အသက်ဆယ့်ရှစ်နှစ်လောက်ပဲ ရှိသေးတယ်။ အရပ်ပုပု၊ ပိန်ပါးပါး၊ ဆံပင်က လှိုင်းတွန့်ကလေးတွေနဲ့။ မျက်လုံးတွေက စိမ်းစိမ်းမို့ လှသလိုလို ရှိပေမယ့် ပါးစပ်ကတော့ သိပ်မလှဘူး။ ဒါပေမဲ့ ဆွဲဆောင်မှုတော့ ရှိတယ်။

"ဟယ်လို...ကာလို...။ ဟယ်လို...မာရီယို"လို့ သူက မြူးကြွကြွလေသံနဲ့ နှုတ်ဆက်တယ်။ "အမေ သိပ်ဒေါပွနေတယ်။ ဘာပြုလို့လဲ သိလား။ သူက လူရှစ်ယောက်စာ စပါဂက်တီခေါက်ဆွဲကြော်ထားတာ။ အခုတော့ အဖေရယ်၊ ဂျီနိုရယ်၊ အယ်လ်ဖရက်ဒိုရယ်...၊ သူတို့သုံးယောက်က ညစာလာမစားနိုင်တော့ဘူးတဲ့။ ဘောလုံးပွဲ ရှိနေလို့တဲ့။ အဲဒီအထဲမှာ အန်နာမာရီယာကလည်း သူနဲ့ စေ့စပ်ထားတဲ့ ကောင်က ဖိတ်ထားလို့ ဒီကို မလာနိုင်ပြန်ဘူးတဲ့။ ကျွန်မကလည်း အပြင်က ဖိတ်ထားတာ ရှိ

နေလို့ အိမ်မှာ ညစာမစားနိုင်ဘူး။ အခုပဲ အပြင်ထွက်ရတော့မှာ။ အိမ်မှာ ရှင်တို့ သုံးယောက်ပဲ ကျန်ခဲ့မယ်။ အမေစိတ်ဆိုးနေတာက တခြားမဟုတ်ဘူး။ အသားတွေကို သိမ်းထားလို့ ရပေမယ့် စပါဂက်တီတွေကျတော့ သွန်ပစ်ရတော့မဟုတ်လား၊ အဲဒါကြောင့် ဒေါပွနေတာ”

ဖော်စတီနာဟာ စကားကို မရပ်မနားပြောပြီး အနားက ဆိုဖာဟောင်းကြီးပေါ် ထိုင်ချလိုက်တယ်။ ပြီးတော့ ဆက်ပြောပြန်တယ်။ “ဒီမယ်...ကာလို၊ နင်နဲ့ နင့်သူငယ်ချင်းကို ဒီညအိမ်လာဖို့ ဖိတ်တာဟာ အမေက ဖိတ်ခိုင်းလို့ ဖိတ်တာ...။ ငါကတော့ အခုချက်ချင်းပဲ ပြောရမှာပဲ။ နင် ငါ့ကို ဘယ်လိုပဲပြောပြော အလကားပဲ သိလား”တဲ့။

သူ ဘာ့ကြောင့် ဒီစကားမျိုးကို အေးအေးဆေးဆေး ပြောနေနိုင်တာလဲ။ အဲဒါတော့ ကျွန်တော် မသိဘူး။ ဒါပေမဲ့ သူ့စကားကြားရတာ စိတ်ထဲမှာ ပျော်နေတယ်။ ပြီးတော့လည်း သူ အဲဒီစကားတွေကို ပြောနေချိန်မှာ ကာလိုရဲ့ မျက်နှာကို မကြည့်ဘဲ ကျွန်တော့်ကိုသာ ကြည့်ပြီး ပြောနေတာ။ ဗျို။ အဲဒီတော့ ကျွန်တော် မပျော်ဘဲနေပါ့မလား။

ဘာပဲ ဖြစ်ဖြစ်ပေါ့လေ။ ကျွန်တော်နဲ့ ဖော်စတီနာဟာ မျက်လုံးချင်း ဆုံမိကြတယ်။ ကျွန်တော့်စိတ်ထဲမှာ သူကျွန်တော့်ကို ကြည့်နေပုံဟာ တစ်မျိုးပဲ။ အပြုံးကလည်း ကျွန်တော့်အတွက် အားတက်စရာ အပြုံးလို့ ထင်တယ်။ ကာလိုကတော့... “အေးလေ...နင်က ငါ့ကို အလိုမရှိတော့ဘူးဆိုတော့လည်း ငါဘာတတ်နိုင်တော့မှာလဲ”လို့ ညည်းညူတဲ့လေသံနဲ့ ပြောတယ်။



မာတိကာသို့ ▶▶

ဖော်စတီနာကတော့ ဘာကိုမှ အရေးမထားသလိုပဲ။ တခစ်ခစ်နဲ့ ရယ်ပြီး "နင်နောက်တစ်ယောက်ရှာလို့ ရမှာပါ။ ဒါမှမဟုတ်လည်း ရှာလို့ ရချင်မှ ရမှာပေါ့။ ဒါကတော့ ငါ့ကိစ္စမဟုတ်တော့ဘူး။ ငါလည်း စိတ်မဝင်စားတော့ဘူး။ တို့နှစ်ယောက် တွေ့ကြဖို့ဆိုတာကတော့ မဖြစ်နိုင်တော့ဘူး။ ဘာကြောင့်လဲဆိုတော့ နင်နဲ့ တွေ့ရတာကို ငါ စိတ်ကုန်သွားပြီ"လို့ ပြောတယ်။

"နင်က ဘာပြုလို့ စိတ်ကုန်ရတာလဲ။ ငါက နင့်ကို ဘာလုပ်လို့တုံး၊ နင်က ငါ့ကို ဘာကြောင့် ဒီလောက် မုန်းနေရတာလဲ"

ဖော်စတီနာကတော့ သူပြောနေတာကို ဂရုမစိုက်ဘူး။ ဆိုဖာပေါ်က ဖျတ်ခနဲ ခုန်ထလိုက်ပြီး မျက်လုံးစိမ်းစိမ်းတွေနဲ့ ကျွန်တော့်ကို ပြုံးပြီး ကြည့်နေတယ်။ "ငါ နင့်ကို သဘောမကျတာ တခြားမဟုတ်ဘူး။ လူပုံကြီးက ဝဝပြဲပြဲနဲ့ အစားစားဖို့ကလွဲပြီး တခြားဘာမှ မသိလို့ပဲ။ အချိန်ရှိသမျှ နင်စဉ်းစားနေတာက စားဖို့ပဲ။ နင့်အဖို့ စားလေဝလေပဲ။ ငါ့သူငယ်ချင်းတွေက ပြောတယ်။ ငါဟာ ဖာရောက်ဘုရင်ကို လက်ထပ်ရတော့မှာတဲ့။ နင်ပဲ စဉ်းစားကြည့်လေ။ ငါ့အဖို့ကတော့ ဆင်ကြီးတစ်ကောင်ဘေးက သန်းတစ်ကောင်နဲ့ ဘာထူးမှာလဲ။ အဲဒီတော့ ငါဟာ နင့်အတွက် သင့်တော်တဲ့ မိန်းကလေးတစ်ယောက် မဟုတ်ပါဘူး" လို့ ပြောတယ်။

"ငါက နင့်ကို သိပ်ပြီး သဘောကျနေတာကို မစဉ်းစားတော့ဘူးလား"

"ငါကမှ နင့်ကို သဘောမကျတာ..."



မာတိကာသို့ ▶▶

ခင်ဗျားတို့ လူ၀ကြီးတစ်ယောက် ငိုနေတာကို မြင်ဖူးကြသလား။ လူပိန်တစ်ယောက် ငိုတဲ့အခါ ကြည့်ရတာ စစ်မှန်တဲ့ သဘောရှိတယ်။ ဒါပေမဲ့ လူ၀၀တစ်ကောင် ငိုတဲ့အခါမှာတော့ ဟန်ဆောင်ပြီး ငိုနေသလို ပဲဗျ။ ကာလိုဟာ သူ့မျက်မှန်ကို ချွတ်ပြီး သူ့လက်ကိုင်ပ၀ါနဲ့ မျက်နှာကို အုပ်ထားတယ်။ ပြီးတော့ တရှုံ့ရှုံ့ငိုနေတယ်။ အဲဒီတုန်းမှာပဲ ဖော်စတီနာရဲ့ အမေဟာ စပါဂက်တီခေါက်ဆွဲကြော်နဲ့ အချဉ်ရည်တွေ သယ်ပြီး အခန်းထဲ ၀င်လာတယ်။ ကာလိုငိုနေတာ မြင်တော့... "ဘာဖြစ်တာလဲ...ဟဲ့...၊ ကာလို ဘာဖြစ်လို့လဲ"လို့ မေးတယ်။

"မသိဘူးအမေ၊ သူ့ဘာသာသူငိုနေတာပဲ"လို့ ဖော်စတီနာက ပြောပြီး ပခုံးတွေကို တွန့်လိုက်တယ်။ "ငိုရတာ ကောင်းလို့ နေမှာပေါ့ အမေရယ်"တဲ့။ အဲဒီစကားလည်း ပြောပြီးရော ဖော်စတီနာဟာ ဆိုဖာပေါ်ထိုင်နေရာက ထရပ်လိုက်တယ်။ "ကဲ...သွားတော့မယ်၊ နင့်ကို ငါပြောပြီးပြီ၊ ငါ့သဘော ထားကတော့ အဲဒါပဲ။ ငါ့မှာ လုပ်စရာတွေက အများကြီး ရှိသေးတယ်။ အပြင်ကို မထွက်လို့ မဖြစ်ဘူး"

အဲဒီတော့ သူ့အမေက "ဟဲ့...နင်စားစရာရှိတာ စားမသွားတော့ဘူး လား"လို့ မေးတယ်။

"မစားတော့ဘူး အမေရာ။ ပြန်လာမှပဲ စားတော့မယ်။ သမီးဖို့ ချန်ထားပေါ့။ ကဲ...ကာလို...ငါသွားတော့မယ်။ ညစာကို နင်ကောင်းကောင်း စားနိုင်ပါစေ...။ ကဲ...မာရီယို သွားတော့မယ်"တဲ့။ စကားလည်းဆုံးရော ကျွန်တော့်လက်ကို ဆွဲပြီး နှုတ်ဆက်တယ်။ ကျွန်တော့်ကို ကြည့်နေတဲ့ အကြည့်က တစ်မျိုးပဲ။ ပြီးတော့ ကျွန်တော့်လက်ကို ဆွဲထားတဲ့ သူ့

လက်ကလည်း တစ်ခုခုကို အချက်ပေးနေသလိုပဲ။

"အေး...ကောင်းတယ်၊ သိပ်ကောင်းတယ်"လို့ ဖော်စတီနာ့အမေက စိတ်ဆိုးမာန်ဆိုးနဲ့ ပြောတယ်။ "အိမ်မှာ စားမယ့်လူဆိုလို့ နင်တို့ နှစ်ယောက်ပဲ ကျန်တော့တယ်။ လာကြ၊ ထိုင်ကြ၊ မျိုကြဆို့ကြတော့"

"ကျွန်တော် မဆာဘူး"လို့ ကာလိုက ပြောတယ်။ ဒါပေမဲ့ သူ့မျက်လုံးတွေထဲက မျက်ရည်တွေကတော့ ချောက်သွားပြီ။ သူ့အကြည့်ကလည်း ခေါက်ဆွဲကြော်တွေဘက်ကို တစ်ချက်ခိုးကြည့်တယ်။

ကျွန်တော်ကိုယ်တိုင်ကတော့ တကယ့်ကို စားချင်စိတ်ပျောက်သွားတယ်။ ဖော်စတီနာရဲ့ အကြည့်နဲ့ သူ့လက်ချောင်းတွေရဲ့ လှုပ်ရှားမှုကြောင့် ကျွန်တော့်စိတ်ဟာ သိသိသာသာလှုပ်ရှားနေတယ်။ "ကျွန်တော်တို့ မစားတော့ဘဲ အပြင်သွားမယ်ဆိုရင်ကော ဖြစ်ပါ့မလား"လို့ ကျွန်တော်က အရဲစွန့်ပြီး မေးလိုက်မိတယ်။

"ငါချက်ထားတာတွေ အကုန်လုံး သွန်ပစ်လိုက်ရုံပဲ ရှိတော့တာပေါ့" လို့ ဒေါသတကြီးနဲ့ ပြောတယ်။ "ငါကတော့ စားစေချင်လို့ အပင်ပန်းခံပြီး ချက်ပြုတ်ထားတာ၊ နင်တို့က အခုလို လုပ်တော့ ကောင်းရဲ့လား၊ ကဲ... လာစားလှည့်ကြ။ စကားများမနေနဲ့"

"ကျွန်တော်မဆာဘူး"လို့ ကာလိုက တိုးတိုးလေး ပြောတယ်။

အဲဒီအခိုက်မှာပဲ ဖော်စတီနာဟာ အခန်းထဲကို ပြန်ရောက်လာတယ်။ "နင်မဆာဘူးလို့ ပြောတာ ငါ မယုံဘူး။ လာစမ်းပါဟယ် စားစရာရှိတာ စားစမ်းပါ" လို့ ပြောပြီး ဆိုဖာပေါ်မှာထိုင်နေတဲ့ ကာလိုကို ဆွဲခေါ်လာပြီး

စားပွဲမှာ ထိုင်ခိုင်းတယ်။ လက်သုတ်ပဝါတစ်ထည်ကို ယူပြီး သူကိုယ်တိုင် ကာလိုရဲ့ လည်ပင်မှာ ချည်ပေးတယ်။ ဇွန်းနဲ့ ခက်ရင်းကို ကာလို့လက်ထဲ ထိုးထည့်ပေးတယ်။

အဲဒီအချိန်မှာ ဖော်စတီနာရဲ့ အမေဟာ ဒေါသပြေသွားပြီ။ စပါဂက်တီ ခေါက်ဆွဲတွေကို ကာလို့ ပန်းကန်ထဲထည့်ပေးတယ်။ ကာလိုကတော့ "ကျွန်တော်မဆာဘူး"လို့ ပြောနေတုန်းပဲ။ ဘယ်လိုပဲ ဖြစ်ဖြစ် အငွေ့တထောင်းထောင်းထွက်နေတဲ့ ခေါက်ဆွဲနံ့ဟာ သူ့နှာခေါင်းကို ကလိနေပုံပေါ်တယ်။ ခေါက်ဆွဲဖတ်တွေနဲ့ ခရမ်းချဉ်သီးလတ်လတ်ဆတ်ဆတ်တွေရဲ့ အရောင်အဆင်းကလည်း စားချင့်စဖွယ်ကောင်းလှပါတယ်။ ကာလို့ရဲ့ ပါးစပ်ထဲမှာ သွားရည်တွေထွက်နေပုံပေါ်ပါတယ်။ ဒါပေမဲ့ "ကျွန်တော် မဆာဘူး"ဆိုတဲ့စကားကို ပြောနေတုန်းပဲ။ လက်ကတော့ ဇွန်းနဲ့ခက်ရင်းကို အသုံးပြုဖို့ တာစူနေပါပြီ။

"နင့်အကြောင်း ငါသိပါတယ်ကာလိုရယ်၊ နင်ဟာ အစားပုပ်ကောင်ပါ။ မျိုးမှာသာ မျိုစမ်းပါ"လို့ ဖော်စတီနာက ပြောပြီး နောက်ဖေးခန်းဘက် ထွက်သွားပြန်တယ်။

ဖော်စတီနာ့အမေကလည်း ကျွန်တော့်ပန်းကန်ထဲ ခေါက်ဆွဲကြော် ထည့်ပေးပြီး သူ့သမီးနောက်လိုက်သွားတယ်။ ကာလိုဟာ ခေါက်ဆွဲကြော် တစ်ဇွန်းကို ပါးစပ်ထဲ ထိုးသွင်းလိုက်တယ်။ ပြီးတော့ကျွန်တော့်ဘက် လှည့်ပြီး "မာရီယိုရယ်၊ ဖော်စတီနာ့နောက်ကို လိုက်သွားပြီး ငါနဲ့ ပြေလည်သွားအောင် ပြောပေးစမ်းပါ၊ မင်းပြောလိုက်ရင် အဆင်ပြေ..."



မာတိကာသို့ ▶▶

သူဟာ စကားကို ဆုံးအောင် မပြောဘဲ ပါးစပ်ထဲရောက်နေတဲ့ ခေါက်ဆွဲကြော်ကို ပလုပ်ပလောင်းနဲ့ ဝါးနေပါတယ်။ ဝါးနေတုန်းမှာပဲ သူ့မျက်လုံးတွေထဲက မျက်ရည်စတွေဟာ စီးကျနေပါတယ်။ ကျွန်တော်က "အေးကွာ...ငါနဲ့ နှစ်ယောက်ချင်း စကားပြောလိုက်မယ်ဆိုရင်တော့ သူစိတ်ပြေသွားမှာပါ။ မင်းဒီမှာ ထိုင်ပြီး စားစရာရှိတာ စားနေခဲ့။ ငါ အခုပဲ သူ့နောက်လိုက်သွားပြီးပြောကြည့်မယ်"လို့ သူ့ကို ပြောလိုက်တယ်။

ကျွန်တော်ဟာ ဖော်စတီနာရဲ့ အိပ်ခန်းထဲကို လိုက်သွားတယ်။ ဖော်စတီနာဟာ မှန်ရှေ့မှာ ရပ်ပြီး အလှပြင်နေတုန်းပဲ။ ကျွန်တော်က တံခါးကို ပိတ်ပြီး သူ့အနားကပ်သွားတယ်။ သူ့ခါးကို အသာအယာဖက်လိုက်ပြီး "တို့နှစ်ယောက် မနက်ဖြန်ကျရင် တွေ့နိုင်မလား"လို့ ပြောလိုက်တယ်။

သူက မျက်လုံးစိမ်းစိမ်းတွေနဲ့ ကျွန်တော့်ကို လှည့်ကြည့်ပြီး "မနက်ဖြန်မဟုတ်ဘူး။ ဒီနေ့ပဲတွေ့ရမယ်"လို့ ပြန်ပြောတယ်။

"ဒီနေ့...ဟုတ်လား၊ ဘယ်အချိန်လဲ"

"အောက်မှာ ရှိတဲ့ အရက်ဆိုင်ထဲက စောင့်၊ နောက်နာရီဝက်လောက်ဆိုရင် ဆင်းလာခဲ့မယ်"

ကျွန်တော်က ဘာမှ ပြန်မပြောတော့ဘူး။ ကပျာကယာ ထွက်လာခဲ့တယ်။ စားသောက်ခန်းထဲမှာတော့ ကာလိုဟာ ခေါက်ဆွဲတွေကို တဝတပြဲ စားနေပြီ။ သူ့ကြည့်ရတာ အတော်ကြီးကို ခံတွင်းတွေ့နေပုံပဲ။ ပန်းကန်ထဲမှာ ခေါက်ဆွဲကြော်တစ်ဝက်လောက် ပြုတ်နေပြီ။ ကျွန်တော်က "ငါ

စိတ်မကောင်းဘူးကာလို မင်းကောင်မက ငါ့ကို မောင်းထုတ်လိုက်တယ်ကွ”လို့ ခပ်တိုးတိုးပြောလိုက်တယ်။

ကာလိုဟာ ပလုတ်ပလောင်းဝါးနေတဲ့ ခေါက်ဆွဲကြော်တွေကို ကသောကမျော မြိုချလိုက်တယ်။ လက်ထဲက ခက်ရင်းနဲ့ ခေါက်ဆွဲဖတ်တွေ ကို ရစ်နေရာက “အတော်ယုတ်မာတဲ့ မိန်းမရှင်မပဲ၊ ငါ သူ့ကို သိပ်ချစ်တာ၊ အဲဒါလေးတောင် တန်ဖိုးမထားဘူး”လို့ ရေရွတ်တယ်။

ကျွန်တော်ကာလိုရဲ့ ဘေးမှာ ဝင်ထိုင်ပြီး ခေါက်ဆွဲကြော်ကို ဝါးနေတော့လည်း ကာလိုက “ငါ ဒီကောင်မကို ဘယ်တော့မှ အတွေ့မခံတော့ဘူး။ သူက ငါ့ခြေထောက်ကို ဖက်ပြီး အသနားခံရင်တောင် ငါက လက်မခံတော့ဘူး”လို့ ဆက်ပြောနေတယ်။ သူ့ပန်းကန်ထဲ မှာ ခေါက်ဆွဲကြော်က ကုန်သွားပြီ။ ဒါ့ကြောင့်မို့ နောက်ထပ်ခေါက်ဆွဲကြော်တွေကို ဇွန်း၊ ခက်ရင်းနဲ့ ကော်ကော်ပြီး သူ့ပန်းကန်ထဲ ထည့်နေတယ်။

“အေးပေါ့၊ မင်းအခု ပြောတာ သိပ်မှန်တယ်”လို့ ကျွန်တော်က ထောင်ပေးလိုက်တယ်။

နောက်ဆုံးမှာ စားပွဲ အလယ်မှာ ချထားတဲ့ ပန်းကန်စောက်ကြီးထဲက ခေါက်ဆွဲကြော်တွေဟာ ကုန်လုနီးပါးဖြစ်သွားပြီ။ ဖော်စတီနာရဲ့ အမေဟာ အခန်းထဲဝင်လာပြီး ကျွန်တော်တို့ကို ထပ်စားဖို့ တိုက်တွန်းနေတယ်။ နောက်ထပ်ချပေးထားတဲ့ ဝက်ပေါင်ခြောက်ကြော်တွေကို စားဖို့ တိုက်တွန်းနေတာပါ။ “ကျွန်တော်တို့ ဝသွားပါပြီ”လို့ ပြန်ပြောပြီး ထိုင်ရာက ထရပ်လိုက်တယ်။ ကာလိုရဲ့ မျက်နှာကတော့ ဝက်ပေါင်

ခြောက်တွေကို ထပ်ပြီး 'ဝါး'ချင်နေတဲ့ပုံပဲ။

သူဟာ သက်ပြင်းတစ်ချက်ချလိုက်ပြီး သူ့လည်ပင်းက လက်သုတ်ပဝါကို ဖြုတ်လိုက်တယ်။ ပါးစပ်ကို သုတ်လိုက်တယ်။ ထိုင်နေရာက ထရပ်လိုက်တယ်။ နှစ်ယောက်သား ဖော်စတီနာရဲ့ အမေကို နှုတ်ဆက်ပြီး အိမ်ထဲက ထွက်လာကြတယ်။ လမ်းပေါ်လည်းရောက်ရော ကျွန်တော်က "ကဲ...ကာလို ငါသွားတော့မယ်၊ ငါ့မှာ ချိန်းထားတာလေးတစ်ခုရှိလို့ပါကွာ"လို့ ပြောပြီး သူ့အနားက ကပျာကယာလစ်ထွက်လာခဲ့တယ်။

ကျွန်တော်ဟာ ရပ်ကွက်ထဲမှာ တစ်လမ်းဝင် တစ်လမ်းထွက် လျှောက်သွားပြီး အချိန်နည်းနည်း ဖြုန်းလိုက်တယ်။ နာရီဝက်လောက်နီးပါးကြာတော့ အရက်ဆိုင်ကို ရောက်သွားတယ်။ ကျွန်တော့်ကို အသင့်စောင့်နေတဲ့ ဖော်စတီနာက ကျွန်တော့်လက်ကို ဆီးပြီး ဆွဲထားတယ်။ "နင့်ဟာ တော်တော်တုံးတာပဲ။ လူချင်းသိနေတာ ကြာပြီ။ ငါ နင့်ကို သဘောကျနေတာ နင်မရိပ်မိဘူးလား"တဲ့။

ကျွန်တော်သူ့ကို ပြန်ဖြေဖို့ အချိန်မရလိုက်ပါဘူး။ တစ်ယောက်လက် တစ်ယောက်ဆွဲပြီး ဆိုင်ထဲက ထွက်လာခဲ့ကြတယ်။ မုန့်ဆိုင်တစ်ဆိုင်ရှေ့က အဖြတ်မှာ ကာလိုနဲ့ မမျှော်လင့်ဘဲဆုံမိကြတယ်။ သူက ဆိုင်ပေါက်ဝမှာရပ်ပြီး ကိတ်မုန့်ကို စားနေတယ်။ ပါးစပ်ထဲမှာလည်း အပြည့်ပဲ။ နောက်ထပ်ပါးစပ်ထဲ ထိုးသွင်းဖို့ သူ့လက်နှစ်ဖက်နဲ့ မုန့်တွေကိုင်ထားတာ တွေ့ရတယ်။ သူ့ပါးနှစ်ဖက်မှာလည်း ကရင်မ်တွေ ပေနေတယ်။ ကျွန်တော်တို့နှစ်ယောက် လက်ချင်းချိတ်ပြီး လျှောက်လာနေတာကို သူမြင်တယ်။ ဒါပေမဲ့ ဖော်စတီနာကတော့ သူ့ကို လုံးဝဂရုမစိုက်ဘူး။



မာတိကာသို့ ▶▶

နောက်ကို ဖျတ်ခနဲ လှည့်ပြီး "သွားလိုက်ဦးမယ်ကာလိုရေ...တာ့...တာ၊ ဘိုင်...ဘိုင်"လို့ နှုတ်ဆက်လိုက်သေးတယ်။



မာတိကာသို့ ▸▸